# အကျဉ်းစံ

## မောင်ထွန်းသူ




# The Spanish Gardener

By A.J.Cronin

## စာရိုက်သူမှ စကား လက်ဆောင်

စာချစ်သူများ အတွက် အေ၊ ဂျေ၊ ကရိုနင် ရဲ့ ဝတ္ထု များထဲ က ကျနော် အကြိုက်ဆုံး တပုဒ် ကို တင်ပေး လိုက်ပါတယ်...။

မူရင်း စာရေးဆရာများ ဘာသာပြန် စာရေးဆရာကြီးများ နှင့် အခြား စာရေးသူ အားလုံး၏ ဂုဏ်ကျေးဇူးများကို ထာဝရ အမှတ်ရလျှက်...

ရွှေစင်ဦး

http://www.shwezinu.com/




# The Spanish Gardener

by A.J. Cronin

## အကျဉ်းစံ

မြန်မာပြန် - မောင်ထွန်းသူ

## မြန်မာပြန်သူ၏ အမှာ

အေ၊ ဂျေ၊ ကရိုနင် ၏ အကျဉ်းစံသည် အချစ်ဝတ္ထုတပုဒ် ဖြစ်ပါသည်။ သို့သော်လည်း အများရေးနေကျ အချစ်ဝတ္ထုမျိုး မဟုတ်ပါ။ ဖခင်နှင့် သားကြားတွင်ထားရှိသည့် ချစ်ခြင်းမေတ္တာကို ဖွဲ့ဆိုထားသော ဝတ္ထု ဖြစ်ပါသည်။ တနည်းအားဖြင့် အတ္တအားကြီးသူ တဦး၏ ချစ်ခြင်းမေတ္တာကို ဖွဲ့ဆိုထားသော ဝတ္ထု တပုဒ်ဟု ဆိုနိုင်စရာရှိပါသည်။ ဤအချက်သည် ဤဝတ္ထု တပုဒ် ၏ ထူးခြားမှု တခုဟု ပြောရပါလိမ့်မည်။

ဤဝတ္ထုသည် ကရိုနင် အသက်အရွယ်ကြီးခါမှ ရေးသာ ဝတ္ထုတပုဒ်ဟု အဆို ရှိသည်။ ထို့ကြောင့်လားမသိ၊ ဤဝတ္ထုသည် သူရေးခဲ့သမျှသော အခြား ဝတ္ထုများနှင့် မတူပါ။

အခြား ဝတ္ထုကြီးများလို ဇာတ်လမ်း ဇာတ်အိမ် ကြီးမားကျယ်ပြန့်ခြင်းမရှိ။ တခမ်းတနား ဖွဲ့ဆိုသည့်အဖွဲ့အနွဲ့များ လည်းမပါ။ ရိုးရိုးစင်းစင်းနှင့် တိုတိုပြတ်ပြတ် ရှိလွန်းလှပါသည်။ ဤတချက်သည်လည်း ဤဝတ္ထု၏ ထူးခြားမှု တခုဟုပင် ဆိုနိုင်စရာ ရှိပါသည်။

သို့သော်လည်း လူတို့၏ သဘောမနောကို ကောင်းစွာ သိနေသော စာရေးဆရာကြီး တဦးဖြစ်သည့် အားလျော်စွာ လူတို့၏ စိတ်နေ စိတ်ဓာတ်များနှင့် အကျင့်စရိုက်များကို ဖော်ပြရာ၌မူ အလွန်ပီပြင်၍ အသက်ဝင်

http://www.shwezinu.com/



လှသည်ကို သတိထားမိကြပါလိမ့်မည်။ ဤအချက်သည် ဝတ္ထုကောင်း တပုဒ်၏ အင်္ဂါရပ် ကို ဖော်ဆောင်ခြင်းဖြစ်သည်ဟု ထင်ပါသည်။

ဤဝတ္ထုကို စာရေးဆရာကြီး ကရိုနင်က The spanish Gardener စပိန် ဥယျာဉ်မှူး ဟု အမည် ပေးခဲ့သည်။ ရုပ်ရှင်အဖြစ် အသွင် ပြောင်းကြသည့် အခါ တွင်လည်း ဤအမည်ကိုပင် သုံးခဲ့ကြသည်။ သို့သော်လည်း Collier Magazine ကောလီးယား မဂ္ဂဇင်းမှ လစဉ် အခန်းဆက် ဝတ္ထုအဖြစ် ထည့်သွင်းသည့် အခါတွင်မူ The Prisoner ဟူသော အမည်သို့ ပြောင်းလဲ ခဲ့သည်။ ယခု ဤဝတ္ထုကို မြန်မာပြန် သည့်အခါ ကျွန်တော်တို့က အကျဉ်းစံ ဟု ပေးပါသည်။

အကျဉ်းစံနှင့် ပတ်သက်၍ မပြော မဖြစ်သည့် အချက်တချက်မှာ ဇာတ်ကောင် တချို့၏ အမည်များ ဖြစ်ပါသည်။ အင်္ဂလန်နိုင်ငံမှ ထုတ်ဝေသည့် စာအုပ်တွင် ပါရှိသော ဇာတ်ကောင်တချို့၏ အမည်များသည် အမေရိကန်နိုင်ငံ ထုတ် စာအုပ်တွင် ဖော်ပြထားသည့် အမည်များနှင့် မတူပဲ ကွဲလွဲလျက် ရှိပါသည်။ ဘာကြောင့် ထိုကဲ့သို့ ဖြစ်ရသည်ကို ကျွန်တော်တို့ အတိအကျ မသိပါ။ ယင်းကဲ့သို့ အမည်များ ကွဲလွဲ နေသော်လည်း စာရေးဆရာ၏ မူရင်း ဇာတ်လမ်း မှာမူ လုံးဝ အပြောင်းအလဲမရှိပါ။ ဤအချက်ကိုမူ အတိ အကျ ပြောနိုင် ပါသည်။

အကျဉ်းစံသည် လင် နှင့် မယား၊ သား နှင့် အဖ အလုပ်ရှင် နှင့် အလုပ်သမား၊ လူကြီး နှင့် လူငယ်၊ လူဆိုး နှင့် လူကောင်း၊ တရားသူကြီး နှင့် တရားခံ၊ ပုလိပ် နှင့် အကျဉ်းသား၊ ခင်တွယ်ခြင်း နှင့် မုန်းတီးခြင်း၊ ပျော်ရွှင်ခြင်း

http://www.shwezinu.com/



နှင့် ပူဆွေးခြင်း၊ မာန နှင့် အာဃာတ၊ လွတ်လပ်ခြင်း နှင့် အနှောင်အဖွဲ့၊ အများ နှင့် အမှန်၊ သေခြင်း နှင့် ရှင်ခြင်း စသည့် လူ့လောက လူ့ အဖွဲ့အစည်းအတွင်းရှိ လူတစ်၏ အားပြိုင်မှု အမျိုးမျိုးကို ဖွဲ့ဆိုထားသော ဂတ္တုကြီးတပုဒ် ဖြစ်ပါသည်။

သို့ဖြစ်ရာ စာဖတ်သူများ အနေဖြင့် ရာထူးကြီးသည် ဖြစ်စေ ငယ်သည် ဖြစ်စေ၊ ပညာတတ်သည် ဖြစ်စေ၊ မတတ်သည် ဖြစ်စေ၊ ချမ်းသာသည် ဖြစ်စေ ဆင်းရဲသည် ဖြစ်စေ လူသည် လူလျှင်သာ ဖြစ်သည်ဟူသော အချက်ကို ဤအားပြိုင်မှုများ ကြား၌ ရှာဖွေ တွေ့ရှိကြလိမ့်မည်ဟု ထင်ပါသည်။

**မောင်ထွန်းသူ**

၁၉၈၄-ခု၊ နိုဝင်ဘာလ ၁၆ ရက်။

+++++++

http://www.shwezinu.com/

**အခန်း (၁)**

ယမန်နေ့ညက ပြင်သစ်နိုင်ငံ ပါရီမြို့မှ လာခဲ့ရသော ခရီးမှာ ပင်ပန်းလွန်းလှချေသည်။ မီးရထားလမ်း ဆုံရာဖြစ်သော စပိန်နိုင်ငံ နယ်စပ်ရှိ ပို့တ်ဘောင်းမြို့သို့ ဆိုက်ရောက်သောအခါ ခရီး မကြန့်ကြာသင့်ပဲ ကြန့်ကြာခဲ့ရသဖြင့် သူတို့မှာ အချိန်မိနစ်လေးဆယ်မျှ နောက်ကျခဲ့ရ၏။ ထိုကဲ့သို့ အဆင်မပြေ ဖြစ်ရသည့် အထဲတွင် ပစ္စည်းအသယ်အချ လုပ်သူ တဦးသော အလုပ်သမား၏ လုပ်ပုံကိုင်ပုံ နေးကွေး လေးလံမှုကြောင့် ဘာစီလိုးနား မြို့မှနေ၍ သူတို့ဆက်စီးရမည့် မနက် ရထားကို မမီပဲ ဖြစ်ခဲ့ရသည်။

ယခု သူတို့ ကော်စတာဘရားဗားမှ ထွက်သော မီးရထားပေါ် ရောက်နေသည့် ညနေ ငါးနာရီ ထိုးခါနီး အချိန်တွင်မူ သူတို့မှာ ပင်ပန်းနွမ်းနယ်လျက် ရှိကြလေပြီ။ အဂတ်အစားများ မှာလည်း ညစ်ပတ် ပေရေလျက် ရှိနေကြပြီ ဖြစ်၏။ အလုပ်သမားလိုသလောက်ငှားမရခြင်းနှင့် ခေတ်မီ စက်ကိရိယာ ပစ္စည်းချို့တဲ့ခြင်း တည်းဟူသော အခြေအနေမျိုးနှင့် ရင်ဆိုင်ရသည့် အခါတိုင်း ကောင်စစ်ဂန်သည် စိတ် အနှောင့်အယှက် ဖြစ်ရတတ်သည်။

ယခုလည်း သူ့စိတ်သည် မကြည်မလင် ဖြစ်လျက် ရှိ၏။ သူသည် ညစ်ပတ်ပေရေလျက် ရှိသော ရထားတွဲထောင့်တွင် တောင့်တောင့်မတ်မတ်ကြီး ထိုင်နေရာမှ သူ့ရှေ့တည့်တည့် သစ်သားခုံပေါ်၌ ထိုင်ပြီး သူ့အား မပုံမရဲ



http://www.shwezinu.com/

အမူအရာဖြင့် တလေးတစား လှမ်းကြည့်နေသော သူ့သားငယ်အား မျက်မှောင်တချက်ကုပ်၍ ကြည့်သည်။ ရထားတွဲ အတွင်း၌ ရှိနေသော လေမှာ သန့်ရှင်းလတ်ဆတ်မှု ကင်းမဲ့လှချေသည်။ ကြက်သွန်ဖြူနံ့များ နှင့် ချဉ်စုတ်စုတ်အောက်သိုးသိုး အနံ့များသည် လေထဲတွင် ပျံ့လွင့် နေလျက်ရှိသည်။ ကောင်စစ်ဝန်သည် သူ့သားငယ်၏ မျက်နှာကို စိုးရိမ်မကင်းသော မျက်နှာထားဖြင့် ကြည့်နေရာမှ စောစောက မေးခဲ့ပြီး ဖြစ်သော မေးခွန်းကိုပင် တတိယအကြိမ် ထပ်မေးပြန် သည်။

' မင်း ဘာမှမဖြစ်ပါဘူး နော်၊ နီကိုလတ်စ် '

' ဘာမှ မဖြစ်ပါဘူး ... ဖေဖေ '

ဆောင့်ကြီးအောင့်ကြီးနှင့် ခုန်ပေါက် ပြေးသွားနေသော မီးရထားသည် ခပ်ကြမ်းကြမ်း ချိုးကွေ့သွားသည်။ နှစ်ဦးစလုံးတဘက်သို့ ယိမ်းထိုးသွားကြသည်။ မီးရထားသည် စူးရှသော ဥဩသံကို တချက် ပေးလိုက်ကာ လူသူလေးပါး ကင်းမဲ့ပြီး တိတ်ဆိတ် ခြောက်သွေ့လျက်ရှိသော ဆန်ဂျော်ဂျီဘူတာရုံ အတွင်းသို့ ဝင်ရောက် လာခဲ့လေ၏။

ကောင်စစ်ဝန်သည် နီကိုလတ်စ်၏ လက်ကိုဆွဲကာ ရထားတွဲပေါ်မှ ဘူတာ ပလက်ဖောင်းပေါ်သို့ ဆင်းလိုက်သည်။ ဘူတာ ပတ်ပတ်လည်ရှိ ဆီအုန်းပင်များဆီမှ ယပ်တောင်နှင့်တူသော အရွက်များသည် လေတိုးတိုင်း လှုပ်ယမ်း အော်မြည်လျက် ရှိကြသည်။ ပထမတော့ သူတို့အား လာကြိုသူ မရှိဟုသော အတွေးဖြင့် ကောင်စစ်ဝန်၏ မျက်ခုံးနှစ်ဘက်သည် ကုပ်ကျ

http://www.shwezinu.com/



သွားသော်လည်း ချက်ချင်းပင် သူ့မျက်လုံး အစုံ သည် ကြည်ကြည်လင်လင် ပြန်ဖြစ်သွားသည်။

ဘူတာ အဝင်တွင် မီးခိုးရောင် မော်တော်ကားတစီး။ စက်ခေါင်း အဖုံးထိပ်၌ စိုက်ထူထားသော အမေရိကန် အလံငယ်သည် လေတွင် တဖျပ်ဖျပ်။ ကားဘေးတွင် ချည်ထည် ဂုတ်စုံကို သေသပ်ကျနစွာ ဂုတ်ဆင် ထားသော လူရွယ်တဦး ရပ်လျက်။ ဂုတ်စုံသည် လျှော်ရဖန်များ၍ တွန့်သည့် နေရာတွန့်၍ ကြေသည့်နေရာက ကြေလျက်ရှိ၏။ လည်ပင်းတွင် ဘိုးတိုင် တပ်ထားသည်။ ခေါင်းတွင် အဂါရောင် ကောက်ရိုး ဦးထုပ် ဆောင်း ထားသည်။ ရထားပေါ်မှ ဆင်းလာသည့် ခရီးသည်နှစ်ဦးကို မြင်လိုက်သောအခါ တွန့်ဆုတ်သော အမူအရာဖြင့် လျှောက်လာသည်။ သူ့နောက်မှ ကပ်လိုက် လာသူမှာ ယာဉ်မောင်း...။

' မစ္စတာ ဟာရင်တန်ဘရန်းဒီး ဖြစ်လိမ့်မယ် ထင်ပါတယ် ... ခင်ဗျာ၊ တွေ့ရတာ အလွန်ဂမ်းသာပါ တယ်ခင်ဗျာ၊ မနက်ရထားနဲ့ ပါလာလိမ့်မယ် ထင်လို့ ကျွန်တော်တို့ လာကြိုခဲ့ပါသေးတယ်၊ ကျွန်တော့် နာမည်က အေလ်ဗင်ဘာတန်ပါ ခင်ဗျ၊ ကျွန်တော် ရုံးဂန်ထမ်း တယောက်ပါ '

သူသည် ယာဉ်မောင်းဘက်သို့လှည့်လိုက်သည်။ ယာဉ်မောင်းသည် အသား ညိုမောင်းမောင်း၊ ကိုယ်လုံး တုတ်ခိုင်ခိုင် နှင့် စပိန်လူမျိုး တဦး။ အယ်လ်ပါကား ဂျက်ကက် အကျႌနှင့် ချည်ဘောင်းဘီရှည် ဂုတ်ထားသည်။ စီးထားသည့် ရှူးဖိနပ် ဦးချွန်သည် အညိုနုရောင်။

http://www.shwezinu.com/



' ကဲ ... ဂရေစီယာ...၊ ရထားပေါ်က ပစ္စည်းတွေ ချကြစို့ '

မသာမယာ ဖြစ်နေသော ဘရန်ဒီး၏စိတ်သည် မော်တော်ကားကို ကြည့်ပြီး အနည်းငယ် ပြေသွားသယောင် ရှိသည်။ မော်တော်ကားမှာ အဆင့်အတန်း မြင့်သော ပီးရပ်စ်အဲရိုး အမျိုးအစားကား ဖြစ်သည်။ ပွတ်တိုက် သုတ်သင် ထားသည်မှာ ဂင်းလက် တောက်ပြောင် နေသည်။

တာယာ များကလည်း အသစ်။ ထိုင်ခုံကူရှင်များနှင့် ကူရှင် အဖုံးများ ကလည်း အသစ်။ ရထားပေါ်မှ ပစ္စည်းများ သယ်ချ နေခိုက်တွင် သူသည် ဘေးမှရပ်၍ ကြည့်နေသည်။ အရပ်က ထောင်ထောင် မောင်းမောင်း။ ကိုယ်လုံး ကိုယ်ထည်က တောင့်တောင့်။ သူ့ကိုယ်ခန္ဓာသည် ရှေ့သို့ ယောင်ယောင် ကလေး ကိုင်းညွတ် နေသည်။ ခပ်သွယ်သွယ် မျက်နှာ၏ အသွေးအရောင် သည် ဂါဖန့်ဖန့်။ နာခေါင်းဘေး တဘက်တချက်တွင် ထင်ရှားသော အရေးအကြောင်းများ။

မျက်နှာထားက ပျော့ပျောင်းသည်ဟုလည်း မဆိုသာ တင်းမာလွန်းသည် ဟုလည်း မပြောနိုင်။ ရင့်ကျက် တည်ငြိမ် ပြီး အေးဆေးခန့်ညားသော အသွင်အပြင် ရှိသည်။ သူ့လက် အောက်ဂန်ထမ်းများရှေ့ ရောက်လျှင် ဤ မျက်နှာမျိုးကို သူ အမြဲထားလေ့ရှိသည်။ မြင်ရုံမျှဖြင့် ရိုသေ ခန့်ညားရသည့် မျက်နှာထား။

'အိမ်ကိုလည်း နှစ်သက်လိမ့်မယ်လို့ ကျွန်တော် မျှော်လင့်မိ ပါတယ်ခင်ဗျာ' ဟု အေလ်ဗင်က ပြော သည်။

http://www.shwezinu.com/



'မစ္စတာတင်းနေး က သူ့အစေခံတွေ အားလုံးကို ခေါ်သွားပါတယ်၊ ဒါပေမယ့် ...ကျွန်တော် ကိုယ်တိုင် လူကောင်း သူကောင်း တစုံတွဲကို မရ ရအောင် ရှာပြီး ငှားထားပါတယ်၊ ဂရေစီယာက ယာဉ်မောင်းတာဝန်နဲ့ ဘဏ္ဍာစိုး တာဝန်ကို ယူပါလိမ့်မယ်'

အေလ်ဗင်၏ အသံသည် တိုးသွားသည်။

'သူ့ လုပ်ရည်ကိုင်ရည်နဲ့ အကျင့်စာရိတ္တ အတွက် ထောက်ခံစာတွေလဲ ရှိပါတယ်၊ ပြီးတော့ သူ့မိန်းမ မက်ဂ်ဒါလီးနားဟာ အကောင်းဆုံး ထမင်းချက် တယောက်ပါ ခင်ဗျ '

ဟာရင်တန် ဘရန်းဒီးက ခေါင်းတချက် ညိတ်လိုက်သည်။

' တို့ သွားဖို့ အသင့်ဖြစ်ပြီလား '

' ဟုတ်ကဲ့ပါခင်ဗျ၊ အသင့်ဖြစ်ပါပြီ ' ဟု အေလ်ဗင်က ကသောကမျော ရေရွတ်သည်။

သူတို့ အားလုံး ကားထဲသို့ ဝင်ကြသည်။ မော်တော်ကား စထွက်သည့် အချိန်မှ စ၍ ကောင်စစ်ဝန်၏ မျက်လုံးများသည် ဘေးပတ်ဝန်းကျင်ရှိ မြို့ အနေအထားကို ကြည့်လာသည်။ လက်တဘက်က သူ့သားငယ်ကို ပွေ့ပိုက် ထားသည်။ သူ့သားငယ်၏ သေးသွယ်လှပသော လက်ချောင်း ကလေးများ သည် အဆီပြန်လျက်ရှိ၏။ အခု သူရောက်လာသော နေရာ ဒေသတွင် သူ

http://www.shwezinu.com/



စက်ဆုပ် မုန်းတီးသော ရာသီဥတုမျိုးတော့ ရှိလိမ့်မည် မဟုတ်ဟု သူ တွေးသည်။

ပင်လယ်ပြင် ပေါ်မှ ဖြတ်သန်းလာနေသော လေသည် သန့်စင် လတ်ဆတ် သည်။ ကွေ့ကွေ့ကောက်ကောက် နိုင်လွန်းလှသော ကမ်းနား လမ်းမကြီးသည် တချို့နေရာများတွင် မညီမညာ ရှိနေသော်လည်း သန့်ရှင်း သည်။ လမ်းမ၏ ဘေး တဘက်တချက်တွင် ဖြူဖွေးလှပသော သဲပြင်သည် ဘောင်ခတ် ထားသည့်နယ် တည်ရှိနေသည်။ ထိုသဲပြင်များနှင့် လမ်း မီးတိုင်များ ကြားတွင် လူအများ အညောင်းအညာပြေ လမ်းလျှောက်ယင်း လေညင်း ခံနိုင်သည့် လူသွား လမ်းများ ရှိသည်။

တဖြည်းဖြည်းချင်း ဆုတ်ခွာစ ပြုနေပြီဖြစ်သော ဖေဖော်ဝါရီလ နေရောင်ခြည် သည် ဖြာဆင်းလျက်ရှိ၏။ အပန်းဖြေရာ ပန်းခြံ အတွင်းဂယ် ပန်းမျိုးစုံ သည် အစွမ်းကုန် ဖူးပွင့်နေကြပေသည်။ ပန်းခြံ၏ အလယ်တွင် ရေပန်းတခု။ ထိုရေပန်း၏ တဘက်တွင် တေးဂီတ ဖြေဖျော်ရာ စင်တခု။ စင်၏ တဘက်ရှိ ခုံတန်းရှည်များ ပေါ်ဂယ် လာဂေစီးတား သတင်းစာ ဖတ် နေကြသော အဘိုးအိုများ။ ယင်းတို့နှင့် မနီးမဝေးတွင် အလွန် ခေတ်မမီ တော့သည့် ဘတ်စ်ကား တစ်စီး။ ထိုကားပေါ်မှ ခရီးသည်များ ဆင်း လာလျက် ရှိကြ၏။

ကောင်စစ်ဝန်၏ အမြင်အာရုံတွင် သာယာလှပသော လူ့ဘဝဖြစ်စဉ် တခုသည် အသက်ဝင် လှုပ်ရှားလျက် ရှိလေသည်။ လမ်းတဘက်တွင်မူ

http://www.shwezinu.com/



ပန်းနရောင် သုတ်ထားသော ဘုရားရှိခိုးကျောင်း။ ကျောင်း၏ ခေါင်မိုး တဘက်တချက်တွင် မျှော်စင်နှစ်ခု ရှိသည်။ ထိုစင်နှစ်ခု၏ အလယ် တည့်တည့်တွင် ခေါင်းလောင်းစင်။ ထိုစင်၏ အပေါ်ဘက်တွင် အရောင် မှေးမှိန်လျက်ရှိနေပြီဖြစ်သော လက်ဝါးကပ်တိုင်။ ဘုရားရှိခိုးကျောင်း နှင့် မျက်နှာချင်းဆိုင်တွင် စတိုးဆိုင် တဆိုင် နှစ်ဆိုင် ရှိသည်။ အီးလ်ချန်တာကိုးဟု အမည်ပေးထားသော စားသောက်ဆိုင် တခုလည်းရှိသည်။ ထိုလမ်းကို လွန်သော် သဘော်ဆိပ်ဘေးရှိ အရောင်းအဝယ် စည်ကားရာရပ်ကွက်။ ကောင်စစ်ဝန် ရုံးသည် ဤရပ်ကွက်အတွင်း၌ တည်ရှိလေသည်။

သူ၏အလုပ် အများဆုံး တည်မှီရမည် ဖြစ်သော သဘော်ကျင်းကို ကြည့်ရသည်မှာ အားတက်စရာမရှိ။ အပေါ်ယံ အသွင်အပြင်ကို မြင်ရုံမျှဖြင့် စိတ်ပျက်စရာ ကောင်းနေသည်။ ဘယ်နေရာကို ကြည့်ကြည့် တိတ်ဆိတ် ခြောက်သွေ့ လွန်းလှ၏။ တက်ကြွသော အသက်ဝင် လှုပ်ရှားမှုသည် ကင်းမဲ့ လှချေသည်။ စိတ်ဝင်စားစရာ ကောင်းလောက်သည့် ကူးသန်းရောင်းဝယ်မှု လုပ်ငန်းမျိုး ရှိလိမ့်မည်ဟု သူ မထင်။ ဤဒေသမှ သားရေနယ် ပစ္စည်းများ၊ ဓာတ်မြေသြဇာများ၊ သံလွင်ဆီများနှင့် နာမည်ကြီး တာရာရိုးနား ပုန်းရည် မှတပါး အခြား ထူးခြားသည့် ကုန်ပစ္စည်းများလည်း တင်ပို့ ရောင်းချစရာ ရှိလိမ့်မည် မထင်။

ဆိပ်ခံ တံတားတွင် တံငါလှေကြီး နှစ်စီးနှင့် မီးသဘော်တစီး သာလျှင် ဆိုက်ကပ် ထားသည်။

http://www.shwezinu.com/



မီးသဘော်မှာ ပင်လယ်ကူး သဘော်မဟုတ်။ ပြည်တွင်း ကမ်းရိုးတန်း သွား သဘော် တစီးမျှသာ ဖြစ်၍ သံချေး အထပ်ထပ် တက်နေ သဖြင့် အရောင်အဆင်းပင် မပေါ်နိုင်တော့ပေ။ မီးသဘော်ပေါ်မှ စည်ပိုင်းများကို အလွန် ခေတ်မမီတော့သည့် စက်သီးတခုဖြင့် အောက်သို့ ချ ပေးလျက် ရှိသည်။ အောက်သို့ ရောက်လာသည့် စည်ပိုင်း များကို မြည်း သုံးကောင်က တဆင့် သယ်ယူ ပို့ပေးလျက်ရှိ၏။ ဤလုပ်ငန်းခွင်တွင် သဘော်သား တချို့သည် ပျင်းရိ လေးတွဲ့စွာဖြင့် လုပ်ကိုင်လျက် ရှိကြ လေသည်။

ယခင်က ပေါ်နေကျဖြစ်သော နာကျည်းစိတ်သည် သူ့ရင်ကို ပြင်းထန်စွာ ရိုက်ခတ် လာပြန်သည်။ အခုလို အသက် လေးဆယ့်ငါးနှစ် အရွယ်ကျခါမှ ဘာကြောင့် သူ့ကို ချောင်ထိုးကြလေသနည်း။ သူ သည် နှစ်ပေါင်း ဆယ့်ငါးနှစ် တိတိမျှ ဥရောပတိုက် အတွင်းရှိ နိုင်ငံ အတော်များများ၌ တာဝန်ထမ်း ဆောင်ခဲ့ရသည်။ တာဝန် ထမ်းဆောင်ရာ၌ သူများလို ပေါ့ပေါ့တန်တန် လုပ်ကိုင်ခဲ့သည်မ ဟုတ်။ စိတ်ရောကိုယ်ပါ ကြိုးစား အားထုတ်၍ လုပ်ခဲ့ခြင်း ဖြစ်သည်။

လုပ်ရည် ကိုင်ရည် ကျတော့လည်း သူများထက် သာခဲ့သည်။ သူ့ ဥပမိရုပ် နှင့် သူ့အစွမ်းအစ အရသာ စကားပြောကြတမ်း ဆိုလျှင် သူသည် အမြင့်ဆုံးသော ရာထူးတခု ရဖို့ရှိသည်။ လုပ်သက် တခုတည်းနှင့်ပင် သူသည် ပါရီ သို့မဟုတ် ရောမ သို့မဟုတ် လန်ဒန်လို နေရာမျိုး၌ အမြင့်ဆုံးသော ရာထူး တခုဖြင့် တာဝန် ထမ်းဆောင် ရဖို့ရှိသည်။

http://www.shwezinu.com/


ထိုကဲ့သို့သော အခွင့်အရေးမျိုး ရှိနေပါလျက်နှင့် သူ့အား ဘာအလုပ်မှ မည်မည်ရရ မရှိနိုင်သည့် ဤဒေသသို့ ပို့ခဲ့ကြ၏။ လွန်ခဲ့သော ဆယ့်ရှစ်လ အတွင်းကဆိုလျှင် သူသည် ပြင်သစ်နိုင်ငံ အာဗီးလီး၌နေ၍ နော်မန်ဒီ ကမ်းခြေ တလျှောက်ရှိ နံ့မြေများကြားတွင် လျှောက်သွားယင်း ဤတကြိမ် သူ ပြောင်းရွှေ့ရမည့် နေရာသည် သူနှင့် အထိုက်တန်ဆုံးသော နေရာ ဒေသကောင်း တခု ဖြစ်လိမ့်မည်ဟု မျှော်လင့်ခဲ့မိ၏။ ထို့နောက် ထွက်လာသည့် အမိန့်က ဆန် ဂျော်ဂျီ။ အဆိုးဆုံးသော နေရာတခု။ ဤနေရာ၌ တာဝန် ကျခဲ့သော တင်းနေးသည် လုပ်သက်အားဖြင့် ယှဉ်လိုက်လျှင် သူ့ထက် လုပ်သက် သုံးနှစ်ငယ်သည်။ သို့သော်လည်း တင်းနေးအား ပထမတန်း ကောင်စစ်ဝန် ရာထူးသို့ တိုးမြှင့်ပေးပြီး မက်ဒရစ်မြို့ရှိ လေတွန် ဘေးလီး လက်အောက် သို့ ပြောင်းရွှေ့ပေးခဲ့ကြသည်။ သူ့ ကျတော့။

' ဟိုမှာ ကြည့်ပါဦး ဖေဖေ ၊ သိပ်လှတာပဲ '

မော်တော်ကားသည် မြို့ပြင်သို့ ရောက် လာသည်။ မက်စောက် ကွေ့ကောက်ပြီး သဲထူထပ်သော တောင်ကုန်းလမ်း အတိုင်း တက်လာသည်။ ငွေရောင် တောက်နေသော ယူကလစ်ပင်များသည် လမ်း၏ တဘက် တချက်တွင် အစီအရီ တန်းလျက် ရှိကြ၏။ တောင်ကုန်းထိပ်သို့ ရောက်သောအခါ နီကိုလတ်စ်သည် လှုပ်လှုပ်ရှားရှား ဖြစ်လာသည်။ ပတ်ဝန်းကျင် တွင် စိတ်ဝင်စားလာသည်။ သူသည် အောက်ဘက်မှ ရှုခင်း အလှ ကို လက်ညှိုး ထိုးပြပြီး သူ့အဖေအား လှမ်းပြောသည်။

http://www.shwezinu.com/

မြေထဲပင်လယ် ဒေသ၏ အပြောကျယ်လှသော ရေပြင်သည် တောင်ကုန်း ခြေရင်း မှနေ၍ သူတို့အား မော့ကြည့်နေသကဲ့သို့ ရှိသည်။ ခပ်လှမ်းလှမ်းရှိ မီးပြတိုက်ဆီသို့ တလိပ်လိပ်ပြေးသွားရိုက်ခတ်နေ သော ပင်လယ်လှိုင်း များသည် ဖွေးဖွေးလှုပ်လျက်ရှိ၏။ မြောက်ဘက်တလွှားတွင် တတောင် ပေါ် တတောင် ဆင့်နေသည့် တောင်တန်းများသည် ပြာသော ကောင်းကင်ဆီသို့ ထိုးတက် လျက်ရှိကြလေသည်။ လေနှင့်အတူ ပါလာ နေသည့် ဆားနံ့သည် ပြင်းထန် စူးရှလှပေသည်။ သူတို့ ရှေ့တည့်တည့်တွင် ထိကရုံးချုံကြီး တခုနှင့် ကွယ်လုလုဖြစ်နေသော နီရဲရဲ အုတ်ကြွပ်များ မိုးထားသည့် အိမ်ကြီးတလုံးသည် မားမားမတ်မတ်ကြီး ရပ်လျက် ရှိသည်။ အိမ်ကြီး၏ အမည် 'ကင်ဆာဘရီဇာ'ဟူသော ဆိုင်းဘုတ်သည် အိမ်အဝင်ဝတွင် ချိတ်လျက်။

'မင်း သဘောကျရဲ့လား'

အေလ်ဗင်ဘာတန်က နီကိုလတ်စ်အား လှည့်ကြည့်ပြီးမေးသည်။ မေးသံ တွင် သူလိုချင်သော အဖြေ ရတန်ကောင်းရဲ့ဟူသော မျှော်လင့်ချက်ကလေး ပါသည်။ စိုးရိမ်ကြောင့်ကြမှု ကလေးလည်း မသိမသာ ရောစွက်နေပုံရ၏။ နီကို လတ်စ်က အဖြေမပေး။ သို့သော်လည်း အခု သူမြင်နေရသော အိမ်သည် သူ့အိမ်သစ်ဖြစ်ကြောင်း နားလည်နေသည်။ နီကိုလတ်စ်သည် အသက်ကိုးနှစ် မျှသာ ရှိသေးသော်လည်း ထိုကိုးနှစ်တာ ကာလအတွင်း အပြောင်းအလဲ များစွာနှင့် ကြုံခဲ့ရဖူးပြီ။

http://www.shwezinu.com/

ထို့ကြောင့်လည်း သူ့တွင် အံ့ဩတတ်သည့် အလေ့အကျင့်ပင် မရှိသလောက် ဖြစ်နေခဲ့ရပြီ။ ဤကြားထဲမှပင် ထည်ဝါခန့်ညားသော အသွင်ဖြင့် တလုံးတည်း တသီးတခြားခွဲ၍ ထီးတည်းကြီး တည်ရှိ နေသော အိမ်ဟောင်းကြီး အပေါ်တွင် စိတ်မဝင်စားပဲ မနေနိုင်။ ကောင်စစ်ဝန် ကိုယ်တိုင်ပင်လျှင် သူ့ သားငယ် နီကိုလတ်စ်ကဲ့သို့ ခံစား ရဟန်တူ၏။ ကျောက်စရစ်ခင်း လမ်းအတိုင်းဝင်လာပြီး အိမ်ရှေ့ရောက်၍ ကားပေါ်မှ ဆင်းလာချိန်တွင် သူ့မျက်နှာသည် အိမ်ကြီး အပေါ်၌ စိတ်ဝင်စားသည့် လက္ခဏာကို ဖော်ပြလျက် ရှိလေသည်။

အိမ်ကြီးကို ဒေသခံ သဲကျောက်များဖြင့် ဆောက်လုပ်ထားခြင်းဖြစ်သည်။ နှစ်ကာလ ကြာခဲ့ပြီ ဖြစ်၍ အဝါရောင် ကျောက်များသည် မူလ အရောင်ပျောက်ကာ ပယင်းနရောင် ဖျော့ဖျော့ ဖြစ်နေသည်။ အိမ်ပုံစံက မူးရစ်ပုံစံ။ အိမ်ရှေ့ဆင်ဝင်သည် ကျယ်ဝန်းသည်။ ဆင်ဝင်အမိုးမှာ လိပ်ခုံးအမိုး။ အိမ်ခေါင်မိုးသည် ပြန့်ပြူးသည်။ အိမ်အပေးထပ်မှ ပြတင်းပေါက် တံခါးများသည် ကျယ်ဝန်းလှသော လသာဆောင်ဘက်သို့ ထိုးထွက် နေကြသည်။ အိမ်၏ ဗယ်ဘက်တွင် ကျောက်စရစ်ခင်း လူသွား လမ်းကလေး ရှိသည်။ ရေညှိများ ထူထပ်စွာ တက်လျက် ရှိသဖြင့် တလမ်းလုံး စိမ်းလျက် ရှိ၏။ ထိုလမ်းသည် မြင်းဇောင်းများနှင့် အိမ်နောက်ဘက် အဆောက်အအုံများ ဆီသို့ သွားရာလမ်းဖြစ်၏။ လမ်း၏တဘက်တွင် ပန်းခြံ။

'အိမ်ကတော့ အိမ်အိုအိမ်ဟောင်းကြီးပဲခင်ဗျ ' ဟု အေလ်ဗင်က သူ့အထက်အရာရှိ ကောင်စစ်ဝန်၏ မျက်နှာကို တချက်အကဲခတ်၍ ပြောသည်။

http://www.shwezinu.com/



'တချို့နေရာတွေ ဆိုယင် ပြန်ပြင်လို့ တောင်မရတော့ဘူး၊ လျှပ်စစ်ဓာတ်အား လဲမရဘူး၊ ဓာတ်ငွေ့အားပဲရတယ်၊ ဒါပေမယ့် မစ္စတာတင်းနေး ကတော့ ဒီအိမ်ကြီးကို သူရတာဟာ အင်မတန် ကံကောင်းတယ်လို့ ယူဆခဲ့ပါတယ်၊ ကျွန်တော်တို့ ရုံးအနီးအနား တပိုက်မှာ အိမ်ငှားရဖို့က မလွယ်ဘူး၊ ကျယ်ကျယ်ဝန်းဝန်းနဲ့ တခမ်းတနား ရှိတဲ့ အိမ်မျိုးက ဒီဘက်မှာပဲ ရနိုင်တယ်၊ ဒါကြောင့်မို့ ...'

'ဒါပေါ့လေ' ဟု ကောင်စစ်ဝန်က ပြန်ပြောသည်။

သူသည် ဆင်ဝင်အောက်မှ ဖြတ်၍ အိမ်တံခါးဆီသို့ လျှောက်သွားသည်။ အနက်ရောင် အဝတ်အစားများကို သပ်သပ်ရပ်ရပ် ဝတ်ဆင်ထားသော ကိုယ်လုံးကိုယ်ပေါက် ခပ်တောင့်တောင့် အမျိုးသမီးတယောက်သည် တံခါးဝ မှရပ်၍ သူတို့အား အပြုံးဖြင့် ဆီးကြိုလျက် ရှိသည်။ အေလ်ဗင်ဘာတန်က ထမင်းချက် မက်ဂ် ဒါလီးနား ဖြစ်ပါသည်ဟု မိတ်ဆက်ပေးသည်။

အိမ်အတွင်းဘက်မှ ရောင်စုံကျောက်သလင်းများဖြင့် မွမ်းမံ ခြယ်လှယ်ထားသော ခန်းမကြီးသည် ကောင်စစ်ဝန် အား ဆီးကြိုလျက်ရှိသည်။ ခန်းမကြီးသည် ကျယ်ဝန်းအေးမြလှပေသည်။ ခန်းမကြီး၏ တဘက် တွင် ထမင်းစားခန်း။ ထမင်းစားခန်းနှင့် တွဲလျက် အခန်းမှာ ဧည့်ခံခန်းမကြီး ဖြစ်၏။

နှစ်ခန်းစလုံး တံခါးနှစ်ထပ် တပ်ဆင်ထားသည်။ အခန်းများ အတွင်းရှိ အပြင်အဆင်၊ အခင်းအကျင်းနှင့် အထားအသို များသည် ထည်ဝါ ခန့်ညားပြီး

http://www.shwezinu.com/



လှပ နေပေသည်။ နောက်ဘက်တွင် ကွေ့ကွေ့ကောက်ကောက် တက်သွားနေသော သစ်ချသား လှေကား။

ခရီးပန်းလာသဖြင့် နွမ်းနယ်နေပြီဖြစ်သော ကောင်စစ်ဂန်သည် စိတ်မပါ့တပါဖြင့် လှေကားမှ ဖြည်းလေးစွာ တက်သွားပြီး အပေါ်ထပ်မှ အခန်းများကို လှည့်လည်ကြည့်ရှုသည်။ သူနှင့် သူ့သား အတွက် အခန်းနှစ်ခန်း အပြင် အခန်းပိုတွေ အများကြီးရှိသည်။ ညဥ့်အိပ်ညဥ့်နေလာသော ဧည့်သည်များအတွက် ပူစရာမရှိ။ သူသည် ထည်ထည်ဂါဂါနှင့် တခမ်းတနား နေထိုင်သော အလေ့အထတွင် စွဲမြဲလာသူဖြစ်သည့်အားလျော်စွာ အိမ်ကြီးကြီး အခန်းများများ ရှိနေခြင်းကို သဘောကျသည်။ စားပွဲ။ ကုလားထိုင်၊ ဗီရိုစသော အိမ်ထောင်ပရိဘောဂ ပစ္စည်းများကို ကျယ်ကျယ်ပြန့်ပြန့် ဖြန့်၍ ခင်းကျင်းထားခြင်းကိုလည်း သူ ကြိုက်သည်။ အိမ်ထောင်ပရိဘောဂ ပစ္စည်းများကို သုံးရာ၌လည်း ရှေးဟောင်း ပစ္စည်းများကို သုံးရမှ ကျေနပ်သူ ဖြစ်၏။

အိမ်ထဲတွင် ခင်းကျင်းထားသည့် ပစ္စည်းများမှာ ရှေးဆန်ဆန် ပစ္စည်းများချည်း ဖြစ်သဖြင့် သူသဘော မကျစရာမရှိ။ သူ မြင်တွေ့နေရသမျှသည် ကျေနပ်စရာချည်း ဖြစ်သည်။ အိမ်ပတ်ပတ်လည်ရှိ လူသွားစင်္ကြံဆောင်များဆီမှ ထွက်လာနေသည့် ဟောင်းမြင်းသော အနံ့အသက်များကို ရှူရှိုက်နေရ ခြင်းသည် ပင်လျှင် အရသာတမျိုးရှိနေသည်။ သူ့ပစ္စည်းအားလုံး ရောက်လာသည့်အခါတွင် ပါလာမည့်သူ့ စာအုပ်များနှင့် ကြွေထည် ပစ္စည်းများကို စနစ်တကျနှင့် တခမ်းတနားထားနိုင်မည့် အခန်းလွတ်များ

http://www.shwezinu.com/

ရှိနေခြင်းမှာလည်း သူ့အတွက် စိတ်ချမ်းသာစရာပင်ဖြစ်၏။ ရှေးဟောင်း ကြွေထည် ပစ္စည်းများ စုဆောင်းခြင်းသည် သူ့ဝါသနာ တခုဖြစ်သည်။ ထိုဝါသနာအရ လွန်ခဲ့သော နှစ်များစွာ အတွင်းက ရောက်လေရာ အရပ်တွင် ရသလောက် ရှာဖွေစုဆောင်းထားခဲ့သည်။

အိမ်ရှေ့ ဆင်ဝင်ဆောင်ဘက် ပြန်ထွက်လာသည့် အခါတွင်မူ ကောင်စစ်ဝန်၏ မျက်နှာထားသည် ကြည်လင် သာယာ လျက်ရှိသည်။ သူ့မျက်နှာရိပ် မျက်နှာကဲကို မျက်ခြည်မပြတ် အကဲခတ်နေသော အေလ်ဖင်သည် စိတ်သက်သာရာ ရသွားသည်။ သူ့မျက်လုံးများသည် ဝင်းလက် တောက်ပြောင်လာသည်။ သူ့ အမူအရာ မှာ သစ္စာရှိသော ခွေးတကောင်နှင့် တူလှ၏။ အိမ်ကို ကြိုက်မှ ကြိုက်ပါ့မလား ဟူသော သံသယစိတ်ဖြင့် ငြိမ်ကုပ်နေရာမှ ချက်ချင်းပင် ရွှင်လန်း တက်ကြွ လာသည်။ သူ့အထက် အရာရှိကြီးဖြစ်သော ကောင်စစ်ဝန်၏ နှုတ်မှ သူ့အား ချီးမွမ်းစကား ပြောလာလိမ့်မည်ဟုလည်း မျှော်လင့်ထားသည်။

'အားလုံး အဆင်ပြေအောင်တော့ လုပ်ထားပါတယ် ခင်ဗျာ၊ မစ္စတာ တင်းနေး ပြောင်းသွားပြီးတဲ့နောက် အချိန်ကလဲ သိပ်မရခဲ့ဘူး၊ ရသလောက် အချိန်ကလေးနဲ့ အကောင်းဆုံး ဖြစ်အောင် ကျွန်တော် လုပ်ထားရတာပါ '

' ဟုတ်ပါပေ့ ' ဟု ကောင်စစ်ဝန်က လေအေးကလေးနှင့် ပြန်ပြောသည်။ သို့သော်လည်း သူ့အသံမှာ ဂေခွဲရ ခက်သည်။ ချီးမွမ်းသံလား၊ မတော်ပြော

http://www.shwezinu.com/



ပြောလိုက်ခြင်းလား၊ ခွဲခြားသိဖို့ မလွယ်။ ပြောဟန်ဆိုဟန် လေယူ လေသိမ်းနှင့် မျက်နှာထားက အစ တည်ငြိမ်လွန်း လှသည်။

တကယ်တော့ ကောင်စစ်ဝန်သည် ပေါင်းသင်း ဆက်ဆံရေး နယ်ပယ်၌ အတွေ့အကြုံများသူ ဖြစ်သည်။ ရေးကြီးခွင်ကျယ် မပြုလောက်သည့် အလုပ်တခုအတွက် သူ့လက်အောက် ဝန်ထမ်း တဦးအား ချီးမွမ်းစကား ပြောလိုက်ခြင်းအားဖြင့် အရောတဝင် မပြုသင့်ဟု ယူဆသူဖြစ်သည်။ မိမိ၏ စီမံခန့်ခွဲမှုကို အလွယ်တကူနှင့် ပျက်ပြားသွားစေမည့် အပြောအဆိုများကို အားပေး၍ မဖြစ်၊ ရင်းနှီးမှုကို အမြန်ဆုံး ပျက်ပြား သွားစေနိုင်သည့် အပြုအမူများ ကိုလည်း ရှင်သန်ဖွံ့ဖြိုးလာအောင် မြေတောင်မြှောက်၍ မသင့်။

ကောင်စစ်ဝန်၏ မျက်စိထဲတွင် အောလ်ဗင်ဘာတန်သည် အလွန် အတွေ့အကြုံ နုသေးသူတဦး ဖြစ်နေသည်။ စိတ်နေစိတ်ထား ရင့်ကျက် တည်ငြိမ်ဦးမည့် သူ မဟုတ်ဟု ယူဆသည်။ အောလ်ဗင်၏ ဂုတ်စုံသည် ကြည့်၍ မကောင်းအောင် ကျပ်လျက်ရှိသည်။ အထူးသဖြင့် လူငယ်၏ အင်္ကျီသည် ချိုင်းကြားမှ ကွဲထွက် သွားလေမလားဟုပင် ထင်ရလောက်၏။ မည်သို့ပင် ဖြစ်စေ ဤအမျိုးအစားသည် ပေါင်းသင်း ဆက်ဆံရ ခက်တတ်သည်။ အကယ်၍ ဆက်ဆံမည်ဆိုပါကလည်း အနီးကပ်ဆက်ဆံ၍ မဖြစ်။ ခွာ၍ ဆက်ဆံမှ အကောင်းဆုံး ဖြစ်မည်ဟု သူ ဆုံးဖြတ်သည်။

သူ့ခေါင်းမှ ကောက်ရိုး ဦးထုပ်ကို လက်တဘက်နှင့် ကိုင်၍ ကျန်တဘက်ဖြင့် အဓိပ္ပာယ်မရှိ လှည့်ကစားနေသော အောလ်ဗင် ကမူ

http://www.shwezinu.com/



ကောင်စစ်ဂန်ထံမှ မျက်နှာသာပေးမှုကို ကြိုလင့်လျက် ရှိသည်။ သူ့အား ခဏတဖြုတ် နေဖို့ တားလိမ့်ဦးမည်ဟု ထင်သည်။ အနည်းဆုံး စပိန်ရှယ်ရီ အရက်ဖြူတခွက်တော့ တိုက်လိမ့် ဦးမည်ဟု ယုံကြည်ထားသည်။ သို့သော်လည်း ကောင်စစ်ဂန် ဘရန်းဒီးက သူ့အား လိမ္မာ ပါးနပ်စွာ ဖြင့် အိမ်ရှေ့ တံခါးဂသို့ ရောက်အောင် တွန်းပို့သွားသည်။

' မနက်ဖြန်ကျတော့ ရုံးမှာထပ်တွေ့ကြသေးတာပေ့ါမစ္စတာဘာတန် '

' ဟုတ်ကဲ့ပါ ခင်ဗျာ '

' ရုံးကို အမြဲတမ်း ကိုးနာရီတိတိရောက်တယ် မဟုတ်လား '

' ဟုတ် ... ဟုတ် ... ဟုတ်ကဲ့၊ ရောက် ... ရောက်ပါတယ် ခင်ဗျာ '

အင်္ဂျီကော်လန် အထက်ရှိ အေလ်ဖင်၏ မျက်နှာသည် နီရဲသွားသည်။ သူသည် ဆင်းသွားရန် ဟန်ပြင်ပြီးခါမှ လှေကားထိပ်တွင် ရပ်၍ ကောင်စစ်ဂန် ဘက်သို့ မျက်နှာမူလိုက်၏။ အေလ်ဖင်၏ အမူအရာကို ကြည့်ပြီး အားတုံ့အားနာ ဖြစ်သွားပုံရသော နီကိုလတ်စ်က သူ့အဖေအား တောင်းပန်ခယသည့် မျက်နှာထားဖြင့် လှမ်းကြည့်သည်။ အေလ်ဖင်က အထစ်ထစ် အငေ့ါငေ့ါဖြင့် သူပြောလို သော စကားကို ပြောသည်။

'ကျွန်တော့် ... မျှော်လင့်ချက်လေး တခုကိုတော့ ပြောခွင့်ပြု စေချင်ပါတယ် ခင်ဗျာ၊ အက်စ်ထရာဒါလမ်းက ကျွန်တော်တို့ အခန်းကိုတော့ တကြိမ်လောက် လာလည်ပြီး ကျွန်တော့်ဇနီး မစ္စဘာတန်နဲ့ ကျွန်တော့်ကို

http://www.shwezinu.com/


ချီးမြှင့်ပေးဖို့ တောင်းပန်ပါတယ်၊ နေရာ ကလေးကတော့ ခပ်သေးသေးပါ၊ ဒါပေမယ့် တတ်နိုင်သမျှ ကြိုးစားပြီး အမေရိကန်နိုင်ငံနဲ့ တူအောင် ကျွန်တော်တို့ ပြုစု ပျိုးထောင်ထားကြပါတယ် '

ကောင်စစ်ဂန် က အယဉ်ကျေး အသိမ်မွေ့ဆုံးသော စကားလုံးများဖြင့် အဖြေပေးသည်။

အေလ်ဗင် ဘာတန်သည် သူ့ကိုယ်သူ ထိန်းချုပ်ခြင်းငှာ မစွမ်းနိုင်။ ကောင်စစ်ဂန်၏ စကားကို နားထောင်ယင်း နှုတ်ခမ်းကိုမဲ့လိုက်မိ၏။ မည်သို့ပင် ဖြစ်စေ... ကောင်စစ်ဂန်ကတော့ စကားကို အပိုပြောခြင်း မဟုတ်။ သူ့စိတ်ထဲ ရှိနေသည့်အတိုင်း ပြောလိုက်ခြင်းဖြစ်သည်။ သူ့နိုင်ငံကို ချစ်မြတ်နိုးခြင်း၊ ကျေးဇူး သစ္စာ စောင့်သိရိုသေခြင်း စသော သဘောထားများနှင့် ပတ်သက်၍ သူ့အပေါ်တွင် မည်သူကမှ သံသယဖြစ်စရာ မလို ဟု အခိုင်အမာ ယုံကြည်သည်။

သို့သော်လည်း သူသည် နိုင်ငံတကာသို့ လှည့်လည်သွားလာ နေထိုင်လျက် ရှိသူတစ်ဦး ဖြစ်သဖြင့် သူ့ကိုယ်သူ မည်သည့် နိုင်ငံသားပါ ဟူသော အသိအမြင်ကို ရှေ့တန်းမတင်ခဲ့သည်မှာကြာပြီ။ ပြီးတော့လည်း ဥရောပ ယဉ်ကျေးမှုသည် သူ့အား သိသိသာသာကြီး အသွင်ပြောင်းသွားအောင် အရောင်တင် ပေးထားခဲ့သည်မှာ ကြာပြီ မဟုတ်ပါလား။ အေလ်ဗင်ဘာတန် ကတော့ ဒါတွေကို နားလည်မည် မဟုတ်။ ကောင်စစ်ဂန်သည် ဟန်ဆောင်မှု

http://www.shwezinu.com/



လုံးဂ ကင်းမဲ့သော အေလ်ဖင်ဘာတန်၏ မလိုတမာပြုံးကို မြင်လိုက်သောအခါ သူကိုယ်တိုင် ပင် မပြုံးပဲ မနေနိုင်။

ခုနစ်နာရီထိုးပြီ။ သူ့သခင် ကောင်စစ်ဂန်၏ ဆန္ဒအတိုင်း ဂရေစီယာက ညစာစားဖို့ အသင့် ဖြစ်ပါပြီဟု လာ၍ အကြောင်းကြားသည်။ ကျယ်ဝန်း လှသော ထမင်းစားခန်းကြီးထဲရှိ ကြီးမားလှသော စားပွဲရှည်ကြီး တလုံး၏ ဟိုဘက်ထိပ် သည်ဘက်ထိပ်တွင် သားအဖနှစ်ယောက် မျက်နှာချင်းဆိုင်၍ ထိုင်ကြသည်။ စားပွဲ အလယ်တည့်တည့် တွင် လှလှပပ ချထားသည့် မီးတိုင်စင်ပေါ်ရှိ ဖယောင်းတိုင်များမှ အလင်းရောင်သည် တခန်းလုံး ကို လွှမ်းခြုံ ထားသည်။ သားအဖ နှစ်ယောက်သည် သူတို့ အိမ်သစ်တွင် ပထမဆုံး အစာကို စားသောက် ကြလေ၏။

ကောင်စစ်ဂန်သည် သူ့အတွေးနှင့်သူ တချိန်လုံး ငြိမ်ဆိတ်လျက် ရှိသည်။ သူ့ အတွေးထဲတွင် ခရီးပန်းလာသော သူ့သားငယ် နီကိုလတ်စ် အတွက် ပူပန်ကြောင့်ကြခြင်း လည်းပါသည်။ သို့သော်လည်း အချက်အပြုတ် ကောင်းခြင်းနှင့် ပြင်ဆင် ကျွေးမွေးပုံ စနစ်တကျ ရှိခြင်းကိုမူ စိတ်ထဲက ကျိတ်၍ အသိ အမှတ် မပြုပဲ မနေနိုင်။ ဆိတ်ငြိမ် အေးချမ်းလှသော အခန်း အနေအထား ကလည်း သူ့စိတ်ကို ကြည်လင် လန်းဆန်းစေသည်။ သူ့ မျက်လုံးများသည် သူ့ ဘဏ္ဍာစိုး၏ လှုပ်ရှားမှုများကို လိုက်၍ ကြည့်လျက် ရှိသည်။ နောက်ဆုံးတွင် သူသည် အချိန်ကြာမြင့်စွာ ဣန္ဒြေလုပ် မနေနိုင် တော့ပေ။

http://www.shwezinu.com/

' မင်းနာမည် က ဂရေစီယာ ..... နော် '

' မှန်ပါတယ် ... ဆီညော် '

' ဆန်ရော့ဂျိမှာ အမြဲနေသလား '

ဂရေစီယာက ကိုယ်ကို တောင့်တောင့်မတ်မတ် ပြင်ရပ်လိုက်သည်။ တဖျပ်ဖျပ် ခါလျက်ရှိသော ဖယောင်းတိုင်မီးရောင်သည် အတွင်းသဘောကို လွယ်လွယ်နှင့် မဖော်ပြတတ်သော သူ့မျက်လုံးများဆီသို့ ထိုးဟပ်လျက်ရှိသည်။

'မဟုတ်ပါဘူး ... ဆီညော်၊ ကျွန်တော် မြို့ကြီးတွေမှာ နေလာခဲ့တာပါ၊ မြို့ကြီးတွေက အဆင့်အတန်း အမြင့်ဆုံးဆိုတဲ့ ဂုဏ်သရေရှိ လူကြီးလူကောင်းတွေ ဆီမှာချည်း အလုပ်လုပ်ခဲ့ပါတယ်၊ ကျွန်တော် ဒီအလုပ် မဝင်ခင် မက်ဒရစ်မြို့တော်က ဒီ ဩစတာဆီမှာ လုပ်နေခဲ့တာပါ '

' မင်းပြောတဲ့ လူက အမတ်ကြီး မာကွီဆာ ဒီ ဩစတာလား '

' မာကွီဆာ ဒီ ဩစတာရဲ့ ဆွေမျိုးတယောက်ပါ ဆီညော် '

ကောင်စစ်ဝန် ဟာရင်တန်ဘရန်းဒီးက ခေါင်းညိတ်ပြသည်။ ဂုဏ်ကြီးမြင့် သူများကိုသာ အစေးလုပ်ချင်ပုံရသော ဂရေစီယာ၏ဉာဉ်ကို သူ့စိတ်ထဲက မနှစ်သက်သလို ဖြစ်မိသည်။ သို့သော်လည်း လူတို့၏ ပေါင်းသင်းဆက်ဆံရေး အခြေအနေကို ကောင်းစွာ နားလည်ထားသော လူကြီးလူကောင်း တဦး အနေဖြင့် သူ့လက်အောက်တွင် အလုပ်လုပ်နေပြီ ဖြစ်သော ဂရေစီယာ

http://www.shwezinu.com/

၏ ချွတ်ယွင်းချက်ကို အပြစ်တခုဟု မသတ်မှတ်ချင်။ ဤ ချွတ်ယွင်းချက် လောက်ကိုတော့ သည်းခံခွင့်လွှတ်သင့်သည်ဟု ထင်သည်။

'ထမင်းချက်ကို ပြောလိုက်ပါ၊ မနက်ဖြန် မနက်မှာ ငါ သူနဲ့ တွေ့ချင်တယ်... လို့၊ ငါ့သားအတွက် အစားအစာ နူးနူးညံ့ညံ့ ချက်ပေးဖို့ မှာရလိမ့်မယ်'

ဂရေစီယာက ဦးခေါင်းကိုတချက် ညွှတ်လိုက်ပြီး အခန်းထဲမှ ငြိမ်ငြိမ် ဆိတ်ဆိတ်ကလေးပြန်ထွက်သွားသည်။ ဘရန်းဒီးက ကျေနပ် အားရသော မျက်နှာထားဖြင့် နီကိုလတ်စ်အား လှမ်းပြောသည်။

'လူတော်တယောက် ဖြစ်ပုံပဲကွ '

သူ့စိတ်နှင့် တွေ့ပြီဆိုပါက သူ့အဖေသည် ' သိပ်တော်သည်' ဟူသော စကားလုံးကို သုံးလေ့ရှိသည်။

သူ စိတ်တိုင်းကျခဲ့သော မြင်းတကောင်၊ အစေခံတယောက်နှင့် သူ၏ အရင်းနှီးဆုံး မိတ်ဆွေဖြစ်သည့် ပါရီမြို့မှ ပါမောက္ခ ပေးလီးဗီးတို့ အပေါ်၌ ဤ စကားလုံးကို သုံးခဲ့ဖူးသည်။ ထိုစဉ်ကတော့ နီကိုလတ်စ်သည် သူ့အဖေနှင့် တသဘောတည်း ဖြစ်ခဲ့ပါ၏။ သို့သော်လည်း အခု တငြိမ်တော့ဖြင့် သူ့အဖေနှင့် အမြင်ချင်း မတူပဲ ဖြစ်နေသည်။ စောစောက သူသည် ဘဏ္ဍာစိုး ဂရေစီယာ၏ မျက်နှာကို ဘေးတိုက်ကြည့်ခဲ့ရ၏။ မြင်မြင်ချင်း စိတ်ထဲက

http://www.shwezinu.com/

သဘောမကျချင် သလို ဖြစ်ခဲ့မိသည်။ ဘာကြောင့် ထိုကဲ့သို့ ဖြစ်ရသည်ကိုတော့ သူ ဂဃ နဏ မသိ။

ကောင်စစ်ဝန်သည် ကော်ဖီခွက်ကို လက်စသတ်ပြီးသည်နှင့် တပြိုင်နက် လက်ကို မြှောက်၍ ရွှေနာရီ ကို ကြည့်သည်။ ခရီးပန်းလာသဖြင့် စောစောစီးစီး အိပ်ရာဝင်မည် ဟူသော စိတ်ကူးရှိသည်။ သို့သော်လည်း နေရာသစ် အိမ်သစ် ဟူသော ထူးခြားမှုကလေးက နီကိုလတ်စ်၏စိတ်ကို လှုပ်ရှားအောင် ဆွဲဆောင်လျက် ရှိနေသည်ဖြစ်ရာ အိမ်ပေါ်မတက်မီ ပန်းခြံထဲ ခဏတဖြုတ် ဆင်း ကြည့်ပါရစေဟု ပူဆာသည်။ သူ့အဖေကလည်း လိုလိုချင်ချင်ပင် သဘောတူ ခဲ့လေသည်။

နီကိုလတ်စ်သည် ကုတ်အင်္ကျီကို သူ၏သေးသွယ်သော ပခုံးနှစ်ဘက် လုံအောင်ခြုံ၍ သူ့အဖေနှင့်အတူ ထွက်လာသည်။ အပြင် ရောက်သောအခါ သန့်ရှင်း လတ်ဆတ်သော လေကို အားရပါးရ ရှူလိုက်၏။ ခရီးပန်းလာသည့် အရှိန်ကြောင့် သူ့ခေါင်းမှာ နောက်ကျိမူးဝေလျက် ရှိနေသေးသော်လည်း သူနှင့် ပန်းခြံအပေါ်တွင် လွှမ်းခြုံထားသည့် ညနေခင်း၏ အေးချမ်းသာယာမှု အရသာကိုတော့ အပြည့်အဝ ခံစား ရသည်။ ပန်းဥယျာဉ်သည် သူ ထင်ထားသည်ထက် အဆမတန် ကြီးလျက်ရှိ၏။

အဆင့်အတန်း မြင့်မြင့်နှင့် စနစ်တကျ ပြုစု စိုက်ပျိုးထားသော ပန်းဥယျာဉ် တခု ဖြစ်နေသည်။

http://www.shwezinu.com/

နီကိုလတ်စ်သည် သူ့ဖခင်၏ ဘေးမှရပ်ကာ ပန်းဥယျာဉ်၏ အလှတွင် နစ်မျောလျက် ရှိသည်။ မွှေးကြိုင်သင်းပျံ့လျက်ရှိသော မြေသင်းနံ့နှင့် ပန်းနံ့များတွင် ယစ်မူးလျက်ရှိသည်။ ယခင် အိမ်များတွင် နေခဲ့ရစဉ် က မရခဲ့ဖူးသည့် ထူးဆန်းသော စိတ်ခံစားမှုတမျိုးသည် သူ့ရင်တွင်း၌ ဖြစ်ပေါ်လျက် ရှိ၏။ ဤအိမ်တွင် သူ ပျော်လိမ့်မည်ဟု ထင်သည်။ ပန်းဥယျာဉ်၏ အောက်ဘက် ဆီမှ လှိုင်းပုတ်သံသဲ့သဲ့ကို ကြားနေ ရသည်။ ပျော်ရွှင်မှုသည် သူ့စိတ်ကို ချက်ချင်းပင် ရွှင်လန်းချမ်းမြေ့စေ သည်။

' မသာယာဘူးလား ... ဖေဖေ ' ဟု နီကို လတ်စ်က ရေရွတ်သည်။

ကောင်စစ်ဂန်က ပြုံးသည်။ သူ့အပြုံးသည် လှိုက်လှိုက်လှဲလှဲရှိလှ၏။ သူ့အဖေ မျက်နှာပေါ်တွင် အလွန် တွေ့ရခဲသော အပြုံးမျိုးဖြစ်သဖြင့် နီကိုလတ်စ် စိတ်ကြည်နူးရသည်။ ကောင်စစ်ဂန် ကိုယ်တိုင်မှာလည်း သတိထားမိသည်။ သူ့မျက်လုံးများသည် ပွားချင်တိုင်းပွားကာ ချုံကြီး တခုသဖွယ် ဖြစ်နေသော အိုလီယမ်းဒါး ပန်းချုံနှင့် ထိကရုံးစည်းရိုးပေါ်တွင် ငေးစိုက် နေသည်။ တင်းနေး စွန့်ပစ်ခဲ့သော ဤပန်းဥယျာဉ်ကို သူ့ လက်ထက်တွင် အသစ်တဖန် ပြန်လည်ပြုပြင် မွမ်းမံမှ ဖြစ်မည်ဟူသော အတွေးဝင်လျက် ရှိသည်။ မျိုးကောင်းမျိုးသန့် ပန်းများရွေး၍ စိုက်မည်။ အပြင်အဆင် အထားအသိုကို ယခုထက်ပို၍ စနစ်ကျအောင် လှပအောင် ပြုပြင်မည်။

' ဒီထက် သာယာလှပလာအောင် လုပ်လို့ရတယ် ' ဟု သူက ပြောသည်။

http://www.shwezinu.com/



' တို့မှာ ဉယျာဉ်မှူး တယောက် တော့ ရှိရမယ်၊ ဖေဖေ မနက်ဖြန်ကျယင် ဒီကိစ္စကို အဆင်ပြေသွားအောင် လုပ်လိုက်မယ် '

အိမ်ဘက် ပြန်လျှောက် လာကြသောအခါ ကောင်စစ်ဝန်သည် သူ့သားအား ကြင်နာစွာ ကြည့်သည်။ ဤပန်းဥယျာဉ် ပင်လယ်ပြင်ပေါ်မှ ဖြတ်သန်း တိုက်ခတ်လာနေသော သန့်စင်လတ်ဆတ်သည့် ဤလေ တို့ သည် သူ့သား၏ ကျန်းမာရေးကို ထိခိုက်စေလိမ့်မည် မဟုတ်ဟု မျှော်လင့်ချက် ထားမိသည်။

သူသည် သူနှင့် နီကိုလတ်စ်အတွက် ပထမထပ် အိမ်ရှေ့ မျက်နှာစာဘက်ရှိ ဆက်လျက်ဖြစ်နေသော အိပ်ခန်း နှစ်ခန်းကို ယူလိုက်သည်။ ထိုအိပ်ခန်းနှစ်ခန်းကို ခန်းဆီးတပ် တံခါးပေါက်တပေါက်ဖြင့် ဆက်ထား သည်။ အကယ်၍ ညအချိန်မတော် သူ့သားငယ်အိပ်ရာမှ နိုးခဲ့ သည်ရှိသော် သူ အလွယ်တကူ ထသွားပြီး ကြည့်နိုင်သည်။ တကယ် ဆိုတော့လည်း အိပ်မပျော်သော ရောဂါ အပြင်းအထန် စွဲကပ်နေသည့် သူကိုယ်တိုင် ကပင်လျှင် အလွန် အအိပ်အနေ ဆတ်သည်။ ပြီးတော့လည်း သူသည် သူ့သားငယ်ကို မျက်စိအောက်မှ အပျောက် မခံနိုင်သူမဟုတ်။ သူ့သားငယ်အား ကာကွယ်စောင့်ရှောက်မှုနှင့် ပတ်သက်လာလျှင် သူ ကိုယ်တိုင် စောင့်ရှောက်ရမှ။ တခြားဘယ်သူမှ စောင့်ရှောက်သည်ကိုလည်း မကြိုက်။ ယုံကြည် စိတ်ချ ခြင်း လည်းမရှိ။

http://www.shwezinu.com/


အထူးသဖြင့် ညအချိန်မတော်တွင် သူ့သားငယ်သည် ဘီလူးစီးသလိုလို ... ထမင်းလုံးတစ္ဆေ ခြောက်သလို ဖြစ်ကာ အိပ်ရာမှ နိုးလာတတ်သည်။ ထိုအခါမျိုးတွင် နီကိုလတ်စ်သည် ကြောက်လန့်တကြားဖြစ်ကာ နလုံး ခုန် မြန်နေတတ်၏။ တကိုယ်လုံး ဆိုးဆိုးဆတ်ဆတ် ဖြစ်သည်အထိ တုန်ယင် လှုပ်ရှားနေတတ်၏။ နဖူးတွင် ဇောချွေးများ ပြန်နေတတ်၏။ ဤအဖြစ်မှာ မကြာခဏ ဖြစ်တတ်သော သူ့သားငယ်၏ ကျန်းမာရေး ချို့တဲ့မှု လက္ခဏာ တရပ်ဖြစ်သည်။ ဤလက္ခဏာရပ်အတွက် ကောင်စစ်ဝန်မှာ အမြဲတစေ စိုးရိမ် ပူပန်ခြင်း ဖြစ်နေခဲ့ရလေသည်။

အပေါ်ထပ်တွင် ခရီးဆောင် သေတ္တာများ ရောက်နေပြီ ဖြစ်သည်။ နီကိုလတ်စ်သည် အဝတ်အစားများကို ချွတ်၍ ရေချိုးခန်း ဝင်သည်။ ခြေလက်များ ဆေးသည်။ မျက်နှာသစ်သည်။ ပါမောက္ခပောလီးဗီးက သူ့အတွက် ပေးထားသော အားဆေးရည်ကို သောက်သည်။ ပြီးတော့ သွားတိုက်သည်။ ထို့နောက် ညဝတ်အင်္ကျီနှင့် ဘောင်းဘီများကို လဲကာ သူပြုလုပ်နေကျ ထုံးစံအတိုင်း ဘုရားရှိခိုးရန် အတွက် သူ့အဖေ ဘေးတွင် ဒူးနှစ်ဘက်ထောက်၍ ထိုင်လိုက်လေသည်။

ဥရောပတိုက် အတွင်းရှိ နိုင်ငံအသီးသီးသို့ လှည့်လည် သွားလာ နေထိုင်ခဲ့ရသဖြင့် အတွေ့အကြုံ စုံလှပြီ ဖြစ်သော်လည်း ဟာရင်တန် ဘရန်းဒီးသည် ယခုအချိန်အထိ ဘာသာရေးကို ကိုင်းရှိုင်းသူတစ်ဦး ဖြစ်လျက်ပင် ရှိသေး၏။ သူကိုယ်တိုင်ကလည်း သူသည် ဘာသာ ကိုင်းရှိုင်းသူတဦး ဖြစ်ပါသည်ဟု ဝန်ခံလေ့ရှိပါသည်။ သူ့အနေဖြင့် နယူး



http://www.shwezinu.com/

အင်္ဂလန်ပြည်နယ် အတွင်း၌ အခြေစိုက်ခဲ့ကြသော သူ့ဘိုးဘွား ဘီဘင်များ၏ အတွေးအခေါ် အယူအဆများ အပေါ် ပျက်ရယ် ပြုကောင်းပြုမိမည် ဖြစ်သော်လည်း သူတို့၏ ပြင်းထန်သော ပြူရီတန်ဘာသာ အယူဂါဒ စိတ်ကတော့ သူ့ အသွေးအသားထဲ တွင် ခိုင်မာဆဲပင်ဖြစ်သည်။

သူသည် သူ့သား၏ ပခုံးတဘက်ပေါ် လက်တင်ပြီး ဦးခေါင်းကို ညွတ်ကာ သူ့သားငယ်၏ ဘုရားရှိခိုးသံကို နားထောင်လျက် ရှိသည်။ ပြီးဆုံးသွားသောခါ သူကိုယ်တိုင် ဘုရားကို အာရုံပြု၍ ဤအရပ်ဒေသတွင် နေထိုင်ကြတော့မည့် သူတို့ သားအဖ နှစ်ယောက် ဘေးအန္တရာယ် ကင်းဝေး အောင် စောင့်ရှောက် ပေးပါမည့် အကြောင်း ဆုတောင်းသည်။ ထို့နောက် သူသည် ခဏမျှငြိမ်ဆိတ် နေပြီး အသံကို ခပ်အုပ်အုပ်လုပ်၍ လေသံဖြင့် သူ့သားအား ပြောသည်။

'ဒုစရိုက်သမားတွေကို ဘုရားသခင်က ခွင့်လွှတ်ဖို့ ဖေဖေတို့ ဆုတောင်း ရဦးမယ်၊ အထူးသဖြင့် မင်း အမေအတွက် ဖေဖေတို့ ဆုတောင်းပေးရလိမ့်မယ်'

ခဏမျှ အကြာတွင် နီကိုလတ်စ်သည် မြင်းသားရေဖြင့် ပြုလုပ်ထားသော ကော်ဒိုးဗား အိပ်ရာကြီးပေါ် သို့ ရောက်သွား သည်။ ကောင်စစ်ဂန်ကတော့ သူ့ သားငယ်၏ အိပ်ရာခုတင်ဘေးမှ မခွာနိုင်သေး။ ပွင့်ထိုးအဖိုးတန် ဘရိုကိတ် ခြုံစောင်များ အောက်ရောက်နေပြီဖြစ်သော သားငယ်ကို စိတ်မချသည့်နှယ် စောင့် ကြည့်နေဆဲ။

' သားသား၊ မင်း ကနေ့ပင်ပန်းလာတယ်၊ ညတိုင်း ဖတ်နေကျ စာအုပ်ကို ကနေ့ည ဆက်မဖတ်ဘူးနော်'

http://www.shwezinu.com/



နီကိုလတ်စ် ပင်ပန်းနေသည်မှာ အမှန်ပင်ဖြစ်သည်။ အိပ်ရာပေါ် ရောက်ကတည်းက မျက်ခွံများလေး ကာအိပ်ချင်မူးတူးဖြစ်လျက်ရှိ၏။ သို့သော်လည်း သူ အိပ်ရာမဝင်မီ ညစဉ်စာဖတ်ပြနေကျအလုပ်မှာ သူ့အဖေ ဝတ်မပျက် လုပ်လာခဲ့သော အလုပ်ဖြစ်သည်။ ထိုအလုပ်အပေါ်တွင် သူ့အဖေသည် သာယာမှု ရှိသည်။ သူ့ကြောင့် သူ့အဖေ၏ စိတ်သာယာ ချမ်းမြေ့မှု မပျက်စေချင်။ သူသည် တချက်မျှ ကြိုးစား၍ ပြုံးလိုက်ပြီး သူ့အဖေအား ကြည့်သည်။ သူ မအိပ်ချင်သေး၍ စာဖတ်ပြပါဟု ဆိုသည်။

ကောင်စစ်ဝန်သည် ခဏမျှ ချိန်ဆနေသေးသည်။ သို့သော်လည်း သူ့ချစ်သောသား အတွက် ပြုနေကျ ဝတ်ကို သူ မပြုပဲ မနေနိုင်။ ကပျာကယာ သူ့အိပ်ခန်းထဲသို့ ဝင်သွားပြီး ချက်ချင်းပင် ပြန်ထွက်လာသည်။ သူ့ လက်ထဲတွင် စာအုပ်ထူကြီး တအုပ် ပါလာသည်။ စာအုပ်မှာ အေကာမန်း၏ ငှက်များအကြောင်း စာအုပ်ကြီး ဖြစ်သည်။ သူသည် နီကိုလတ်စ်၏ ခုတင်ဘေးတွင် ဝင်ထိုင်ပြီး မျက်မှန်ကို တပ်သည်။

'မင်း မှတ်မိသေးတယ် မဟုတ်လား နီကိုလတ်စ်၊ အာဗီးလီးမှာ နေတုန်းက နောက်ဆုံးည ဖတ်ပြခဲ့တဲ့ အခန်းဟာ တောင်အာဖရိကတိုက် ငှက်တွေ အကြောင်းပေါ့၊ သိပ်ပြီး စိတ်ဝင်စားစရာ ကောင်းတဲ့ ဘာသာရပ် တစ်ခုပဲ၊ ကနေ့ည သိပ်ပြီးများများတော့ မဖတ်ပါဘူး၊ အဆက်ပြတ် မသွားရုံလေး ဖတ်ပြမယ်၊ ဖေဖေတို့ အခု ရောက်နေတဲ့ နေရာက ...'

http://www.shwezinu.com/



လက်ထဲမှ စာအုပ်ကို လှန်၍ဖတ်ယင်း တန်းလန်းနှင့် ရပ်ထားခဲ့ရသော စာမျက်နှာ နှင့် အပိုဒ်ကို ရှာသည်။ ထို့နောက် ချောင်းတချက်ဟန့်လိုက်ပြီး စာအုပ်ကို စ ဖတ်သည်။

'ငှက်ကုလားအုပ်သည် စထရူးသီအို မျိုးနွယ်ဝင် အုပ်စုဖြစ်သည်။ ခြေချောင်း နှစ်ချောင်းမျှသာရှိ၍ ရင်ဘက် တွင် ဂမ်းဗိုက်မရှိခြင်းသည် ငှက်ကုလားအုပ်၏ ထူးခြားမှုတခုဖြစ်၏။ ငှက်ထဲတွင် အကြီးဆုံးသော သတ္တဝါ ဖြစ်သည်။ ငှက်ကုလားအုပ်အထီးသည် အမြင့်ခုနစ်ပေနီးပါးခန့်ရှိ၍ ကိုယ် အလေးချိန်သည် ပေါင်သုံးရာ မျှလေးသည်။

သဲ ထူထပ်သော လွင်ပြင်များနှင့် ပြန့်ပြူးသော နယ်မြေ ဒေသများတွင် ကျက်စားသည်။ ခြေထောက်ကို အားပြုသော အစုဖြစ်သည်။ ပင်လယ် ကမ်းခြေဘက်သို့ ခေါ်လာလျှင် အလွန် ကြောက်ရွံ့ ထိတ်လန့်ခြင်း ဖြစ်တတ်သည်။ ဤငှက်များသည် သူတို့ အတောင်များကို လုံးဝ အသုံး မပြုနိုင်ကြပေ။ အထူးသဖြင့် အထီးများသည် သူ၏ သားသမီး များအတွက် ပူပင်သောကကြီးတတ်၍ ...

***************

http://www.shwezinu.com/

## အခန်း (၂)

နောက်တနေ့ နံနက်တွင် ကောင်စစ်ဂန်သည် အိပ်ရာမှ အစောကြီး ထသည်။ သူ့ အလေ့အကျင့် အတိုင်း ရုံးကိုလည်း အချိန် အတိအကျ သွားသည်။ နီကိုလတ်စ် အဖို့တော့ ညက နစ်နစ်ခြိုက်ခြိုက် အိပ်မပျော်ခဲ့၊ ခရီးလမ်းတလျှောက်တွင် ကြုံတွေ့ခဲ့ရသည့် ဖြစ်ရပ်များ၊ မီးရထား ဘီးသံများနှင့် လှိုင်းပုတ်သံများသည် ဘဏ္ဍာစိုး၏ ရုပ်လွှာသည် သူ့အား လာ၍ အနှောင့်အယှက် ပြုရပါသနည်း။

ဒါကို တော့ သူမသိ၊ နားလည်းမလည်၊ မနက်အိပ်ရာမှနိုးတော့ သူ့ အပူချိန်သည် သာမန် အခြေအနေ မှာပင်ရှိသည်။ သို့သော်လည်း သူ့ အဖေက သူ့ပါး နစ်ဘက်တွင် သွေးရောင် လျှမ်းနေသည့် အဖြစ်ကို ကြည့်ကာ စိတ်မချနိုင်အောင် ဖြစ်လျက်ရှိသည်။ သူ့သားအား အိပ်ရာထဲမှာပင် ဆက်နေဖို့မှာသည်။ အိပ်ရာထဲမှထွက်၍ နေ့လယ်စာ စားသင့် မစားသင့်ကိုမူ သူကိုယ်တိုင် မွန်းလွဲပိုင်းကျမှ တခေါက်ပြန်လာပြီး ကြည့်မည် ဟု ဆိုသည်။

ပန်းခြံထဲ ဆင်း၍ လွတ်လွတ်လပ်လပ် နေချင်စိတ် ပြင်းပြနေသော နီကိုလတ်စ် အဖို့တော့ သူ့အဖေ စကား ကြားသည့် အခါ စိတ်ပျက်လက်ပျက် ဖြစ်သွားသည်။ သို့သော်လည်း သူသည် ဖအေ့ စကားကို တသဝေ မတိမ်း လိုက်နာတတ်သော ကလေးတယောက် ဖြစ်သည့် အားလျော်စွာ သူ့အဖေ မှာထားခဲ့သည့် အတိုင်းပင် နေသည်။ သူ၏ ကျန်းမာရေး ချို့တဲ့မှုကိုလည်း

http://www.shwezinu.com/



သိနေသည် ဖြစ်ရာ ပါမောက္ခ ပေးလီးဗီး သင်ကြား ပြသ ထားသည့်အတိုင်း အချိန်ကျသောအခါ ပြဒါးတိုင်နှင့် သူ့အပူချိန်ကို သူတိုင်းသည်။ သွေးတိုးနှုန်းကို တိုင်းထွာ စစ်ဆေးကြည့်သည်။ သူ့အတွက် အစိုးအစိုးရိမ် အကြောင့်ကြ ကြီးလွန်းလှသော သူ့အဖေ၏ စိတ်သဘောထား ကို မတွေးပဲ မနေနိုင်။ သူ့အတွက် အသေးအဖွဲ့မှ စ၍ လိုက်၍ ပူပန်နေတတ်ပုံမှာ သူ့ စိတ်ထဲတွင် အထူးအဆန်းတခုလို ဖြစ်နေလေသည်။

နီကိုလတ်စ်အတွက် နံနက်စာကို မက်ဂ်ဒါးနားက အပေါ်ထပ် အိပ်ခန်းထဲ အထိ လာပို့သည်။ လှေကားမှ တက်လာ ရသဖြင့် မက်ဂ်ဒါလီးနား ခများ အသက်ကိုမှ မှန်မှန်မ ရှူနိုင်လောက်အောင် မောဟိုက် လျက်ရှိသည်။ သို့သော်လည်း နီကိုလတ်စ်အား ခင်မင် ဖော်ရွေသော အပြုံးဖြင့် နှုတ်ဆက် သည်။ သူ၏ ဖောင်းအိ ပြည့်ဖြိုးလွန်းလှသော အညိုရောင် ပါးနှစ်ဘက်သည် သူ၏ နက်မှောင်သော မျက်လုံးများကို ကျဉ်းသွားအောင် ပြုလုပ်ထားသည်။ သူ့ခေါင်းတွင် စည်းထားသည့် ပဂါဖြူနှင့် နားနှစ်ဘက်မှ တွဲလွဲ ကျနေသော သတ္တုနားကွင်းများကြောင့် မက်ဂ်ဒါလီးနား၏ မျက်နှာသည် ဂျစ်ပဆီမ တယောက်နှင့် တူနေသည်။

သူ့အဖေ၏ ကျေးဇူးကြောင့် နီကိုလတ်စ်သည် စပိန်စကားကို အဆင့်မြင့်မြင့် သွက်သွက်လက်လက် ပြောနိုင် သည်မျှသာမက ပြင်သစ်နှင့် အီတလီ စကားများကိုပါ ပြောတတ်သည်။ သို့သော်လည်း အခု မက်ဂ်ဒါလီးနား ၏ နှုတ်မှ ကရားရေလွှတ် တတွတ်တွတ် ထွက်လာနေသော စပိန်ဘာသာ စကားကိုမူ သူ နားမလည်။ ဒေသ သုံး စပိန်စကား တမျိုး ဖြစ်ဟန် တူသည်ဟု

http://www.shwezinu.com/


နီကိုလတ်စ်က တွေးသည်။ မည်သို့ပင် ဖြစ်စေ သူတို့နှစ်ယောက် စကားသာ ပြောနေကြသည်။

တယောက် နှင့် တယောက် ကောင်းစွာ နားမလည်ကြ။ မက်ဂ်ဒါလီးနား သည် လက်နှစ်ဘက်ကို တင်ပါးတွင် ထောက်ကာ နီကိုလတ်စ်အား စိုက်ကြည့်နေသည်။ သူ့အကြည့်သည် ပွင့်လင်းရဲတင်းသည်။ အထူးအဆန်း တခုကို မြင်တွေ့နေရသည့်နှယ် ကြည့်နေခြင်း...။ ဤမျှလောက် စူးစူးရဲရဲ အကြည့်ခံ နေရသောအခါ နီကိုလတ်စ်မှာ မနေတတ် မထိုင်တတ် ဖြစ်လာသည်။ ရှည်လျားသော မျက်တောင်ကော့ကြီးများကို ပုတ်ခတ် ပုတ်ခတ် လုပ်ကာ အသက်ကို မှန်မှန်မရှူပဲ အောင့်ထားမိသည်။ သူ့ ဂမ်းပိုက်ထဲမှလည်း အသံ တချက် ထွက်လာသည်။ မက်ဂ်ဒါလီးနားက နီကိုလတ်စ်၏ အဖြစ်ကို ကြည့်ကာ တချက်မျှ ရယ်လိုက်ပြီး ခေါင်းကို ယမ်းကာ အခန်းထဲမှ ပြန်ထွက် သွားလေသည်။

နံနက်စာမှာ သူစားနေကျ အစာများပင် ဖြစ်သည်။ အရသာလည်း ရှိသည်။ မကျက်တကျက် ပြုတ်ထားသော ကြက်ဥတလုံး။ ခပ်ပွပွ မုန့်ကြွပ်များနှင့် ပျားသလက်မုန့်။ ပြီးတော့ ဆိတ်နို့အကျက် တဖန်ခွက်။ သူ့အဖေ၏ အမိန့်အတိုင်း စီမံပြုလုပ်ထားသည့် နံနက်စာမုန်း သိသာသည်။ နီကိုလတ်စ် သည် သူ့အစာကို ခပ်ဖြည်းဖြည်း စားသည်။ အထူးသဖြင့် မုန့် အစအနများ အိပ်ရာပေါ် မကျအောင် သတိထား၍ စားသည်။ ထို့နောက် အိပ်ရာပေါ်မှ ခုန်ဆင်းလိုက်ပြီး မှန်တင်ခုံပေါ်မှနေ၍ သူ၏ အာရုံစူးစိုက်မှုကို သစ္စာရှိစွာဖြင့် တိတ်တိတ်ဆိတ်ဆိတ် စောင့်မျှော်လျက်ရှိသော ခွေးသမင်ရုပ်ကို



http://www.shwezinu.com/

လှမ်းယူသည်။ နီကိုလတ်စ် အနေဖြင့် သက်ရှိ ခွေးတကောင်ကို ပိုင်ဆိုင်ဖို့ မလွယ်မှန်း သိနေ သည်။

သူ့အဖေ ကောင်စစ်ဝန်သည် ခွေး ချစ်တတ်သူ မဟုတ်။ တနေရာတည်းတွင် အတည်တကျ မနေရပဲ မကြာ ခဏ ရွှေ့ပြောင်းနေရသော သူတို့သားအဖ အဖို့ ခွေးမွေး၍ မဖြစ်ဟု သူ့အဖေက ပြော ပြထားခဲ့ပြီး ဖြစ်သည်။ ထို့ကြောင့်လည်း ခွေးလိုချင်သော နီကိုလတ်စ်သည် ဤခွေးရုပ်ဖြင့် အစားထိုး၍ ကျေနပ်ခဲ့ရ၏။ သူ့အဖေ အဖော် လုပ်၍ စကားတပြောပြောနှင့် ငြိမ်းငွေ့စရာကောင်းသော အချိန်များကို ကုန်လွန်စေခဲ့ရ၏။

သို့သော်လည်း ယနေ့မနက်တော့ ဤခွေးရုပ်အပေါ်တွင် သိပ်ပြီး စိတ်မဝင်စား။ သူနှင့် လက်တကမ်း အကွာတွင် သူလေ့လာ ကျက်မှတ်ဖို့ အတွက် သူ့အဖေထားခဲ့သည့် စာအုပ်များ အပေါ်တွင်လည်း အာရုံ စူးစိုက်၍မရ။ သူ့စိတ်သည် ယမန်နေ့ညကမှ စတင်နေထိုင်ခဲ့ရသည့် ပတ်ဝန်းကျင် အသစ်တွင်သာ ဝင်စား လျက်ရှိသည်။ ဤပတ်ဝန်းကျင်သည် သူ စူးစမ်းရှာဖွေလေ့လာခြင်း မပြုရသေးသည့် ပတ်ဝန်းကျင်…။ ပူနွေးသော နေရောင်ခြည်သည် ငါးရှဉ့်သွေးရောင် နံရံကပ် စက္ကူများမှ ဖောက်ထွင်းကာ အိပ်ခန်းထဲသို့ ထိုးဆင်း လျက်ရှိသည်။

စက္ကူများမှတဆင့် ကြမ်းပြင်ထက်သို့ ကျရောက်ထင်ဟပ်လျက်ရှိသည်။ နေရောင်ခြည် အစင်းများသည် သူ့မျက်စိထဲတွင် ထူးဆန်းလှပသော ပန်းချီကားချပ်များနှင့် တူနေသည်။ သူသည် အိပ်ရာပေါ်တွင် ကျောမှီ၍ လှဲကာ

http://www.shwezinu.com/



နေရောင်ခြည် အစင်းအကွက်များကို ငေးမောနေသည်။ ပြီးတော့ တိတ်ဆိတ်ငြိမ်သက်လျက် ရှိသော အိမ်ကြီးအတွင်းမှ ထွက်လာမည့် အသံဗလံများကို နားစွင့်သည်။

ပထမတော့ ဘာသံမှမကြားရ။ ပကတိ တိတ်ဆိတ်ခြင်း။ ခဏနေတော့ အောက်ထပ်မှ အသံများ ထွက်လာ သည်။ အငြင်းအခုံဖြစ်နေသည့်အသံမျိုး။

တိုးတိုးသာသာမဟုတ်။ အော်ကြီး ဟစ်ကျယ်။ သို့သော်လည်း စကားလုံး များက ပီသသဲကွဲခြင်းမရှိ။ တဆက်တည်းပင် ဒိုင်းကနဲ မြည်ဟီးသွားသော တံခါးပိတ်သံ တချက်ပေါ်လာသည်။ မီးဖိုချောင်တံခါး ဖြစ်လိမ့်မည်ဟု နီကိုလတ်စ် ခန့်မှန်းသည်။ ထို့နောက် တီးတိုးစကား ပြောသံများနှင့် အောက်ထပ် ထမင်း စားခန်း အတွင်းမှ ခြေသံများ။ ခြေသံ များမှာ ခပ်ဖြည်းဖြည်း မှန်မှန် ခေါက်တုံ့ ခေါက်ပြန် လျှောက်သွား နေသံ။ ခပ်ပြင်းပြင်း ဆေးလိပ်နံ့သည် အပေါ်ထပ်သို့ တက်လာသည်။ ဤအရာအားလုံး စုပေါင်းဖြစ်ပေါ်နေချိန်တွင် သူ့ အိပ်ခန်းတံခါးကို အပြင်မှ အသာအယာ ဖွင့်သံ ကြားလိုက်ရသောအခါ နီကိုလတ်စ် မှာ မထိတ်လန့်ပဲ မနေနိုင်။ ဖြတ်ကနဲ လန့်သွားသည်။ အံ့အား လည်း သင့်သွားသည်။ သူသည် တံခါး ဆီသို့ ဆက်ကနဲ လှည့်ကြည့်လိုက်၏။ တံခါးဝမှ ရပ်၍ သူ့အား ခပ်တည်တည် စိုက်ကြည့် နေသော ဂရေစီယာ။

သူငယ်၏ ပါးနှစ်ဘက်သည် နီမြန်းသွားသည်။ ဂရေစီယာကို ယမန်နေ့ ညနေခင်းက စ၍တွေ့ခဲ့သည်။ စတွေ့သည့်အချိန်မှ စ၍ ခင်မင်သောစိတ်

http://www.shwezinu.com/


မဖြစ်မိ။ ပြောမပြတတ်သည့် စိတ်ခံစားမှု တခုအရ ဤလူကြီး အပေါ်တွင် မယုံသင်္ကာ ဖြစ်ခဲ့ရုံမျှမက ရန်သူတယောက်ဟု မြင်ခဲ့သည်။ အခုလည်း သူ့ကို စူးစူးဝါးဝါး ကြည့်လျက်ရှိသည်။ သူကလည်း အားကျမခံ တုံ့ပြန်၍ စူးစူးရဲရဲပင် ပြန် ကြည့်သည်။

' လင်ဇန်းကို ယူသွားရတော့မလား '

ဂရေစီယာက အလွန်သဘောမနောကောင်းသည့် လေသံမျိုးဖြင့် မေးသည်။ သို့သော်လည်း သူ့အသံမှာ စစ်မှန်သော လေသံမဟုတ်။ တမင် လုပ်ယူထားရသည့် လေသံ။ ဆေးချေးများ အထပ်ထပ် တက်နေသဖြင့် အဂါရောင် သမ်းနေသော လက်ညိုးနှင့် လက်သူကြွယ်ကြားမှ စီးကရက်မီးခိုး သည် တငွေ့ … ငွေ့ … ။

'ယူသွားပါ … ကျေးဇူးတင်ပါတယ်' ဟု နီကို လက်တ်စက ပြန်ဖေသည်။ သူ့အသံမှာ တည်တည် ငြိမ်ငြိမ် မဟုတ်။ ပြီးတော့ ခပ်တိုးတိုး …။

ဂရေစီယာသည် သူရပ်နေသော နေရာမှမရွေ့။ သူ့အား ခပ်တည်တည် ကြည့်နေရာမှ သွားဖြဲပြ သည်။ သူ့အား ပြုံးပြခြင်း ဖြစ်သည်ဟု ယူဆရသည်။

' ငါ့ကို မကြောက်ပါနဲ့' ဟု ဂရေစီယာက ချိုသာစွာ ပြောသည်။ ' ငါဟာ ကလေးတွေနဲ့ ရောရောနှောနှော နေတတ်ပါတယ်… ကွ၊ တနေရာမှာ အလုပ်လုပ်ခဲ့တုန်းက ဆိုယင် ကလေးခုနစ်ယောက် တိတိရှိတယ်၊ အငယ်ဆုံး

http://www.shwezinu.com/


မိန်းကလေးဟာ ငါ့ပေါင်ပေါ်က ဆင်းတယ်လို့ကို မရှိဘူး၊ သူ မသေခင်က ဆိုပါတော့ ကွာ'

နီကိုလတ်စ်က ပင့်သက်တချက် ရှူလိုက်သည်။ ဂရေစီယာသည် လက်ထဲမှ အညိုရောင်စီးကရက်ကို အားရပါးရ ဖွာလိုက်သည်။ သူ့ မျက်လုံးများကတော့ သူငယ်၏ မျက်နှာပေါ်မှ မခွာ...။

'အဲဒီ ကလေးမလေး အကြောင်းကို တနေ့နေ့ကျမှ မင်းကို ပြောပြရဦးမယ်၊ သူ့အကြောင်းက သိပ် စိတ်ဝင်စားစရာ ကောင်းမှာပါ၊ ငါ အဖြစ်မျိုးစုံကို မြင်ဖူးတယ်ကွ၊ ဝမ်းနည်းစရာ အဖြစ်တွေ၊ ကြောက် စရာ အဖြစ်တွေ၊ မယုံနိုင်စရာ အဖြစ်တွေ၊ အို ... ကွာ၊ အများကြီးပဲ... သိလား၊ ကမ္ဘာကြီးဟာ ကျပ်မပြည့်တဲ့ အရူး အမိုက်တွေနဲ့ ပြည့်နေတဲ့ နေရာကြီးပါကွာ၊ ငါ့အဖို့တော့ ဘယ်အဖြစ်မှ မထူးဆန်း တော့ဘူး၊ တကယ် ပြောတာ၊ လုံးဝ မထူးဆန်းတော့ဘူး '

' ခင်ဗျား ပြောနေတာ ကျွန်တော် နားမလည်ပါဘူး၊ ဘာအဓိပ္ပာယ်လဲ' နီကိုလတ်စ်က မေးသည်။

ဂရေစီယာက ပခုံးနှစ်ဘက်ကို တွန့်လိုက်လေသည်။

'မင်းနားလည်လာမှာပါ၊ မပူပါနဲ့၊ ငါဟာ စစ်သားလဲ လုပ်ခဲ့ဖူးတယ်၊ ဗိုလ်တယောက်ပေါ့ကွာ၊ လူတွေကို ကြိမ်တွေနဲ့ရိုက်၊ မတန်တဆ နှိပ်စက်တယ်၊ ပြီးတော့ သေနတ်နဲ့ ပစ်သတ်တယ်၊ ဒါတွေ အားလုံး ငါ

http://www.shwezinu.com/



မြင်ခဲ့ဖူးတယ်ကွ၊ နောက်ကျမှ ဒီအကြောင်းတွေကို ပြောပြရဦးမယ်၊ ဒါနဲ့ ငါ့ကို ပြောစမ်းပါဦး၊ မင်းအမေ ပါမလာ ပါလား…၊ ဘယ်မှာ နေခဲ့သလဲ '

နီကိုလတ်စ် မျက်နှာပျက်သွားသည်။ သူ မျှော်လင့်မထားသော မေးခွန်း ဖြစ်နေသဖြင့် ရုတ်တရက် ချက်ချင်း အဖြေမပေးနိုင်။ ဤမျှလောက် စပ်စပ်စုစု နိုင်လှသော မေးခွန်းမျိုး မေးသည်ကို သူ သဘောမကျ။ ဂရေစီယာ၏ မေးခွန်းသည် သူ့စိတ်တွင် လူမသိ သူမသိ စွဲကပ်နေသော အနာဟောင်းကို အနာသစ် ပြန်ဖြစ်လာအောင် ထိုးဆွလိုက်သလို ဖြစ်သွားသည်။

ပထမတော့ 'အမေ သေပြီ' ဟု ဖြေလိုက်ရန် စိတ်ကူးသေးသည်၊ သူ့အဖေက သူ့ကို မကြာခဏ ပြောခဲ့ဖူးသော စကားရှိသည်။ သူတို့ သားအဖနှစ်ယောက် အဖို့ သူ့အမေသည် မရှိတော့။ သေဆုံး သွားပြီဟု သတ်မှတ်ထားရမည် ဟူသော စကား။ သို့သော်လည်း မနေ့ညက သူ ဘုရားရှိခိုးအပြီးတွင် သူ့ အမေ အတွက် ဆုတောင်း မေတ္တာပို့ခဲ့ရ၏။ ပြီးတော့လည်း သူ့ စိတ်ထဲက ရွံ့ရှာစက်ဆုပ် နေသော ဤလူကို သူ လိမ်မပြောချင်။ အရေး မလုပ်လောက်သည့် လူကို လိမ်ပြောခြင်းသည် ဂုဏ်သိက္ခာ ကျသည်ဟု ထင်သည်။ အကယ်၍ အလိမ်ပေါ်သွားပါကလည်း ဤလူ၏ အထင်အမြင် သေးခြင်းကို ခံရချေ တော့မည်။

' အမေက အမေရိကမှာ နေတယ် ' ဟု နီကိုလတ်စ်က ဖြေသည်။

'ဟေ … ဟုတ်လား' ဟု ဂရေစီယာက တအံ့တသြ ရေရွတ်သည်။

http://www.shwezinu.com/



'အမေရိကန်ဆိုတဲ့ နိုင်ငံက သိပ်အံ့သြဖို့ကောင်းတဲ့ နိုင်ငံတခုပေါ့ကွာ၊ ဒါပေမယ့် ဘာပြုလို့ သူက မင်းတို့နဲ့ လိုက်မနေတာလဲ '

နီကို လတ်စ်၏ နှုတ်ခမ်းများသည် တုန်ယင် လှုပ်ရှားလာသည်။

' အမေက ကျွန်တော်တို့နဲ့ မနေတော့ဘူး '

ဂရေစီယာက သူ့ပါးစပ်ကို ဟလိုက်ပြီး ဟက်ကနဲ တချက် ရယ်လိုက်သည်။

'အမေက ကျွန်တော်တို့နဲ့ ဘာမှ မဆိုင်တော့ဘူး၊ သူက တခြားနေတယ်၊ ဒါပေမယ့် ကျွန်တော် တို့ကို လူတွေက မေးနေကြတာပဲ '

သူသည် စကားကို မဆက်ပဲ ရပ်ထားလိုက်ပြီး နားစွင့်သည်။ ဆင်ဝင်ဘက်မှ လျှောက်လာနေသော ခြေသံ...။ ခဏမျှ ငြိမ်ဆိတ်သွားသည်။ ဂရေစီယာ၏ အမူအရာကတော့ မပြောင်း...။ သို့သော်လည်း သတိတော့ ထားပုံရသည်။ သူက နီကိုလတ်စ်အား ခေါင်းတချက် ဆက်ပြသည်။

'မင်း အဖေပြန်လာပြီကွ၊ ငါတို့ နှစ်ယောက် အပျင်းပြေ စကားပြောကြတာကို သူမသိစေနဲ့၊ ငါတို့နှစ်ယောက်ပဲ သိတာ ကောင်းတယ်၊ ဟုတ်လား၊ အခု ငါပြောတာကို မေ့မသွားနဲ့နော်'

ဂရေစီယာက အိပ်ရာဆီသို့ လျှောက်လာပြီး နံနက်စာ ထည့်ထားသည့် လင်ဗန်းကို လက်တဘက်တည်းနှင့် ကျွမ်းကျင်စွာ မယူလိုက်သည်။ ထို့နောက်

http://www.shwezinu.com/



နီကိုလတ်စ်ဘက်သို့ လှည့်၍ ပြောင်သလို နောက်သလိုနှင့် ဦးခေါင်းကို တချက် ညွှတ်လိုက်ပြီး အိပ်ခန်းထဲမှ ထွက်သွားသည်။

နီကိုလတ်စ်ကတော့ အိပ်ရာပေါ်တွင် မလှုပ်မယှက်၊ သူ့မျက်နှာသည် မဖေ့ခွဲနိုင်သော စိတ်ဖြင့် ရှုပ်လျက်ရှိ၏။ စိတ်ညစ်စိတ်ရှုပ်သလိုလည်း ဖြစ်လျက်ရှိ၏။ သူ့အဖေသော ဂင်မလာလျှင် ထွက်ကျလုဆဲဆဲ ဖြစ်နေသော မျက်ရည်စများကို ထိန်းနိုင်မည်မဟုတ်။

ကောင်စစ်ဝန်သည် စိတ်လက် ပေါ့ပါး ကြည်လင်လာသည်။ အလုပ်ခွင်တွင် စိတ်တိုင်းကျခဲ့သည်မှာ သံသယ ဖြစ်ဖွယ်မရှိ။ သူသည် နီကိုလတ်စ်၏ အခြေအနေကို ဂရုတစိုက် ကြည့်ရှုလိုက်ပြီး အိပ်ရာမှ ထခိုင်းသည်။ နီကို လတ်စ်အဝတ်လဲနေခိုက်တွင် သူသည် အိပ်ရာ၏ အစွန်းတဘက်တွင် ဂင်ထိုင် သည်။ သူ့ရုံးမှာ သူမျှော်လင့်ထားသည်ထက် ပို၍ ကောင်းနေသည်။ အဆောက်အအုံ အနေဖြင့် သေးငယ်သော်လည်း ခေတ်မီသည်။ ပူအိုက်သော နွေရာသီတွင် ပင်လယ်လေ လေအေးလေသန့် ကို ကောင်းစွာ ရနိုင်သော မာရီနား လမ်းပေါ်၌ တည်ရှိသည်။

ရုံးဂန်ထမ်းမှာ အေလ်ဗင်ဘာတန် အပြင် စပိန်လူမျိုး စာရေးနှစ်ယောက် ရှိသည်။ ရုံးသုံး ပစ္စည်းကိရိယာ အသုံးအဆောင်များမှာ လက်နှိပ်စက် တလုံးမှ လွဲ၍ အားလုံး အခြေအနေကောင်းသည်။ လက်နှိပ်စက် မှာလည်း သုံးမရ လောက်အောင် ချွတ်ယွင်း၍ မဟုတ်။ ပြင်လိုက်လျှင် ကောင်းသွားနိုင်သည်။

http://www.shwezinu.com/



မိတ္တူ ကူးစက်ကတော့ လုံးဝ သုံးမရ လောက်အောင် ပျက်နေပြီ။ ချက်ချင်း အသစ် တလုံး ဝယ်၍ အစားထိုးရန် သူ အမိန့် ပေးခဲ့ ပြီးပြီ။

'ကဲ အခု' ကောင်စစ်ဝန်က ရွှင်လန်းမြူးကြွသော လေသံဖြင့် စကားစ သည်။

'ဖေဖေ ဉယျာဉ်မှူး တယောက် ရလာခဲ့ပြီ၊ သားသား စိတ်ဝင်စားမှာပါ၊ သူ အခု အပြင်မှာ ရှိနေတယ်၊ ဖေဖေနဲ့ လိုက်လာပြီး သူ့ကို တွေ့လိုက်ဦး'

သားအဖ နှစ်ယောက် အောက်ထပ်သို့ ဆင်းခဲ့ကြသည်။ နီကိုလတ်စ် သည် သူ့ အဖေဘေးမှ ငြိမ်သက်စွာ လိုက်ပါ လာသည်။

အိမ် အပြင် နောက်ဖေးဘက် အဝင်ဂတွင် အလွန်ရိုသေကျိုးနွံသော အမူအရာ ဖြင့် ရပ်နေသည့် လူငယ် တယောက်။ အရပ်အမောင်း ခပ်မြင့်မြင့်။ ကိုယ်လုံး ကိုယ်ထည် အချိုးအဆက် ပြေပြစ် သည်။ အသက်က ဆယ့်ကိုးနှစ် ဆုံးမှာ နက်မှောင်လှပသော မျက်ခုံးများ ဖြစ်သည်။ မည်းနက် သော ဆံပင်များသည် သေသေ သပ်သပ်မရှိ။ ကပိုကရိုကျလျက်ရှိသည်။ သူ့အထက် နှုတ်ခမ်းသည် မရင့်ကျက်သေးသည့် စိတ်နေစိတ်ထား နှင့် တဘက်သားအပေါ် ကြင်နာ သနားတတ်သည့် အရိပ်လက္ခဏာများကို ဖော်ပြလျက်ရှိသည်။

အလွန်ရိုးသား ဖြူစင်သည့် မျက်နှာပိုင်ရှင်ဖြစ်သည်။ အားလုံး ခြုံကြည့်လိုက်လျှင် လူချောလူလှတဦး ဖြစ်လာမည့် အရိပ်အသွင်များ ထင်ဟပ် လျက် ရှိ၏။ သူ့တွင် ရှိသမျှထဲမှ အကောင်းဆုံးဟု ယူဆသည့် အင်္ကျီ

http://www.shwezinu.com/


ဘောင်းဘီ များကို တမင်တကာ ရွေးချယ်၍ သပ်သပ်ရပ်ရပ် ဖြစ်အောင် ဝတ်စား လာဟန် တူ၏။ သို့သော်လည်း အဝတ်အစားများက အညံ့စား။ သက္ကလတ်တု အစင်း အထူစားဖြစ်သည်။ အပေါ်မှ ထပ်ဝတ် ထားသည့် ဂျက်ကက် အင်္ကျီမှာ ခပ်တိုတို။ ကက်တလန် အင်္ကျီပုံမျိုး ဖြစ်သည်။ ပေါက်ပြဲနေသော ဖိနပ်များကို ဖုံးကွယ်ထားသည့် ဘောင်းဘီ အောက်နားများသည် လှိုင်းထသည့်နယ် တွန့်လိပ်လျက် ရှိသည်။ သူ့လက်ထဲတွင်မူ ဦးထုပ် အဝိုင်းတလုံး ကိုင်ထားသည်။

'ကဲ ... ဟေ့ ... သူငယ်၊ မင်းနာမည် ဘယ်သူ .. ကွ '

ကောင်စစ်ဝန်က လှမ်းမေးသည်။

' ဂျိုစီပါဆီညော်၊ ဂျိုစီဆန်တီယိုလို့ ခေါ်ပါတယ် '

'အေး ဟုတ်ပြီ၊ မင်းဟာ ... တဘက်ကမ်းခပ် ကျွမ်းကျင်တဲ့ ဥယျာဉ်မှူး တယောက် ဆိုကွ'

ဂျိုစီက ဖြူဖွေးလှပသော သွားများ ပေါ်လာသည်အထိ နစ်နစ်မြိုက်မြိုက် ပြုံးသည်။ သူ့အပြုံးမှာ ဟန်ဆောင်မှု လုံးဝမပါသော အပြုံးဖြစ်၍ နစ်လိုဖွယ်ရာ ကောင်းသည်။ သူ့အပြုံးကို ကြည့်ပြီး ပြန်၍ ပြုံးပြသောစိတ်သည် နီကိုလတ်စ်၏ စိတ်ထဲတွင် ဖြစ်ပေါ်လာသည်။

'ကျွန်တော်ဟာ မြေ တူးတတ် ဆွတတ်ပါတယ်၊ ပေါင်းမြတ် သုတ်သင် တတ်ပါတယ်၊ မြေကြီးကို ပြုပြင်တတ်ပါတယ်၊ စိုက်တတ် ပျိုးတတ်ပါတယ်...

http://www.shwezinu.com/



ဆီညော်၊ ကျွန်တော် ဂါသနာပါတဲ့ အလုပ်ပါ။ ဒါပေမယ့် တဘက် ကမ်းခပ် တတ်ပြောက် ကျွမ်းကျင်တယ်လို့တော့ မပြောနိုင်ပါဘူး '

'မင်း အလျင်က ဥယျာဉ်မှူး လုပ်ခဲ့ဖူးတယ် ...ဆို'

ဘရန်းဒီးက စိတ်မရှည်သော လေသံဖြင့် ရေရွတ်သည်။

' အို ... ဟုတ်ပါတယ် ဆီညော် ' ဟု ဂျိုစီက ကပျာကယာ ပြန်ဖြေသည်။

'ကျွန်တော် မွန်တာရီးဘက်က စပျစ်ခြံတွေမှာ သုံးနှစ်တိတိ အလုပ် လုပ်ခဲ့ဖူးပါတယ်၊ ဒါပေမယ့် အခုတော့ တောင်ကုန်းဒေသဘက်မှာ အလုပ် လက်မဲ့တွေ သိပ်များလာပါတယ် '

' မင်းမှာ ထောက်ခံစာတွေ ရှိသလား '

ဂျိုစီ မျက်နှာ ပျက်သွားသည်။ စိတ်ပျက်သွားပုံလည်းရ၏။ အပြုံးတော့ မပျက်။ သို့သော်လည်း သူ့အပြုံးသည် လျော့လျဲလျဲ။ အားမရှိတော့သည့် အပြုံး။ ဂျိုစီ၏ မျက်လုံးများသည် ကောင်စစ်ဂန် ကို ကြည့်နေရာမှ နီကို လတ်စ် ဆီသို့ ရောက်သွားသည်။

'ကျွန်တော်တို့ အနေနဲ့ ထောက်ခံစာတွေ ဘာတွေ ယူတတ်သိမ်းတတ်တဲ့ အလေ့အထ မရှိကြပါဘူး ..ဆီညော်၊ မွန်တားရားက စပျစ်ခြံပိုင်ရှင် ဒိုင်အာဂိုး ဘော်ဂါနီးကို မေးကြည့်လိုက်ရင် ကျွန်တော့် အကြောင်း ကောင်းကောင်း ပြောပြမှာပါ '

http://www.shwezinu.com/



'ဖေဖေ '

နီကိုလတ်စ်သည် စိတ်သက်သာရာ ရသွားသော အသံဖြင့် ဆီး၍ ခေါ်သည်။

' ကျွန်တော်က ဖေဖေ မလာတော့ဘူးလို့ ထင်တာ '

ကောင်စစ်ဝန်က တည်ငြိမ်သော မျက်နှာထားဖြင့် ပြန်ဖြေသည်။

' ဖေဖေဟာ ကိုယ်ပြုရမယ့် တာဝန်ဝတ္တရားကို အပျက်ခံတတ်တဲ့ လူစား မဟုတ်ဘူး နီကိုလတ်စ်'

' ကျွန်တော် ဖေဖေ မကြိုက်တာ လုပ်မိရင် ခွင့်လွှတ်ပါ ဖေဖေ၊ ကျွန်တော် တောင်းပန်ပါတယ်၊ တကယ် ပြောတာပါ '

နီကိုလတ်စ်၏ မျက်လုံးများတွင် မျက်ရည်များ စို့လာသည်။

' ဒါပေမယ့် ... ဖေဖေ မကြိုက်တာ ဘာလုပ်ခဲ့မိမှန်း ကျွန်တော် မသိဘူး '

' ကဲ ... ဘုရားရှိခိုးမယ်၊ ဒူးထောက်ထိုင်တော့ '

ကောင်စစ်ဝန်သည် ရပ်နေကျအတိုင်း သူ့သား၏ ဘေးမှ ဝင်ရပ်လိုက်ပြီး သူ့လက်တဘက်ကို သူ့သား၏ ပခုံးပေါ်သို့ တင်လိုက်သည်။

' မင်းတနေ့ တခြားကြီးလာပြီ နီကိုလတ်စ် ငါ့ဘဝမှာ ဘယ်လောက်အထိ အခက်အခဲတွေနဲ့ ရင်ဆိုင်ခဲ့ရတယ်၊ ဘယ်လောက်အထိ ခံစား ခဲ့ရတယ်ဆိုတာ

http://www.shwezinu.com/



မင်းသိရမယ်၊ နားလည်ရမယ်၊ မင်းအမေ ငါတို့ကို ပစ်သွားတဲ့အချိန်က စပြီး ငါ့မှာ ဘယ်လောက်အထိ တာဝန်ကြီးခဲ့တယ် ဆိုတာ မင်းသိသားပဲ၊ နောက်ဆုံး ငါ့မှာ အိပ်မပျော်ခဲ့ ရောဂါ ဒဏ်ကို တောက်လျှောက် ခံနေရတဲ့ဘဝ ရောက်ခဲ့ရတယ်၊ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲ ဒုက္ခတွေ ခံရတာ များလွန်းလို့ ငါ့မှာ အလုပ်ကို ဖိလုပ်ပြီး သက်သာရာ ရှာခဲ့ရတယ်၊ ဒီလောက်ဒုက္ခတွေ ခံခဲ့ရပေမယ့်... '

ကောင်စစ်ဂန်သည်။ မျက်ခုံးတဘက်ကို ပင့် လိုက်သည်။

'ဒီဒုက္ခတွေကြောင့်ပဲ ငါဟာ မင်းအပေါ်မှာ ပုံပြီး ချစ်ခဲ့ရတယ်၊ ငါ့ဘဝ တခုလုံးကို မင်းအမပေါ်မှာပဲ အပ်ထားခဲ့တယ် '

သူငယ်သည် ခေါင်းကိုငုံ့ထားသည်။ မျက်ရည်စများသည် သူ့မျက်တောင် နှစ်ဘက်တွင် တွဲလွဲခို နေကြ သည်။

'ဟုတ်တယ် နီကိုလတ်စ်၊ ငါဟာ မင်းရဲ့အဖေသာမဟုတ်ဘူး၊ မင်းရဲ့မိတ်ဆွေလဲ ဖြစ်တယ်၊ မင်းရဲ့ ဆရာလဲဖြစ်တယ်၊ မင်းရဲ့သူနာပြု ဆရာမဆိုရင်လဲ မမှားဘူး၊ ဒီအလုပ် ဒီတာဝန်တွေကို ငါယူရပေ မယ့် ပင်ပန်းတယ်လို့ ငါ မတွက်ခဲ့ဘူး၊ ငါ့စိတ်ထဲမှာ ရခဲ့တဲ့ ဒဏ်ရာကို ဆေးကုနေသလိုပဲ သဘော ထားခဲ့တယ်၊ ဒါဟာ မင်းကို ဖေဖေချစ်လွန်းလို့ပဲ၊ ဖေဖေရဲ့ တကိုယ်ကောင်းမဆန်တဲ့ အချစ်ဟာ အပြန်အလှန် သဘောအားဖြင့် မင်းဆီက တုံ့ပြန်မှုကို ရချင်တာ မင်းအပေါ်မှာ ချစ်သလောက် မင်းက

http://www.shwezinu.com/



ဖေဖေ့အပေါ်မှာ မချစ်တဲ့ အရိပ်အရောင်ကို ကနေ့ တွေ့လိုက်ရတော့ ဖေဖေ စိတ်ဆင်းရဲ ခဲ့ရတယ် '

'မဟုတ်ဘူး ဖေဖေ၊ မဟုတ်ပါဘူး '

နီကိုလတ်စ်က ကပျာကယာ ပြန်ပြောသည်။

' ဖေဖေ ထင်တာ မဟုတ်ဘူး၊ ဖေဖေဘာကြောင့် ဒီလိုထင်ရတာလဲ '

ထူးဆန်းသော အရိပ်အငွေ့သည် ကောင်စစ်ဝန်၏ မျက်နှာတွင် ထင်ဟပ်လာသည်။

' တချို့ဟာတွေကိုတော့ ဖေဖေ လက်ဆုပ်လက်ကိုင် မပြနိုင်ဘူး ... ငါ့သား၊ မင်း ပါးစပ်က အမှတ်တမဲ့နဲ့ ပြောလိုက်တဲ့ စကားတခွန်း...၊ အကြည့် ...၊ ပြီးတော့ ကိုယ်နှုတ်အမူအရာ... '

' မဟုတ်ဘူး...ဖေဖေ၊ လုံးဝ မဟုတ်ဘူး '

နီကိုလတ်စ်၏ အသံမှာ ကျယ်လာသည်။

'ကျွန်တော် ဖေဖေ့ကို ချစ်တယ်၊ ကျွန်တော် ချစ်မှန်းလည်း ဖေဖေ သိပါတယ်၊ မေမေက ဖေဖေ့ အပေါ်မှာ ရက် ရက်စက်စက် လုပ်သွားခဲ့ပေမယ့် ကျွန်တော် မလုပ်ပါဘူး၊ ကျွန်တော် ဖေဖေနဲ့ ဘယ်တော့မှ မခွဲပါဘူး၊ အမြဲတမ်း အတူတူ နေသွားမှာပဲ'

http://www.shwezinu.com/



နီကိုလတ်စ်သည် ပြောနေယင်းမှ ရှိုက်ကြီးတငင် ငိုသည်။ ဂမ်းနည်းပတ်လက် ငိုကြွေး နေခြင်း ဖြစ်၍ သူ့တကိုယ်လုံး တုန်ယင်လှုပ်ရှားလျက် ရှိသည်။ ငိုနေရင်းမှပင် သူ့အဖေ၏ လည်ပင်းကို သူ့လက်နှစ်ဘက် ဖြင့် သိမ်းဖတ်လိုက်၏။

' ငါ့သားလေး '

ကောင်စစ်ဂန်သည် သူ့သားကို တယုတယ ပြန်ဖက်ကာ ဆွေးဆွေးမြည့်မြည့် ရေရွတ်သည်။ သူ့အား တင်းကျပ်စွာ ဖက်ထားသော သူ့သား၏ နလုံးခုန်သံမှာ မြန်ဆန်လွန်းလှ ချေသည်။ သူသည် သက်ပြင်း ကို လေးတွဲစွာ ချလိုက်ပြီး မျက်စိများကို စုံမှိတ်ထားလိုက်သည်။

နောက်ဆုံးတွင် သူသည် သူ့အားဖက်ထားသည့် သားဖြစ်သူ၏ လက်နှစ်ဘက်ကို အသာအယာ ဆွဲဖယ်သည်။ ပြီးတော့ အလွန် နူးညံ့သာသော အပြုံးဖြင့် ကြည့်လိုက်သည်။

' ကဲ ... အခု ဘုရား ရှိခိုးတော့ ... ငါ့သား၊ ဖေဖေ ရှေ့က ဆိုပေးမယ် '

***************

http://www.shwezinu.com/



## အခန်း (၅)

သူ၏ သံသယနှင့် သူ၏ဆန္ဒကို ထုတ်ဖော်ပြောပြလိုက်ရသဖြင့် ကောင်စစ်ဝန်၏ ရင်သည် များစွာမှပင် ပေါ့ပါးသွားသည်။ သူ့သဘောထားကို သဘောပေါက် နားလည်သွားသဖြင့် သူ့သား နီကိုလတ်စ် ကိုယ်တိုင် ကလည်း ယခင်ကထက် အဆများစွာတိုး၍ သူ့အပေါ် သံယောဇဉ်ရှိလာသည်ဟု သူ ယုံကြည်သည်။ နှစ်ဦးကြားတွင် ရှိနေသည့် အခုအခံများ ကင်းစင်ပြီး အညီအညွတ် ပြန်ဖြစ်လာရသဖြင့် ဘရန်းဒီးမှာ စိတ်လက် ကြည်လင် ချမ်းမြေ့ခြင်း ဖြစ်ခဲ့ရ၏။

သို့သော်လည်း သူ့စိတ်သည် ဂျူစီအပေါ်၌ အတင်အကျ ရှိလာခဲ့သည်။ ထိုနေ့က သူတို့ သားအဖကြားတွင် အထင်မှားအမြင်မှား ဖြစ်အောင် ဖန်တီးခဲ့သူမှာ ဂျူစီဟုသူစွဲသည်။ ဂျူစီကြောင့် သူသည် သူ့သားအပေါ်၌ တဒင်္ဂ အားဖြင့် ချစ်ခင်တွယ်တာမှုပင် လျော့နည်းသွားခဲ့ရ၏။

နံနက်ခင်း သူ ရုံးသွားပြီဆိုလျှင် ဥယျာဉ်မှူး ဂျူစီသည် သူ့အား ပြုံးရွှင်သော မျက်နှာဖြင့် ဆီးကြိုကာ တရိုတသေ တလေးတစား အလေးပြု၍ နှုတ်ဆက်နေကျ ဖြစ်သည်။ သူကလည်း ဂျူစီ၏ နှုတ်ဆက်မှု ကိုယ် နှုတ်အမူအရာဖြင့် တုံ့ပြန်၍ အသိအမှတ်ပြုနေကျ ဖြစ်၏။ သို့သော်လည်း အခုကျတော့ သူစိတ်ပြောင်း သွားခဲ့လေပြီ။ ဂျူစီနှင့်တွေ့လျှင် တမင်သက်သက် မမြင်ဟန် ဆောင်သည်။ မျက်နှာကို လွှဲထားသည်။ မျက်လုံးများကို

http://www.shwezinu.com/



ရှေ့တည့်တည့်သို့ စူးစိုက်ထားသည်။ ဂျိုစီ၏ မျက်နှာကို မကြည့်ချင်သည့် သဘော ပေါ်လွင် ထင်ရှားအောင် ပြသည်။

ထိုကဲ့သို့ ပြုလုပ်နေသည့် ကြားမှပင် သူသည် ဂျိုစီ၏ နပိုလျှန်းဆန်းပုံ၊ မြက်ရိတ် တံစဉ်ကြီးကို ကျွမ်းကျင်စွာ ကိုင်တွယ်၍ တလှုပ်လှုပ် လုပ်ကိုင်နေသော အပင်ပန်း ခံနိုင်မှုနှင့် ရိုးသားဖော်ရွေပြီး နှစ်လိုဖွယ် ကောင်းသော အပြုံးများကို သတိထားမိနေသည်။ မည်သို့ပင်ဖြစ်စေ ဂျိုစီအပေါ်၌ မနှစ် သက်သည့် စိတ် ကတော့ ပျောက်မသွား။ လျော့နည်းသွားသည် ဟုလည်း မရှိ။ တနေ့တခြား တိုး၍ သာလာသည်။ သူ့ရုံး ရောက်ချိန် အထိ ဂျိုစီ၏ အကြောင်းသည် ခေါင်းထဲကမထွက်။

ဤစိတ်လှုပ်ရှားမှုကို မကောင်းမှန်းသိသဖြင့် သူ့ရင်ထဲမှ ဖယ်ထုတ်ပစ်ရန် ကြိုးစားသည်။ သူ့လက်အောက်မှ သာမန်အစေခံတယောက်အတွက် သူ့စိတ်တွင် ဤမျှလောက်အထိ အနှောင့်အယှက် ဖြစ်သင့်ပါ၏လော။ အစေခံမှာ မလောက်လေးမလောက်စားဟု ဆိုရမည့် အလွန်ဆင်းရဲနိမ့်ကျသော မြို့ခံ လူငယ် တယောက် မျှသာ ဖြစ်၏။ သို့ပါလျက်နှင့် ဤမျှလောက်အထိ ခေါင်းအရှုပ်ခံ၍ စဉ်းစားနေသင့်ပါ၏လော။ ဂျိုစီသည် မသိ နားမလည် ရှာသော နီကိုလတ်စ်အား ပီလိုတာ ဘောလုံး ကစားရာ၌ သူအလွန်တော်ကြောင်း၊ ကျွမ်းကျင်ကြောင်း ပါကြွားကာ ဘောလုံးပွဲကို ကြည့်ချင်လာ အောင် သွေးဆောင်ခဲ့သည်မှာ သံသယဖြစ်ဖွယ်မရှိ။

http://www.shwezinu.com/


အတွေ့အကြုံ နည်းရှာသော နီကိုလတ်စ်ကလည်း သူ့စကားကို နားယောင်ကာ ဘောလုံးပွဲကြည့်ချင်စိတ် ပေါ်လာခဲ့ခြင်းဖြစ်မည်။ သူတို့နှစ်ဦး၏ ခင်မင်မှုသည် ထိုအခြေအနေထက်တော့ ပိုလိမ့်မည်မထင်။ မည်သို့ ပင်ဖြစ်စေ သံသယကတော့ မပျောက်သေး။ ထူးဆန်းလှသော သဂန်ကြောင်စိတ်သည် ကောင်စစ်ဂန်၏ ရင်ထဲတွင် ဖြစ်ပေါ်လာသည်။ ထိုစိတ်နှင့်အတူ ဂျိုစီ၏အပေါ်၌ မုန်းတီးရွံ့ရှာသောစိတ်သည် တနေ့ထက် တနေ့ တိုးတက် ကြီးထွားလာလျက် ရှိလေသည်။

ဤအချက်ကို ဂျိုစီကတော့ လုံးဝမသိပေ။ သို့သော်လည်း နံနက်တိုင်း သူ့အလုပ်ရှင်နှင့် ဆုံမိသည်။ ဆုံမိသည့် အခါတိုင်း သူ့သခင်၏ မျက်နှာထားမှာ သူ့အပေါ် အလိုမကျသည့် ပုံမျိုးဖြစ်နေသည်ကို ရက်ကြာလာသောအခါ ရိပ်မိလာသည်။ ထိုအခါ စိုးရိမ်စိတ်ဝင်လာသည်။ သူ့သခင် မကျေနပ်အောင် သူ ဘာများလုပ်မိပါလိမ့်ဟု တွေးစပြုသည်။ ဆန်ဂျော်ဂျီမြို့တွင် အလုပ်တခုရဖို့ ဆိုသည်မှာ လွယ်သည်မဟုတ်။ သူသည် သူ့အမေ မာရီယာနှင့် နှမများအပြင် အဘိုးမက်ဒရိုတို့ အား လုပ်ကျွေးသမှု ပြုနေသူဖြစ်သည်။

သူ့မှာသာ အလုပ်မရှိလျှင် သူ့အား မှီခိုအားထား၍ စားသောက်နေကြရရှာသည့် ဤလူစုံဒုက္ခဆင်းရဲနှင့် ကြုံကြ ရပေတော့မည်။ ဂျိုစီသည် အလုပ်ပြုတ် မည်ကို ကြောက်စိတ်ဖြင့် ယခင်ကထက် အလုပ်ကိုတဆတိုး၍ ကြိုးစားလုပ်သည်။ အလုပ်ခွင်သို့လည်း ယခင်က လာနေကျအချိန်ထက် နာရီဝက်စော၍ ရောက်အောင် လာသည်။ အပြန်ကျတော့လည်း စောစောစီးစီး မပြန်။ နေဝင်ခါနီးမှ ပြန်သည်။

http://www.shweizinu.com/



တမနက်ခင်းတွင် ဂျိုစီသည် ကျောက်ဆောင် နံရံတဘက်ရှိ မရှင်းလင်းရသေးသော မြေကွက်ထဲတွင် အလုပ် လုပ်နေရင်းနှင့် ရေညှိများ ထူထပ်စွာ တက်လျက်ရှိသော နေရာ တနေရာတွင် မိုင်ယာတဲလ် ပန်းချုံ တချုံကို တွေ့သည်။ ဤပန်းပင်မျိုးမှာ အလေ့ကျ ပေါက်သည့် အပင်မျိုး ဖြစ်သော်လည်း တဆယ့် နှစ်ရာသီလုံး အမြဲတစေ စိမ်းလန်း စိုပြည်နေသော အပင်မျိုးဖြစ် သည်။

အပွင့်ကျတော့လည်း အလွန်လှ အလွန်မွှေးသဖြင့် လူတိုင်းက နှစ်သက်ကြသည်။ အခု သူ တွေ့နေသော မိုင်ယာတဲလ်ပင် မှာ အပွင့်များ ပွင့်လျက်ရှိ၏။ သူသည် ပန်းများ၏ အလှတွင် အတန်ကြာမျှ သာယာ လိုက်ကာ ပန်းများကို တယုတယ ခူးယူသည်။ ပြီးတော့ စိုက်ပျိုးပစ္စည်းများ ထားရာ တဲဆီသို့ ပြန်လာခဲ့ပြီး ပန်းများ ကို လျှော်ပင်တပင်နှင့် လှနေအောင် စည်းလိုက်သည်။ တဲနံရံတွင် ချိတ်ထားသော မှန်ကွဲ တချပ် တွင် သူ့မျက်နှာကို ကြည့်ကာ ဖွာရရာကြဲနေသော ခေါင်းမှ ဆံပင်များကို လက်နှင့် သပ်၍ ပြုပြင်သည်။ ထို့နောက် အိမ်ရှေ့ဆင်ဂင်အောက်သို့ သွားရပ်သည်။ သူကြာကြာ မစောင့်လိုက်ရပေ။ သူ့သခင် အိမ်ရှေ့ ဂရန်တာ ဘက် အထွက်နှင့် ကြုံကြိုက်သည်။

'ဆီညော်..' ဟု ဂျိုစီက အသံပြုသည်။ သို့သော်လည်း ဘာဆက်ပြောရမှန်းမသိ။ စောစောကပြောဖို့ စိတ်ကူးစီစဉ်ထားသမျှ စကားလုံးများသည် ဘယ်ဆီရောက်မှန်းမသိ။ သူသည် တချက်မျှ ပြုံးလိုက်ပြီး လက်ထဲမှ ပန်းစည်းကို လှမ်းပေးသည်။

http://www.shwezinu.com/



ခဏမျှ ငြိမ်ဆိတ်သွားသည်။ ကောင်စစ်ဝန်သည် ကျောပေး၍ရပ်နေရာမှ စိတ်မပါ့တပါဖြင့် နောက်သို့ လှည့်ကြည့်သည်။ ပီလိုတာ ဘောလုံးပွဲ ပြီးကတည်းက ဂျိုစီ၏ မျက်နှာကို သူမကြည့်ခဲ့။ ယခုအကြိမ်သည် ပထမဆုံး အကြိမ် ပြန်၍ကြည့်ခြင်း။ ဂျိုစီ၏ အပေါ်၌ မကျေမနပ်ဖြစ်နေသော စိတ်ကို သူ မျိုသိပ်ထားခဲ့ ရသည်မှာ ကြာပြီ။ အခု ကျတော့ ပေါက်ကွဲလုနီးနီးဖြစ်လာသည်။ သို့သော်လည်း အတွေ့အကြုံများသူ ပီပီ သူ့ကိုယ်သူ ထိန်းနိုင်သည်။

' ဘာလဲကွ ဟေ ' ဟု သူက လှမ်းမေးသည်။

' ဆီညော် အတွက် ပန်းစည်းတစည်း လာပို့တာပါခင်ဗျာ၊ နွေဦးပေါက်မှာ ပထမဆုံးပွင့်တဲ့ပန်းပါ '

' ဒီပန်းတွေကို မင်းခူးပစ်လိုက်တယ်ဆိုပါတော့ ဟုတ်လား'

' ဟုတ် ... ဟုတ်ပါတယ် ... ဆီညော် '

' မင်းမှာ ဒါမျိုး လုပ်ခွင့် မရှိဘူးကွ၊ ဒီပန်းတွေဟာ ငါ ပိုင်ဆိုင်တဲ့ပန်းတွေ၊ ပန်းတွေကို အခုလို ခူးပစ်တာ ငါ လုံးဝ မကြိုက်ဘူး၊ ဥယျာဉ်ထဲက သူ့အပင်မှာ သူ့လာသာသူပွင့်နေတာပဲ ငါကြိုက်တယ်'

' ဒါပေမယ့် ... ကျွန် ... ကျွန်တော်က ... ဟို ... ဟို ... ဆီညော် '

ဂျိုစီ ဘယ်လို ပြောရမှန်းမသိ။ အထစ်ထစ် အငေါ့ငေါ့ ဖြစ်လျက်ရှိ၏။

http://www.shwezinu.com/



'တော်ပြီ၊ ဘာမှ ထပ်မပြောနဲ့၊ မင်းဟာ အလွန်မိုက်မဲတဲ့ အကောင်ပဲ၊ ခေါင်းလဲ တော်တော်မာပုံ ရတယ်၊ မင်းကိုယ် မင်းလဲ တော်တော် အထင်ကြီးပုံပေါ်တယ်၊ နောင် ဒါမျိုး မဖြစ်စေနဲ့၊ ငါ ပြောတာ နားလည်လား '

ကောင်စစ်ဂန်၏ အေးစက်မာကျောလွန်းလှသော အကြည့်အောက်တွင် ဂျိုစီသည် မျက်လွှာကိုချကာ မလှုပ် မယှက် ရပ်နေသည်။ ကောင်စစ်ဂန်၏ စကားများသည် သူ့စိတ်ကို ထိခိုက်စေ ရှုံ့မှုမက နာကျည်း စေသည်။ အရှက်လည်း ရစေသည်။ သူသည် လက်တွင်း၌ ဆုပ်ကိုင် ထားဆဲ ဖြစ်သော ပန်းစည်းကို ငုံ့ကြည့်နေမိ၏။ ပန်းပွင့်များကတော့ အစွမ်းကုန် လှပနေကြပေသည်။ သူကတော့ တဘက်သား သဘောကျ နှစ်ခြိုက်လိမ့်မည် ဟူသော မျှော်လင့် ချက်ဖြင့် လုပ်လာခဲ့မိခြင်းဖြစ်သည်။ အခုတော့..။

သူသည် ကောင်စစ်ဂန်၏ ရှေ့မှောက်မှ ဖြည်းလေးစွာ ထွက်လာခဲ့သည်။ သူ့အလုပ်ရှိရာ မြေကွက်ဆီသို့ ပြန်လျှောက် လာသည်။ ထိုအခိုက်မှာပင် မော်တော်ကားဘေး၌ ရပ်နေသော ဂရေစီယာကို လှမ်းမြင်သည်။ ဂရေစီယာ သည် သူ့အား ပြုံးဖြဲဖြဲလုပ်၍ ကြည့်နေသည်။ သူ့အပြုံးမှာ သရော် လှောင်ပြောင်သည့် အပြုံး။ သူ့အဖြစ် ကို အစအဆုံး မြင်ပုံရ၏။ ဂျိုစီ၏ မျက်နှာတခုလုံး ထူပူသွားသည်။ သူသည် နှုတ်ခမ်းကို ကိုက်ကာ ချာကနဲ လှည့်ထွက်လာခဲ့လေ၏။

***************

http://www.shwezinu.com/


မော်တော်ကားသည် မြို့ဘက်သို့ ဦးတည်၍ မောင်းလာသည်။ ကောင်စစ်ဝန်သည် အမိုးဖွင့်ထားသော ကားထဲတွင် ကိုယ်ကိုမတ်၍ ခန့်ထည်စွာ ထိုင်လျက်ပါလာသည်။ လေနအေး သည် သူ့အား တိုးဝှေ့ ကျီစယ် လျက်ရှိ၏။ သူ့စိတ်သည် ပီတိဖြစ်သော အရှိန်ဖြင့် ကျေနပ်အားရလျက် ရှိသည်။ သူ့ရင်ထဲ၌ ကျိတ်၍ မျိုသိပ် ထားခဲ့ရသော မုန်းတီးစက်ဆုပ်မှုကို တနည်းနည်းဖြင့် ထုတ်ဖော် ပြသခဲ့ရသဖြင့် ပေါ့ပါး လန်းဆန်း လျက် ရှိသည်။ ရုံးထဲ ဝင်လာသောအခါ အပြင်ခန်းတွင် စာရွက်စာတမ်း တထပ်ကြီးဖြင့် အလုပ်ရှုပ်နေသော အေလ်ဗင် ဘာတန်ကိုတွေ့သည်။ စိတ်လက် ကြည်သာ နေချိန်များတွင် လုပ်တတ်သည့် အကျင့်ဂသီ အတိုင်း ကောင်စစ်ဝန်သည် ဘာတန်အား လှိုက်လှိုက်လှဲလှဲ နှုတ်ဆက် စကားပြောသည်။

'မင်္ဂလာနံနက်ပါ ဘာတန်၊ စကားမစပ် ပြောရဦးမယ်၊ ကာဆာဘရီဇာ အိမ်ကြီးကို မင်းတို့ လင်မယား လာလည် ဖို့တော့ အချိန်ကျလာပြီ'

သူ့လက်ထောက်ကတော့ အံ့ဩကျေနပ်သော မျက်နှာထားဖြင့် သူ့မျက်နှာကို ကြည့်နေသည်။

'လာမယ့် တနင်္ဂနွေနေ့မှာ မင်းတို့ အလည်လာခဲ့ ကြ၊ လာရင်လည်း နေ့ခင်းပိုင်းမှာ လာခဲ့ကြ၊ မင်းတို့ကို လက်ဖက်ရည်နဲ့ ဧည့်ခံမယ် '

'ကျေးဇူး တင်ပါတယ်ခင်ဗျာ ' ဟု ဘာတန်က ဝမ်းသာအားရ ပြန်ပြောသည်။

http://www.shwezinu.com/



'သိပ်ကို ကျေးဇူး တင်ပါတယ် … ခင်ဗျာ၊ ကျွန်တော် သိသလောက် ပြောရရင် ကျွန်တော့် ဇနီး မစွက်ဘာတန်ကလည်း … '

' ခဏနေဦး ' ဟု ကောင်စစ်ဝန်က ကြားဖြတ်၍ တားသည်။

' လာရင် ငါးနာရီတိတိ အရောက်လာ၊ အချိန် နောက် မကျစေနဲ့ '

သူသည် စကားဆုံးသည်နှင့် တပြိုင်နက် သူ့ရုံးခန်းထဲသို့ ဝင်ရောက်သွားသည်။ ယနေ့မှရောက်လာ သော 'ပါရီပွဲတင်သံဂျာနယ်' သည် သူ့စားပွဲပေါ်မှ အသင့် ဆီးကြိုနေသည်။ ပေါ့ပါးသွက်လက်နေသော သူ့စိတ်သည် ဂျာနယ်ကို ဖတ်ဖို့ စိတ်မဝင်စား။ အရေးကြီးသောစာ ဝင် မဝင် ကြည့်သည်။ မဝင်။ သူသည် ဆုံလည်ကုလားထိုင်ပေါ်တွင် ထိုင်ကာ စားပွဲ၏ အောက်ဆုံး အံဆွဲထဲ၌ ထည့်ထား သည့် အထုပ် တထုပ်ကို ယူလိုက်သည်။ တနေ့ကမှ အိမ်ကယူလာသည့် အထုပ်…။ အထုပ်မှာ တခြားမဟုတ်။ သူ၏ 'မေဘာရန်းချီး အပေါ် ဂေဖန်သုံးသပ်ချက် ' အမည်ရှိ လက်ရေးစာမူ…။

ဤ ကမ္ဘာပေါ်ရှိ လူသားများ အဖို့တော့ နီကို လတ်စ် မေဘာရန်းချီးသည် လူမသိသူမသိ သာမည လူတယောက် ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။ သို့သော်လည်း ဟာရင်တန် ဘရန်းဒီး အဖို့တော့ အားလုံး၏ မေ့လျော့ခြင်း ကို ခံထားရသော ဤပြင်သစ် အမျိုးသားသည် အလွန်စံနမူနာပြုအပ်သည့် ပုဂ္ဂိုလ် တဦး ဖြစ်နေသည်။ မေဘာရန်းချီးသည် ဆယ့်ရှစ်ရာစုနှစ်အတွင်းတွင် ဒက်စ်ကားတီးစ်၏ ဟောပြောချက်များကို ခွဲခြမ်းစိတ်ဖြာပြီး ဘာသာတရားနှင့်

http://www.shwezinu.com/


ယှက်နွယ်သည့် သူပိုင် ဒဿနိကအမြင် ပညာရပ်တခု ဖြစ်လာအောင် ကြိုးပမ်း တင်ပြခဲ့သူ တဦးဖြစ်၏။

မေဘရန်းချီး၏ ဒဿနိကအမြင်ကို လေ့လာဖတ်ရှုရင်းကပင် သူ၏ စိတ်နေစိတ်ထားနှင့် အပြုအမူ အကျင့်အကြံများကို သူ ကောင်းစွာ နားလည်သော ဘဝသို့ ရောက်ခဲ့ရသည်။ ထို့ကြောင့်လည်း သူ့ကိုယ်သူ မေဘရန်းချီး၏ ဒဿနိက အမြင်ကို ပထမဆုံး စနစ်တကျ ခွဲခြမ်း စိတ်ဖြာ ပြောပြနိုင်သူ တယောက်အဖြစ် မြင်လာ ခဲ့သည်။

ထိုအမြင်အရ လွန်ခဲ့သော ဆယ်နှစ်ကျော်ကျော်ခန့်မှစ၍ သူသည် သူကြည်ညိုကိုးကွယ်ခဲ့သော မေဘရန်းချီး ၏ ဘဝအကြောင်းကို ရသမျှ မှတ်တမ်းမှတ်စု စာအုပ်များထဲမှ ရှာဖွေစုဆောင်းပြီး စာအုပ် တအုပ် ရေးခဲ့သည်။ သူရေးထားပြီးသား စာမူ၏ ပထမပိုင်းကို ထင်ရှားသော စာအုပ်တိုက်များသို့ အကြိမ်ကြိမ် အထပ်ထပ် ပေးပို့ခဲ့ဖူးပြီ ဖြစ်၏။ သို့သော်လည်း မည်သည့် စာအုပ်တိုက်ကမျှ ထုတ်ဝေလိုသော ဆန္ဒမရှိ။

စာမူ၏အကြောင်းအရာနှင့် အရေးအသား အပေါ်တွင်လည်း နည်းနည်းလေးမှ စိတ်ဝင်စား ဟန်မပြ။ ထိုအဖြစ်နှင့် ရင်ဆိုင်ရသောအခါ ကောင်စစ်ဝန်သည် အကြီးအကျယ် ဒေါသူပုန်ထခဲ့သည်။ သူ၏ စာမူ အပေါ် တွင် မည်သူကမှ အထင်မကြီးသော်လည်း သူကတော့ အထင်ကြီးသည်။ သူ့စာမူသည် လူပြိန်းများ နားလည်နိုင်မည့် စာမူမဟုတ်။ လူဖျင်း လူညံ့များအဖို့တော့ သူ့စာမူသည် နှစ်သက် လက်ခံ နိုင်လိမ့်မည် မဟုတ်။

http://www.shwezinu.com/



နောက်ဆုံး တနေ့ သူ့စာမူကို ထုတ်ဝေလိုသူ တဦးမှ မရှိပါကလည်း သူကိုယ်တိုင် သူ့စရိက်နှင့်သူ ထုတ်ဝေမည်ဟု အခိုင်အမာ ဆုံးဖြတ်ထားသည်။ အကယ်၍ သူ့စာအုပ်သည် ဥရောပတိုက် နိုင်ငံ အသီးသီးမှ ပညာရှိ ကဂိ သုခမိန်များ လက်တွင်းသို့ ရောက်သွားခဲ့ပါမူ တရှိန်ထိုး ကျော်ကြားသွား လိမ့်မည်ဟု သူ တထစ်ချ ယုံကြည်ထားသည်။ မည်သို့ပင်ဖြစ်စေ သူကတော့ နီကိုလတ်စ် မေဘရန်းချီးကို လေးစား ကြည်ညို သည်။ ထို့ကြောင့်လည်း ဤစာအုပ်ကို ရေးဖြစ်ခဲ့ရသည်။ ထို့ ကြောင့်လည်း သူ့ဇနီးသည် အတန် အတန် တားမြစ်ကန့်ကွက်နေသည့်ကြားမှပင် သူ့သားကို ဖရန့် စစ်နီကိုလတ်စ်ဟု အမည်မှည့်ခဲ့၏။

အမှန်တော့လည်း သူ့ဇနီး မာရီယွန်သည် သူ များစွာ စိတ်ဝင်စားလျက်ရှိသော ဤစာအုပ်အပေါ်တွင် စိတ်ဝင်စားသူ မဟုတ်။ အားပေးရစကောင်းမှန်း လည်းမသိ။ ဤအဖြစ်မှာလည်း သူ့အဖို့ အလွန်ဂမ်းနည်း စိတ်ထိခိုက်ခဲ့ရသော အဖြစ်တခုဟုပင် ယူဆသည်။ သူကတော့ မိန်းမအပေါ် ချစ်မြတ်နိုးသောစိတ်ဖြင့် သူ၏ ထိပ်ထိပ်ကျဲ လက်ရာဟု ယုံကြည်ထားသည့် ဤစာမူအခန်းအချို့ကို ဖတ်ခိုင်းခဲ့သည်။ ပြီးတော့ ထင်မြင်ချက် ပေးဖို့ တောင်း ခဲ့သည်။

'ကျွန်မ မပေးတတ်ဘူး...၊ ဒီအကြောင်းအရာတွေကို စိတ်လဲ မဝင်စားဘူး...၊ ဉာဏ်လဲမမီဘူး' ဟု သူ့မိန်းမ က ငြင်းသည်။

http://www.shwezinu.com/



'စိတ်မဝင်စားဘူး ဉာဏ်မမီဘူးဆိုတာ သဘာဝကျပါတယ်၊ ဒသနိက အမြင်တခုကို မင်းနားလည်လာဖို့လဲ ကိုယ် မမျှော်လင့် ပါဘူး၊ ဒါပေမယ့် ကိုယ့်ရဲ့ရေးဟန်ရယ်၊ ဇာတ်ကြောင်းရယ်၊ ပြီးတော့ အသက်ဝင်မှု ရှိ မရှိရယ်... ဒါတွေကို ဝေဖန်ပေးဖို့ ပြောတာပါ '

' အို ... ကျွန်မလုံးဝ စိတ်မဝင်စားလို့ပါ ဟာရင်တန်ရယ်... ဝေဖန်နိုင်တဲ့ အရည်အချင်းလဲ ကျွန်မမှာ မရှိဘူး မဟုတ် လား '

' အို ... ကွာ ၊ မင်းကလဲ၊ လုပ်ပါကွာ ... '

သူကလည်း နောက်သလိုပြောင်သလိုနှင့် ဖွတ်ခိုင်းသည်။

'မင်းကြိုက် သလိုသာ ဝေဖန်စမ်းပါ၊ အမှန်အတိုင်းသာ ရဲရဲဝေဖန်စမ်းပါ...၊ ကိုယ်လက်ခံပါတယ်'

မာရီယွန် ငြိမ်ဆိတ်သွားသည်။ ထို့နောက် သူ့ကိုကြည့်၍ ပြုံးသည်။ မာရီယွန်၏အပြုံးတွင် သူတွေ့ နေကျ မြင်နေကျ အရိပ်အငွေ့ ကလေးကတော့ ယှက်သန်းလျက်ပင်...။

'ကျွန်မ ဝေဖန်မှ ဖြစ်မယ်ဆိုရင်လည်း ဝေဖန်ရတော့မှာပေါ့၊ ရှင့်စာအုပ်ဟာ အလွန်စိတ်ပျက်စရာ ကောင်းလောက်အောင်ကို ပျင်းစရာ ကောင်းတဲ့ စာအုပ်တအုပ်လို့ ကျွန်မတော့ ထင်တာပဲ '

အခုတော့လည်း ဤအရာများသည် အတိတ်၏ အရိပ်များ ဖြစ်သွားကြလေပြီ။ သူ့စာမှာ ပြီးလုပြီးခင် ဖြစ်နေပေပြီ။ မည်သည့်

http://www.shwezinu.com/

အကြောင်းကြောင့်မှ နောက်တွန့်နေစရာ မလိုတော့ဟုပင် သူ ယူဆသည်။ ကောင်စစ်ဂန် သည် စားပွဲပေါ်မှ ကလောင်တံကို လှမ်းယူလိုက်သည်။

သို့သော်လည်း ရုတ်တရက် ချက်ချင်း မရေးနိုင်။ မမျှော်လင့်ပဲနှင့် တွေတွေငေးငေး ဖြစ်သွားသည်။ မနက်က မြင်ခဲ့ရသည့် ဂျိုစီ၏ မျက်နှာ။ အသိဉာဏ်ပညာ ကင်းမဲ့လွန်းလှသော ဂျိုစီ၏ မျက်နှာသည် ရှက်ခြင်း၊ ကြောက်ခြင်း နှင့် စိတ်ထိခိုက်ခြင်းတို့ကို ဖော်ပြခဲ့၏။ ကောင်စစ်ဂန်သည် ကျေနပ်အားရစွာဖြင့် တချက်မျှ ပြုံးလိုက် ပြီး သူ့စာအုပ်ကို ဆက်ရေးလေ၏။

***************

http://www.shwezinu.com/

**အခန်း (၆)**

တနင်္ဂနွေနေ့သို့ ဆိုက်ရောက်လာသောအခါ ကောင်စစ်ဝန်သည် ဘာတန်တို့ လင်မယားအား အိမ်အပြင် ပန်းဥယျာဉ်ထဲ၌ ဧည့်ခံမည်ဟု ဆုံးဖြတ်လိုက်သည်။ ထိုနေ့ မွန်းလွဲပိုင်းမှာ သာယာ၍ နွေးနွေး ထွေးထွေး ရှိသည်။ အခုလို ရာသီတွင် နေကလည်း စောစော ဝင်တတ်သဖြင့် သူ့ဧည့်သည် များသည် အိမ်တွင် ကြာကြာ အချိန်ဖြုန်းနေဖို့ အခွင့်အရေးရစရာ အကြောင်းမရှိ။ ကောင်စစ်ဝန်သည် ဂရေစီယာအား ခေါ်၍ ပန်းခုံး တခု အောက်တွင် စားပွဲတလုံးချခိုင်းသည်။

ပေါင် မုန့်ဆင်းဒဂစ်များ၊ ဘက်တာ ရိုးလ်ကိတ် များ၊ စပိန်ဘာသာဖြင့် ပန်ဒီဂျော့ံဟု ခေါ်သော ကိတ်မုန့် များနှင့် လက်ဖက်ရည်ပွဲတခု စီစဉ် ပေးရန် အမိန့်ပေးသည်။ စပိန်မုန့်ကို အထူးတလည် ထည့်၍ မှာခြင်းမှာ ဘာတန် ၏ ဇနီးအနေဖြင့် ထိုမုန့် ကို သဘောကျလိမ့်မည်ဟု သူ တွေးမိ၍ ဖြစ်လေသည်။

ကောင်စစ်ဝန် အဖို့တော့ ထိုနေ့သည် စိတ်ချမ်းသာ ကိုယ်ချမ်းသာ ရှိသည်။ သူ့သား နီကိုလတ်စ်နှင့် အတူ တမနက်ခင်းလုံး သားအဖ နှစ်ယောက်တည်း ဆယ့်ရှစ်ရာစုခေတ်က အင်ဒါလူစီယန် ပန်းချီ ကား စာအုပ် ကြည့်ရင်း အချိန်ကုန်ခဲ့ကြ၏။ ထိုစာအုပ်မှာ သူ့ရုံးအနီးရှိ စာအုပ်ဆိုင်လေး တဆိုင်မှ သူကိုယ်တိုင် ပီဆိုငွေအနည်းငယ်မျှနှင့် ဝယ်လာခဲ့ခြင်း ဖြစ်၏။

http://www.shwezinu.com/


သူသည် နက်ပြာရောင် ဂျတ်စုံနှင့် ထိုင်နေသော သူ့သား ကို လှမ်းကြည့်ပြီး ပီတိဖြစ်လျက်ရှိသည်။ သူ့သား နီကိုလတ်စ်သည် ယခင် ကထက် အနည်းငယ် ပို၍ ဂလာသယောင်ရှိသည်။

ယခင်က အမြဲတစေ ဖြူရော်ရော် ရှိနေခဲ့သော အသားအရေ မှာလည်း အညိုရောင်သို့ ပြောင်းလဲလျက်ရှိ၏။ သူ့သား ၏ ကျန်းမာရေး အခြေအနေ သည် ဤအိမ်ရောက်ခါမှပင် သိသိသာသာ တိုးတက် ကောင်းမွန် လာသည်ဟု သူထင်သည်။

အေလ်ဗင် ဘာတန်တို့ လင်မယားသည် ချိန်းထားသည့် အချိန်တွင် အငှားကား တစီးဖြင့် ရောက် လာသည်။ ကောင်စစ်ဂန်က တလေးတစား ဆီးကြို နှုတ်ဆက်ပြီး ပန်းဥယျာဉ်ထဲတွင် ခဏတဖြုတ် လျှောက်ကြည့်ဖို့ ဖိတ်ခေါ်သည်။ အေလ်ဗင်ဘာတန်နှင့် နီကိုလတ်စ်တို့ရှေ့မှ လျှောက်သွား နေစဉ်အတွင်း သူက မစ္စက် ဘာတန်နှင့်တွဲ၍ နောက်မှ ခပ်ဖြည်းဖြည်း လျှောက်လိုက်သည်။ မစ္စက်ဘာ တန်မှာ အသက်ငယ်ငယ်ပင် ရှိသေး သည်။

မျက်မှန်နှင့်ဖြစ်၏။ စကားနည်းပုံရသည်။ ချောမွေ့နူးညံ့သော အသားအရေနှင့် မိန်းမချောလေး တဦးပင်ဖြစ်သည်။ ဂတ်စားဆင်ရင်ပုံ ကလည်း ရိုးရိုးယဉ်ယဉ် ပင်ဖြစ်သည်။ သူ့ အဂတ်အစားများသည် သူ့ဘာသာသူ အိမ်တွင် ညှပ်၍ အိမ်တွင် ချုပ်ထားခြင်း ဖြစ်လိမ့်မည်ဟု ခန့်မှန်းသည်။ ကောင်စစ်ဂန် ခန့်မှန်းသည့်အတိုင်းပင် မစ္စက်ဘာတန် သည်

http://www.shwezinu.com/



မီချီဂန် ပြည်နယ်အတွင်းရှိ မြို့လေးသေး တမြို့၌ ကြီးပြင်း လာခဲ့ သူဖြစ်သည်။ မွေးချင်း ပေါက်ဖော် အလွန်များသော မိသားစုမှ လာခဲ့ရသူ ဖြစ်သည်။

အေလ်ဖင်ဘာတန်နှင့် ပြည်နယ်တက္ကသိုလ်နယ်မြေတွင် တွေ့ဆုံ ချစ်ကြိုက်ခဲ့ကြခြင်းဖြစ်သည်။

မစ္စက်ဘာတန် သည် တဘက်သား၏ မျက်နှာရိပ် မျက်နှာကဲကို လည်း သိရှိပုံရ၏။ အလိုက်သိ အားနာ တတ်သော သဘောလည်း ရှိပုံရ၏။ သဘော ကောင်းဟန်လည်းရှိသည်။ ဤ အရည်အသွေး များကြောင့် ကောင်စစ်ဂန် သည် မစ္စက်ဘာတန်အား သဘောကျသွားသည်။ ဤ အရည်အသွေး များ ကြောင့်ပင် မစ္စက်ဘာတန်အား အဆင့်အတန်းမရှိသူဟု မသတ်မှတ်နိုင်ပဲ ဖြစ် သွားသည်။ ဤအချက်ကြောင့်ပင်လျှင် ကောင်စစ်ဂန် သည် လက်ဖက်ရည်စားပွဲ၌ ထိုင်မိကြသည် နှင့် တပြိုင်နက် မစ္စက်ဘာတန် ဘက်သို့လှည့်၍ လိုက်လိုက် လျောလျောပြောသည်။

'ကဲ ... မင်းကပဲ တာဂန်ယူပြီး တို့များကို ဧည့်ခံပေးပါတော့၊ မင်းသိတဲ့အတိုင်းပဲ တို့အိမ်က လူပျို အိမ်ဖြစ် နေတယ်၊ အမျိုးသမီးအိမ်ရှင်မရဲ့ အပြုအစု အယုအယနဲ့ ဝေးနေတာကြာပြီ '

မစ္စက်ဘာတန်သည် သူ့စကားကို ကြားသောအခါ ရှက်သွေးဖင်သည်။ သို့သော်လည်း သူ့ဆန္ဒအတိုင်း လက်ဖက်ရည် ပန်းကန်များကို လိုက်ထည့်

http://www.shwezinu.com/



ပေးသည်။ ကောင်စစ်ဝန်ကတော့ မစ္စက်ဘာတန်၏ တုံ့ပြန်မှုကို ကြည့်ပြီး သဘောကျလျက် ရှိ၏။

စိတ်သာယာနေသည့် အားလျော်စွာ သူ၏လိမ္မာပါးနပ်မှုကို ပြပြန် သည်။ သူသည် စကားပြော ကောင်းသူ တဦးဖြစ်၏။ အတွေ့အကြုံများ သူလည်းဖြစ်၏။ သို့ဖြစ်ရာ သူ့မှာ တဘက်လူများ စိတ်ဝင်စားအောင် ပြောပြ နိုင်သည့် အကြောင်းအရာတွေ အများကြီး ရှိနေသည်။ သူသည် ဥရောပ တခွင်ရှိ သူရောက်ခဲ့သမျှ နိုင်ငံမြို့ရွာ များ၏ အကြောင်းကို တခမ်းတနား ချဲ့ထွင်၍ အေလ်ဖင် ဘာတန်တို့ စိတ်ဝင်စားလာအောင် ပြောပြ နေလေ သည်။

'သိပ်ကို ကြည့်လို့ကောင်းမှာပဲ'

ကောင်စစ်ဝန်က သူဘယ်လ်ဂျီယံနိုင်ငံတွင် တာဝန်ကျခဲ့စဉ်က တက်ရောက်ခဲ့ရသော ဘရပ်ဆဲလ်မြို့တော် ဘုရားရှိခိုး ကျောင်းအတွင်း၌ ကျင်းပခဲ့သည့် အဲလဘတ် ဘုရင် ၏ နန်းတက်ပွဲ အခမ်းအနား အကြောင်းကို အဆုံးသတ်လိုက်သည့်အခါ အေလ်ဖင်ဘာတန်က တအံ့ တသြ ရေရွတ်သည်။

'အဲသလို ကြီးကျယ် ခမ်းနားတဲ့ ပွဲမျိုးကိုသာ တက်ခွင့်ရမယ်ဆိုရင် ဘာပဲ ပေးရ ပေးရ ပေးပြီး တက် ပစ်လိုက် မှာပဲ၊ မောင်ပြောတာ မဟုတ်ဘူးလား ကာလို'

'ဒါပေါ့' ဟု မစ္စက်ဘာတန်က မျက်လွှာကိုချကာ အလိုက်သင့် ပြန်ပြောသည်။

http://www.shwezinu.com/

'မင်းတို့ အနေနဲ့ တနေ့ကျရင် ဒီအခွင့်အရေးမျိုးတွေ ရလာမှာပါ' ဟု ကောင်စစ်ဂန်က အားပေးစကား ဆိုလေ သည်။

'ကျွန်တော်တို့ကလည်း အဲသလို အခွင့်အရေးမျိုး ရဖို့ကျတော့ မျှော်လင့်မိပါတယ် ခင်ဗျာ၊ မဟုတ် ဘူးလား အချစ်ရယ်'

ဒီတကြိမ်ကျတော့ မစ္စက်ဘာတန်က နှုတ်မှ အဖြေမပေး။ သိမ်မွေ့ နူးညံ့လှသော အကြည့်ဖြင့် သူ့ယောက်ျား အား လှမ်းကြည့်သည်။ တယောက်အပေါ် တယောက် ချစ်ခင်ကြင်နာပုံရသော ဤအိမ်ထောင် ကို မြင်ရသော အခါ မအောင်မမြင် ဖြစ်ခဲ့ရသော သူ့ အိမ်ထောင်အကြောင်းကို မတွေးပဲ မနေနိုင်။ တွေးလိုက် မိသည်။ ထိုအခါ သူ့ရင်ထဲဂယ် နာကျင်မှု ဝေဒနာသည် အသစ်တဖန် ပြန်ပေါ် ရလေသည်။

တကယ်တော့လည်း ဘာတန်တို့စုံတွဲ လပ်ထက်ခဲ့သည်မှာ ဆယ့်ရှစ်လမျှသာ ရှိသေး၏။ သို့တစေ လည်း တယောက်ကို တယောက် သံယောဇဉ်ကြီးကြပုံရှိသည်။ ပြီးတော့လည်း သူ့အဖို့ အထူး အဆန်း တခု လို ဖြစ်လျက်ရှိသည်။ သူ့ပါးစပ်မှ စကားတစ်ခွန်း ပြောလိုက်တိုင်း သူ့မိန်းမကိုလှည့် တိုင်ပင်သည့် နယ် ရည်ညွှန်း ပြောဆိုတတ်၏။ သူ့မိန်းမကိုလှည့်၍ တိုင်ပင်သည့်နယ် ရည်ညွှန်းပြောဆိုတတ်၏။ သူ့မိန်းမ ကလည်း သူ့ယောက်ျားက မေးလိုက်တိုင်း ဆန့်ကျင်သောစကားမဆို။ သူ့ယောက်ျား၏ သဘောနှင့် လိုက်လျောညီထွေ ဖြစ်အောင် အလိုက်သင့် အဖြေ

http://www.shwezinu.com/

ပေးတတ်သည်။ သူတို့ အိမ်ထောင် တွင် သူသည် နေရာတိုင်း အရာရာတိုင်း၌ အပေါ်စီးရခဲ့သူဖြစ်သည်။ သို့ပါလျက်နှင့် သူ အလွန်ချစ်မြတ်နိုး ခဲ့သော သူ့မိန်းမထံမှ ယခုလို တုံ့ပြန်မှုမျိုးကို မရခဲ့။

အမှန်တော့ ကောင်စစ်ဂန် ဘရန်းဒီးသည် နေရာတကာတွင် အဆိုးချည်း မြင်တတ်သူဖြစ်သည်။ အကောင်းမြင် ဂါဒသမားမဟုတ်။ သို့သော်လည်း သူ၏ ဤအားနည်းချက်ကို သူ သတိမထားမိ။ သူသည် မစ္စက်ဘာတန်ဘက် လှည့်ကြည့်သည်။

'အလျင်ကတော့ သတိမထားမိခဲ့ပါဘူး' ဟု သူက နူးညံ့သိမ်မွေ့သောလေသံဖြင့် ပြောသည်။

'အခုမှ ပိုပြီး သတိထားမိလာတယ် ဆိုပါတော့၊ ဆန်ဂျော်ဂျီမြို့ဟာ အမျိုးသမီး တယောက်အတွက် အလွန်ကို ပျင်းရိငြီးငွေ့ဖို့ ကောင်းတဲ့ နေရာတနေရာ ဖြစ်မယ်ထင်တယ် '

မစ္စက်ဘာတန် ကတော့ သူ့စကားကြောင့် အံ့အားသင့်ဟန်ပြသည်။

' မဟုတ်ပါဘူးရှင့်၊ ပျင်းစရာမကောင်းပါဘူး'

'သူ့ အခန်းနဲ့သူ အလုပ်ရှုပ် နေတော့လဲ သူ့မှာ ပျင်းဖို့ အချိန် မရသလောက် ပါပဲ ခင်ဗျာ' ဟု ဘာတန်က ရယ်စရာလိုလိုနှင့် အဆင်ပြေအောင် ဂင်ပြောသည်။

http://www.shwezinu.com/



'သူကတော့ အချိန်ရှိသမျှ အခန်း ကိုပဲ အိမ်နဲ့ တူအောင် လုပ်နေတာ ခင်ဗျ '

'အိမ်နဲ့ တူအောင် လုပ်တယ် ဟုတ်လား ' ဟု ကောင်စစ်ဝန်က အမှတ်မထင် ရေရွက်လိုက်မိသည်။

'ဟုတ်ပါတယ်ခင်ဗျ၊ ကျွန်တော် ဟိုတနေ့က ပြောပြခဲ့သလိုပါပဲ၊ အခန်းက သေးပေမယ့် အလွှန်ကို တခမ်း တနား ဖြစ်အောင် လုပ်ထားတာပါ'

'ပျင်းစရာ မကောင်းဘူးဆိုပေမယ့် မင်းတို့လို လူရွယ်စုံတွဲ အဖို့ အပျင်းဖြေ ပေါင်းစရာသင်းစရာ လူတော့ များများစားစား ရှိမယ် မထင်ဘူးနော် 'ဟု ကောင်စစ်ဝန်က ပြောပြန်သည်။

'အင်မတန် မှ သေးတဲ့ မြို့ ကလေးထဲမှာ ချောင်ပိတ်နေသလို ဖြစ်မနေဘူးလား '

ကာရိုးလ်ဘာတန်သည် သူ့မျက်နှာကို ပွံ့ပွံ့စားစား ကြည့်သည်။ ရောက်ကတည်းက ယခုအကြိမ် သည် ပထမဆုံး အကြိမ် သူ့မျက်နှာကို တည့်တည့်ရင်ဆိုင်၍ ကြည့်ခြင်းဖြစ်၏။ သူက တရင်းတနှီးလေသံဖြင့် မေးလိုက်ခြင်းဖြစ်သော်လည်း သူ့မေးခွန်း၏ ရည်ရွယ်ချက်ကို မှန်းဆရိပ်မိလေသလား မသိ။ မစ္စက် ဘာတန်က ချက်ချင်းပြန်ဖြေသည်။

***************



http://www.shwezinu.com/

'ကျွန်မတို့မှာ မိတ်ဆွေ အပေါင်းအသင်းတွေ အများကြီးရှိပါတယ်ရှင်၊ သူတို့တတွေဟာ ကြီးကြီး ကျယ်ကျယ် ပုဂ္ဂိုလ်တွေတော့ မဟုတ်ဘူးပေါ့၊ ဒါပေမယ့် လူကောင်းတွေပါ၊ ပေါင်မုန့်ဖုတ်သမားနဲ့ ကုန်စုံ ဆိုင်ရှင် ရယ်၊ ပြီးတော့ ဘုန်းတော်ကြီး ဖာသာလီမာဇာရယ်၊ ကျွန်မတို့ အောက်ထပ်က စီးကရက်လိပ် အလုပ်သမား ရယ်၊ ကျွန်မတို့အနေနဲ့ မကြာ မကြာ မစ်ဂူးရဲလ်နဲ့အတူ ပင်လယ်ကွေ့ဘက်ကိုလည်း အလည် ထွက်ကြပါတယ်၊ တခါတလေကျတော့ ကျွန်မတို့ နစ်ယောက်တည်း ထရိုးရုပ်ရှင်ရုံသွားပြီး ရုပ်ရှင် ကြည့်ကြပါတယ်။

စပိန်ခေတ်ဟောင်း ရုပ်ရှင်ကားတွေဟာ သိပ်ကို ရယ်စရာ ကောင်းပါတယ်... ၊ ရုပ်ရှင်ကြည့်ပြီးတော့ ၊ အဲဒီဆိုင် က ရေခဲစိမ်ဘီယာ ဟာ သိပ်ကို အရသာရှိပါတယ်၊ ပထမတန်းစား ဘီယာပါရှင်၊ ကျွန်မတို့ အခု ဆိုရင် ရပ်ကွက်ထဲက ယောက်ျားကလေးတွေနဲ့ မိန်းကလေးတွေအတွက် အသင်းလေး တသင်း ဖွဲ့ထားပြီးပါပြီ၊ ကစားနေ နိုင်ကြပါပြီ၊ ကျွန်မက သူတို့အားလုံးကို နေ့စဉ် ရေခဲမုန့် ကျွေးပါတယ်၊ အခုဆိုရင် အေလ်ဗင် က သူတို့ကို ဘော့စ်ဘောကစားနည်း သင်ပေးနေပါပြီ'

စိတ်အား ထက်သန်စွာ ပြောနေခြင်းဖြစ်၍ မစ္စက် ဘာတန်၏ မျက်နှာသည် နီမြန်းလျက်ရှိ၏။ သူသည် စကားကို ဆက်ပြန်သည်။

http://www.shwezinu.com/



'နီကိုလတ်စ် လာကစားမယ် ဆိုရင် ကျွန်မတို့ သိပ်ဂမ်းသာမှာပါ၊ သူ့အနေနဲ့ ဒီအိမ်ကြီး ထဲမှာ တယောက်တည်း အထီးကျန် ဖြစ်နေမယ့်အစား တခြားကလေးတွေနဲ့ ပျော်ပျော် ပါးပါး ကစားနိုင်တာပေါ့ '

***************

စကားဆုံးသွားသောအခါ လက်ဖက်ရည်စားပွဲမှာ ငြိမ်ဆိတ်သွားသည်။ ကောင်စစ်ဝန်၏မျက်နှာထားမှာ စောစောကလို မဟုတ်။ ကျနွေကြီးနှင့် တည်တည်ငြိမ်ငြိမ်ကြီး ဖြစ်လျက်ရှိ၏။ သူ့သားနီကိုလတ်စ်အား အောက်တန်းစား ကလေးသူငယ်များထံ လွှတ်၍ ကစားခိုင်းရမည်ဟူသော စကားမှာ...။ အိမ်ရှင်အနေ ဖြင့် ယဉ်ကျေးမှု ဟူသော ဂတ္တရားက သူ့အား ချုပ်ကိုင်ထားသဖြင့် သူ့ စိတ်ကို အောင့်အည်း ချုပ်တည်း ထားနေရသည်။

အေလ်ဗင်ဘာတန်ကတော့ အရိပ်အခြည်ကို မသိ။ အားလုံး အဆင်ပြေပြေနှင့် ပြီးဆုံး သွားပြီ၊ သူတို့ပြန်ကြဖို့ အချိန်တန်ပြီဟု ယူဆသည်။ ထိုအချိန်တွင် ဘာတန်၏ အာရုံသည် သူ့ကိုယ်သူ၊ ကာရိုးလ်နှင့် နီကိုလတ်စ် တို့ အပေါ်၌သာ ရှိနေသဖြင့် ကောင်စစ်ဝန်၏ စိတ်အပြောင်းအလဲကို သတိ မထားမိ။ သူသည် လက်မှ နာရီကို တချက်မျှ မြှောက်ကြည့်လိုက်လေသည်။

'ကျွန်တော်တို့ကြောင့် အချိန်တွေ သိပ်ကုန်သွားပါပြီ၊ ကျွန်တော်တို့ ပြန်ဖို့အချိန်တော်ပြီလို့ ထင်ပါ တယ်ခင်ဗျာ'

http://www.shwezinu.com/



သူတို့ အားလုံး ထိုင်ရာမှ ထကြရန် ဟန်ပြင် နေခိုက်တွင် နောက်ဘက်မှ ခြေသံများ ကြားရသည်။ နီကိုလတ်စ်မှာ စောစောကတည်းက ဥယျာဉ်ထဲတွင် မျက်စိရှာနေသူ ဖြစ်ရာ ခြေသံများ ကြားလိုက် ရသည်နှင့် တပြိုင်နက် ခေါင်းထောင်လာသည်။

'သူလာပြီ၊ အခုမှ လာတယ်၊ ဟော...ဟိုမှာ၊ ဘာတွေ ယူလာသလဲ မသိဘူး'

သူ့အဖေက မတားလိုက်နိုင်ခင်မှာပင် နီကိုလတ်စ်၏ စူးရှ ကျယ်လောင်သော အသံသည် ထွက်ပေါ်လာသည်။

'ဂျီစီ...၊ ဂျီ...စီ...၊ ဒီကို လာပါဦး'

ရုတ်တရက် ချက်ချင်း ငြိမ်ဆိတ်သွားသည်။ ကောင်စစ်ဂန်သည် မျက်စိ မျက်နှာ ပျက်လျက် ရှိလေ သည်။

' မင်း ဘာလုပ်တာလဲ နီကိုလတ်စ်၊ အခု လုပ်တာ ဘာသဘောလဲ၊ အခု ချက်ချင်း မင်းပါးစပ်ကို ပိတ်ထားစမ်း' ဟု သို့တစေလည်း သူ နောက်ကျသွားခဲ့လေပြီ။

အမှန်တော့ ဂျီစီရောက်နေသည်မှာ ကြာပြီ။ လက်ဖက်ရည် စားပွဲရှိရာသို့ ရုတ်တရက် မလာရဲသဖြင့် ပန်းဥယျာဉ် နောက်ဘက်ရှိ မြင်းဇောင်း အနီး၌ ရစ်သီရစ်သီ လုပ်နေခြင်းဖြစ်သည်။ အခု နီကိုလတ်စ်က

http://www.shwezinu.com/



လှမ်းခေါ်လိုက်သည့်အခါ ဂမ်းသာအားရနှင့် ရောက်လာသည်။ သူ့လက်ထဲတွင် မိုးမခရွက်များဖြင့် ထုပ်ထားသော အထုပ်တထုပ် ကိုင်လျက် ...။

ကောင်စစ်ဝန်ဘရန်းဒီးသည် သူ့သားခေါ်လိုက်လိုက်ချင်း သူတို့အနီးသို့ ရောက်လာသော ဂျူစီအား မယုံကြည် နိုင်သောမျက်နှာထားဖြင့် စူးစူးရဲရဲ ကြည့်လျက်ရှိသည်။ တနင်္ဂနွေနေ့ ရုံးပိတ်ရက်အခုလို အချိန်မျိုး တွင် သူ့အိမ်သို့ ဂျူစီ ဘာအကြောင်းကိစ္စနှင့် လာရသနည်း။ ဂျူစီအား မျက်တောင်မခတ် ကြည့်နေရင်း နှင့် သူ့ တကိုယ်လုံး အေးစက်လာသည်။ ထိုအခိုက်တွင် နီကိုလတ်စ်သည် သူ့ ကုလားထိုင် ၏မှ ခုန်ထ လိုက်ကာ ဧည့်သည်များ ရှေ့မှောက်မှာပင် အော်ပြောပြန်သည်။

'ဟူးရေး ...ဂျူစီ၊ ခင်ဗျားကို ချီးကျူးပါတယ်၊ ခင်ဗျားသိပ်တော်တာပဲ '

'မင်းပါးစပ်ပိတ်ပြီး ငြိမ်ငြိမ်မနေနိုင်ဘူးလား နီကိုလတ်စ် '

ဘရန်းဒီး ဒေါသကို ချုပ်တည်းထားရသည့် လေသံဖြင့် ခပ်တိုးတိုး ပြောသည်။

ဂျူစီကတော့ ပန်းခုံးအောက် ရောက်လာသည်။ သူသည် ဦးခေါင်းကို အသာအယာညွတ်၍ နှုတ်ဆက်လိုက်ပြီး ခေါင်းမှ ဦးထုပ်ကိုချွတ်၍ ဗယ်ဘက်လက်ဖြင့် ကိုင်ထားသည်။ သူသည် နီကိုလတ်စ်အား အလျင်ဆုံး ပြုံး၍ နှုတ်ဆက်သော်လည်း သူ့မျက်လုံးများသည် ကောင်စစ်ဝန် အပေါ်၌သာ အဓိက ထားပုံ ရ၏။

http://www.shwezinu.com/

'ဆီညော် ... '

သူသည် မဂ့်မရဲ လေသံဖြင့် စ ပြောသည်။

'ဆီညော်ကို အခုလို လာနှောင့်ယှက်မိ တာ ခွင့်လွှတ်ပါ။ ကျွန်တော် လက်ဆောင်တခု ယူလာပါတယ်၊ ကျွန်တော်မနေ့က ကိုယ်ပိုင် ပစ္စည်း မဟုတ်တဲ့ ပန်းတွေ ခူးခဲ့မိပါတယ်။ အဲဒါ ကျွန်တော့်အမှားပါ၊ ကျွန်တော့်ကို ခွင့်လွှတ်ဖို့ တောင်းပန် ပါတယ်၊ အဲဒီကိစ္စ အတွက် ကျွန်တော် ဂမ်းနည်းပါတယ်။ ဆီညော်၊ ဒါပေမယ့် ... အခု ကျွန်တော် ယူလာတဲ့ လက်ဆောင်က ကျွန်တော့် ကိုယ်ပိုင်ပစ္စည်းပါ ဆီညော် ...၊ ဒီ လက်ဆောင်ကိုတော့ လက်ခံဖို့ ကျွန်တော် တောင်းပန်ပါတယ်'

သူသည် လက်ထဲမှ အထုပ်တွင် ပတ်ထားသည့် မိုးမခရွက်များကို ဖြေလိုက်သည်။ အထဲမှ ဂဂကစ်ကစ်နှင့် အလွန်ဆူဖြိုးသော ရေချိုငါးနှစ်ကောင် ပေါ်လာသည်။

ကောင်စစ်ဂန်ကတော့ မတုန်မလှုပ်။ နည်းနည်းကလေးမှ စိတ်ဝင်စားဟန်မပြ။ တုံ့ပြန်ခြင်းမပြု။ သို့သော် လည်း နီကိုလတ်စ်က စိတ်ဝင်စားမှုအပြည့်ဖြင့် ဂမ်းသာအားရ ကြည့်သည်။

'ငါးကြီး တွေက အကြီးကြီးတွေပဲ၊ လှလိုက်တာဗျာ၊ ဒီလောက်ကြီးတဲ့ ငါးတွေကို ခင်ဗျား ဘယ်က မိခဲ့တာလဲ၊ ဆိုင်ထဲကလား...၊ ချောင်းထဲကလား...ဟင်၊ ဂျိုစီ '

http://www.shwezinu.com/

အားလုံးက သူ့အား ပိုင်းကြည့်နေသည်ကို သတိထားမိသော ဂျိုစီသည် ရှက်သွားသည်။ အနည်းငယ် နေရာ ပြင်၍ ရပ်သည်။ သူ့ရှူးဖိနပ်များတွင် အဝါရောင် ဖုန်မှုန့်များ ကပ်လျက်ရှိသည်။

' မစ်ထဲ က ရလာတာ ' ဟုနီကိုလတ်စ်အား ပြုံးပြပြီး ဖြေသည်။ ထို့နောက် ကျန်လူများကိုပါ ရှင်းပြသည့် သဘောဖြင့် သူ ငါးရလာပုံကို ပြောပြနေသည်။

' ဟိုး ... တောင်တန်းတွေ နောက်က အေရင်းဂိုးမြစ် အထိ ကျွန်တော် ကနေ့သွားခဲ့တယ်၊ အဲဒီမြစ်က ရေကလဲနက်တယ်။ကြည်လိုက်တာလဲ အလွန်ပဲ၊ မြစ်ထဲမှာ ကျောက်သလင်းလုလုလေးတွေလဲရှိတယ်၊ သိပ်လှတဲ့ မြစ်တခုပဲ၊ ဒါပေ မယ့် ငါးများ ရတာတော့ သိပ်ခက်တယ်၊ ကျွန်တော် ကနေ့ တမနက်ခင်းလုံး ငါးထိုင်မျှားနေတာ၊ တကောင်မှ ကို မရဘူး၊ စိတ်ပျက်ပျက်နဲ့ ပြန်တော့မလို့ လုပ်နေတုန်း ဒီငါးနစ်ကောင်ကို မိတာ၊ တကောင်ကို အနည်းဆုံး တကီလို ကျော်ကျော် လေးလိမ့်မယ် ထင်တာပဲ '

သူသည် ကောင်စစ်ဝန်၏ မျက်နှာကို မျှော်လင့်ချက် အပြည့်ဖြင့် မော့်ကြည့်ပြန်သည်။ သူ့အပေါ် နှုတ်ခမ်းထက်တွင် စို့ထွက် နေသည့် ချွေးပေါက်များကို လက်ခုံဖြင့် သုတ်လိုက်၏။

'နှစ်ကောင် စလုံး သိပ်လတ်ဆတ်ပါတယ် ဆီညော်၊ ဆီညော် ... သဘောကျ လိမ့်မယ်လို့ ကျွန်တော် ထင်ပါတယ် '

http://www.shwezinu.com/


ဟာရင်တန် ဘရန်းဒီးသည် လက်နှစ်ဘက်ကို စားပွဲပေါ်တင်ကာ တောင့်တောင့် မတ်မတ်ကြီး ထိုင်လျက် ရှိသည်။ နည်းနည်းကလေးမှ လှုပ်ရှားခြင်း မရှိသဖြင့် လူအများ အပန်းဖြေရာ ပန်းခြံတခု တွင်းမှ ကျောက်ရုပ်ကြီး တရုပ်နှင့် တူနေသည်။ သူ့မျက်နှာသည် ဖုံးဖိ၍ မရနိုင်လောက်အောင် ခက်ထန် တင်းမာ လျက်ရှိ၏။ ဒေါသအရှိန်ဖြင့် သူ၏ သွေးစုန်နှုန်းမှာ အဆမတန် မြန်လျက်ရှိသည်။

'ငါ ဂမ်းနည်းပါတယ်ကွာ ' ဟု သူ့ကိုယ်သူ မနည်းထိန်းချုပ်နေရသော လေသံဖြင့် ပြောသည်။

'ငါ ရေရှိူငါး ဘယ်တော့ မှ မစားဘူး၊ ကြိုက်လဲ မကြိုက်ဘူး၊ ငါ့သားနဲ့လဲ လုံးဝ မတည့်ဘူး၊ ကျွေးလို့ မဖြစ်ဘူး၊ တက်စာ ဖြစ်နေတယ် '

'ဒီငါးတွေက ငါး အဖြူတွေပါ ဆီညော် ...၊ သိပ် မတက်ပါဘူး၊ လူနဲ့ တည့်ပါတယ်ခင်ဗျာ၊ တကယ့် တောင်ပေါ်ငါး စစ်စစ်တွေ... '

ဂျိုစီသည် ထစ်ထစ်ငေါ့ငေါ့ ဖြစ်လျက်ရှိသည်။

'အလွန် လတ်ဆတ်ပြီး စားလို့ သိပ် အရသာ ရှိပါတယ် ... '

'ကျေးဇူးတင်ပါတယ်၊ ဒါပေမယ့် တို့ မစားဘူး ' ဟု ကောင်စစ်ဝန်က ရေရွတ်ပြီး ဧည့်သည်များအား လှည့်ကြည့်သည်။

'မင်းတို့များ မကြိုက်ကြဘူးလား၊ ကြိုက်ရင် ယူသွားကြပါလား '

http://www.shwezinu.com/

'အို ... ကိစ္စမရှိပါဘူး၊ ကျွန်တော်တို့ မယူချင်ပါဘူး ' ဟု အေလ်ဖင်ဘာတန်က ကပျာကယာ ဝင်ပြောသည်။ သူ့အသံမှာ သိပ်ပြီး စိတ်သက်သာပုံမရ။

' ဒီလိုဆိုလဲ မီးဖိုထဲ သွားပို့ထားခဲ့'

ကောင်စစ်ဝန်၏ အေးစက်မာကျောသော အကြည့်သည် ဂျိုစီ၏ မျက်နှာပေါ် ပြန်ရောက်သွားသည်။

' အစေခံတွေ အတွက်တော့ အသုံးဝင်မှာပါ '

' ဖေဖေ ...၊ ဒီလို မလုပ်ပါနဲ့ ' ဟု နီကိုလတ်စ်က လှမ်းပြောသည်။

' ဂျိုစီက ကျွန်တော်တို့အတွက် ယူလာတာ '

'မင်းက ဆရာဝန် ပေးထားတဲ့ ဓာတ်စာအတိုင်း စားနေရတာ၊ မင်း စားလို့ မဖြစ်ဘူး '

နီကိုလတ်စ်၏ မျက်လုံးများတွင် မျက်ရည်များစို့လာသည်။

' ဒါပေမယ့် ... ဖေဖေ ... ရယ် ... '

' တော်လောက်ပြီ နီကိုလတ်စ်၊ မင်း ဘာမှ ထပ်မပြောနဲ့တော့ '

ကောင်စစ်ဝန်၏ အသံမှာ တိုတိုပြတ်ပြတ်...။

http://www.shwezinu.com/



' ကဲ ... မင်း ပြန်ရင် ကောင်းမယ် '

ခဏမျှ ငြိမ်ဆိတ်သွားသည်။ ဂျိုစီသည် တစုံတခု ထပ်ပြောချင်ဟန်ရှိသည်။ သူ့ရင်သည် လှိုင်းထ နေသည့် နယ် ရှိ၏။

သူသည် စကားပြောဖို့ အားထုတ်လျက်ရှိသည်။ နောက်ဆုံးတွင် သူ့ပါးစပ်မှ အထစ်ထစ် အငေါ့ငေါ့ဖြင့် စကားလုံးများ ထွက်လာသည်။ သို့သော်လည်း ဒေါသသံမပါ။ တည်ငြိမ် အေးဆေးသည်။ ရိုးသား ပွင့်လင်း ၍ သိက္ခာရှိလှသော စကားများဖြစ်သည်။

'ဆီညော်ကို စိတ်မချမ်းမမြေ့ဖြစ်အောင် လုပ်မိတဲ့အတွက် ကျွန်တော် တောင်းပန်ပါတယ်၊ ကျွန်တော် ကနေ့မနက် အိပ်ရာက အစောကြီး ထခဲ့ပါတယ်၊ ကျွန်တော် အိပ်ရာကထတော့ မိုးမလင်းသေးပါဘူး၊ မှောင်နေတုန်း ပဲ ရှိပါသေးတယ်၊ ဒီ ငါးနှစ်ကောင် ရဖို့အတွက် အိပ်ရာက အစောကြီးထပြီး ဆယ့်နှစ် ကီလိုမီတာ ခရီးကို ခြေကျင် လျှောက်ခဲ့ရပါတယ် '

သူ၏ နက်မှောင်သော မျက်လုံးများသည် အရောင် တဖျပ်ဖျပ် တောက်လျက်ရှိသည်။

' ဒီ ငါးနှစ်ကောင် ဟာ ဆီညော် အတွက် တန်ဖိုးမရှိတဲ့ ပစ္စည်းတွေ ဖြစ်နေလိမ့်မယ် ဆိုတာ ကျွန်တော် ကြိုပြီး သိဖို့ ကောင်းပါတယ်၊ ဒါကြောင့်မို့ ကျွန်တော့် ဘာသာကျွန်တော် အိမ်ပြန်ယူဖို့ ခွင့်ပြုပါ၊ ကျွန်တော် တို့ဟာ သိပ်ပြီး ဆင်းရဲပါတယ် ဆီညော်၊ ကျွေးရမယ့် ပါးစပ်ပေါက်တွေက အများကြီးပါ၊

http://www.shwezinu.com/

ဒီငါးနှစ်ကောင်ဟာ ကျွန်တော်တို့ မိသားစုအတွက် အလွန် အဖိုးတန်တဲ့ ဟင်းကောင်းတနပ် ဖြစ်နိုင် ပါတယ်'

သူသည် ငါးနှစ်ကောင်ကို ဖက်များဖြင့် ပြန်ထုပ်ကာ ကောင်စစ်ဝန်အား ခေါင်းတချက်ညွှတ်၍ အရိုအသေ ပေးပြီး လှည့်ထွက်သွားသည်။ နီကိုလတ်စ်သည် တကိုယ်လုံး ပူထူလျက် ရှိသည်။ သူသည် လက်သီး နှစ်ဘက် ကို ကျစ်ကျစ်ပါအောင် ဆုပ်ကာ ဂျိုစီအား လှမ်းမျှော်ကြည့်သည်။

'ကိစ္စမရှိပါဘူး ... ဂျိုစီ' ဟု နောက်မှနေ၍ အော်ပြောသည်။ အသံက ကျယ်လည်းကျယ်သည်။ မည်သူ့ကိုမှ ဂရုမစိုက် ဟူသော အရိပ်လက္ခဏာ လည်းပါသည်။

' ခင်ဗျားတို့ မိသားစု ညစာ ချက်စားလိုက်ကြပေါ့၊ အဘိုး ပက်ဒရို ကိုလဲ ကျွေးလိုက်ပါ '

သူ့မျက်စိအောက်မှ ဂျိုစီပျောက်သွားသည်နှင့် တပြိုင်နက် နီကိုလတ်စ်သည် ထိုင်ရာမှထရပ်ကာ သူ့ကို သွားခွင့်ပြုဖို့ တောင်းသည်။ သူ့အဖေ လုပ်ပုံကို မကျေနပ်ကြောင်း သူ့အသံနှင့် ဟန်အမူ အရာများက မသိမသာ ဖော်ပြလျက်ရှိ၏။ ထို့နောက် သူသည် သူ့အခန်းဆီသို့ ပြေးထွက်သွားသည်။

http://www.shwezinu.com/



ကောင်စစ်ဝန်ကတော့ အခြေအနေကို လိမ္မာပါးနပ်စွာဖြင့် ပြန်ထိန်းသည်။ စိတ်ရှုပ်လျက်ရှိသော် လည်း ဟန်လုပ်၍ ပြုံးကာ သူ့ဧည့်သည်များဘက် လှည့်၍ ပခုံးတွန့်ပြသည်။

'ဒီခေတ်ကလေးတွေဟာ အတော် ပြောရခက်တယ်၊ နီကိုလတ်စ်ဟာ မိုက်မဲတဲ့ အစေခံ တွေနဲ့မှ လာတွေ့ နေရတယ်၊ ဒီကြားထဲက သူက ဟိုအကောင်ကို သနားတော့ ပိုခွကျတာပေါ့ '

တဆက်တည်းပင် တချိန်သော အခါက သူစိတ်ရှည်လက်ရှည်ဖြင့် သည်းခံခဲ့ရသည့် အစေခံဆိုး တယောက် အကြောင်းကို ရယ်စရာ ပုံပြင်သဖွယ် ပြောပြသည်။ သူကြုံခဲ့ရသည့် အစေခံမှာ အီတလီ လူမျိုး နေပဲလ်မြို့ သား တဦးဖြစ်သည်။ သင်္ဘောပေါ်တွင် ထမင်းချက် လုပ်ခဲ့ဖူးသည်။ အစေခံ၏ အကျင့်စရိုက်မှာ ခပ်ဆန်းဆန်း...။ အစားအသောက်နှင့် မီးဖိုချောင်ပစ္စည်း သိုလှောင်ရာ အခန်းထဲ၌ ကြက်တူရွေး မွေးထားသဖြင့် သူ့မှာ ကသိကအောင့် ဖြစ်ခဲ့ရသည်။ ဤအဖြစ်ကို သူက အပြော ကောင်းကောင်းနှင့် ဘာတန် တို့ လင်မယား စိတ်ဝင်စားလာအောင် ပြောပြသည်။ ဘာတန် တို့အား မော်တော်ကားဆီ လိုက်ပို့ချိန် အထိ သူ့အမူအရာသည် အပြောင်းအလဲမရှိ။ အခြေလုံးဂမပျက်။ ပြုံးပြုံး ရယ်ရယ်ပင်...။

ဧည့်သည်များ၏ မော်တော်ကား ထွက်သွားသည့်အခါ သူ့မျက်နှာထားသည် ပြောင်းသွားသည်။ မျက်မှောင်ကို ကုပ်ကာ

http://www.shwezinu.com/



အေရင်းရိုးမြစ် စီးဆင်းနေသည်ဆိုသော တောင်တန်းကြီးများဆီသို့ လှမ်းမျှော်ကြည့်သည်။ ပြာသော တောင်တန်းကြီးများသည် မိုးထိုးလျက်ရှိကြ၏။ တိမ်ဖြူဖြူလွလွများက အုပ်ဆိုင်း ရစ်ပတ်ထားသဖြင့် အချို့နေရာများကို ပြက်ပြက် ထင်ထင် မမြင်ရ။

***************

http://www.shwezinu.com/

## အခန်း (၇)

နောက်တနေ့ နံနက်တွင် ဘရန်းဒီးသည် စောစောစီးစီး အိပ်ရာမှ ထကာ နံနက်စာ စားပွဲသို့ ရောက် လာသည်။ မနေ့က တနေ့ခင်းလုံး စိတ်ရှုပ်ခဲ့ရသဖြင့် ညတွင် ကောင်းစွာ အိပ်ပျော်လိမ့်မည် မဟုတ် ဟုထင်ခဲ့ မိ၏။ သို့သော်လည်း သူထင်သလို မဟုတ်ပဲ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်ခဲ့၏။

ဂရေစီယာက သူ့ဆရာ ကောင်စစ်ဝန်အတွက် ကော်ဖီနှင့် သစ်သီးများ ယူလာသည်။ သစ်သီးများကို ငွေပန်းကန် တချပ်တွင် စားချင်စဖွယ် ဖြစ်အောင် လှပစွာ ထည့်ထားသည်။ သူ ယူလာသော နံနက်စာကို စားပွဲပေါ် ၌ ချထားပေးပြီးသော အရိပ်အခြည်ကို ကြည့်နေသည်။ လိုအပ်သမျှကို လုပ် ကိုင်ပေးရန် အဆင်သင့် စောင့်နေသည့် သဘော ...။

ကောင်စစ်ဝန်သည် ဂရေစီယာ၏ အကြောင်းကို စဉ်းစား တွေးတောလျက် ရှိသည်။ ဂရေစီယာ၏ အပြုအမူနှင့် ပြောဟန် ဆိုဟန် များကတော့ သဘောမကျစရာ မရှိ။ အလုပ် ကျတော့လည်း တာဝန် ကျေသည်။ အလိုက် သိတတ်သော သဘောလည်း ရှိသည်။ မိမိအနေဖြင့် သူ့အား ယုံကြည် စိတ်ချ၍ ဖြစ်ပါ မည်လော။ သူ့ကို ကြည့်ရသည်မှာ နှုတ်လုံပုံလည်း ရ၏။ နောက်ဆုံးတွင် ကောင်စစ် ဝန်သည် ဂရေစီယာအား သူ့လူယုံတဦး အဖြစ် မသိမသာ မွေးသွားရန် ဆုံးဖြတ်လိုက်လေသည်။

http://www.shwezinu.com/



' ဂရေစီယာ...၊ ငါ မင်းကို တခု မေးချင်တယ် '

ဂရေစီယာက သူ ရပ်နေသော နေရာမှ ရှေ့သို့ တိုးလာပြီး ရပ်သည်။

'ဒီကိစ္စက ငါတို့ရဲ့ ဥယျာဉ်မှူး အသစ် ဂျိုစီနဲ့ ပတ်သက်နေတယ် '

ဘရန်းဒီးက သူ့ သောက်လက်စ ကော်ဖီ အပေါ်၌သာ စိတ်ဝင်စား လေဟန် ဆောင်ကာ စကားကို စသည်။

'တခါ တလေ ဒီကောင် ငါ့သားနဲ့ စကား ပြောပြော နေတာ မင်း မြင်ဖူး သလား '

အဖြေ ချက်ချင်းမရ။ တဒင်္ဂမျှ ငြိမ်ဆိတ်နေသည်။ ဂရေစီယာ၏ မျက်နှာသည် ပြုံးခြင်း ရယ်ခြင်းမရှိ။ မေးခွန်း အတွက် အံ့သြဟန်လည်း မပြ။ တည်တည်ငြိမ်ငြိမ်ပင် ရှိသည်။

'တခါတရံ စကားပြောနေတာ တွေ့ဖူးပါတယ် ဆီညော် ဘရန်းဒီး၊ သူ အလုပ်ခွင်မှာ ရှိနေသမျှ တချိန်လုံး ဆီညော် ရဲ့ သားနဲ့ စကားပြောနေတာပဲ ဆိုတဲ့ အဖြေက ပိုပြီး မှန်ပါလိမ့်မယ်၊ သူတို့ နှစ် ယောက်ဟာ အမြဲတမ်း တတွဲတွဲနေကြတာပါ။ စကား ပြောကြတယ်၊ ရယ် ကြတယ်၊ ပြီးတော့ အလုပ်လဲ အတူတူ လုပ်ကြတယ် '

' အတူတူ အလုပ် လုပ်ကြတယ်...ဟုတ်လား '

http://www.shwezinu.com/

သူ၏ သဘောထားအမှန်ကို မဖော်ပြမိအောင် သတိထား နေသည့် ကြားမှပင် ဘရန်းဒီးသည် စိုးရိမ် မကင်းသော အသံဖြင့် အမှတ်မထင် ရေရွတ်မိသည်။

' မှန်ပါတယ် ခင်ဗျာ '

ဂရေစီယာက ခပ်ပေါ့ပေါ့ လေသံဖြင့် ထပ်ပြောသည်။ စ၍ စကားပြောပြီဆိုကတည်း က ဂရေစီယာသည် ကောင်စစ်ဂန်၏ မျက်နှာကို ဂရုတစိုက် အကဲခတ်ခဲ့သည်။ အခုလည်း အကဲခတ်ဆဲ...။ သူ့မျက်လုံး များသည် ကြောင်တကောင်၏ မျက်လုံးများနှင့်တူသည်။

' ပြီးခဲ့တဲ့ အပတ်ထဲက ဆိုရင် ဆီညော်ရဲ့ သားက အင်္ကျီချွတ်ပြီး ကိုယ်တုံးလုံးနဲ့ ကျွန်တော် ပြူတင်း ပေါက်က လှမ်းမြင်နေရတာပဲ၊ နေပူကြီးထဲမှာ ပေါင်းခုတ် ဓားတလက်နဲ့ အလုပ် ရှုပ်နေတယ် '

' မင်း ဒီအကြောင်း ဘာပြုလို့ စောစောက မပြောခဲ့တာလဲ '

ကောင်စစ်ဂန်က နဖူးကြောများ ထောင် ၍မေး သည်။

'ကျွန်တော် အတင်းပြောတာ ဝါသနာမပါဘူး ဆီညော် ' ဟု ဂရေစီယာက ပခုံးနှစ်ဖက်ကို တွန့်၍ ဖြေသည်။

'အတင်းအဖျင်း ပြောတာကို ကျွန်တော် ကိုယ်တိုင်ကလဲ မကြိုက်ဘူး ခင်ဗျ၊ ဂန်မင်းရဲ့ သားဟာ အလွန် နူးညံ့သိမ်မွေ့တဲ့ ကလေးတယောက်ပါ...၊ လူအေး လူပျော့ကလေး တယောက်လို့ ဆိုရင်လဲ မမှားပါဘူး၊ ပြီးတော့

http://www.shwezinu.com/

လူချောကလေး တယောက်ပါ၊ ဟို ...ဂျိုစီဆိုတဲ့ ကောင်ကတော့...၊ ကျွန်တော် ဂန်မင်းကို မေးပါရစေ...၊ ဂျိုစီဟာ ဘာကောင်လဲ '

ကောင်စစ်ဂန် ငြိမ်နေသည်။ သူသည် ဖွန်းတချောင်းကို လက်နှစ်ဘက်နှင့် ကိုင်၍ အမှတ်တမဲ့ လှည့်နေ မိသည်။ တွေးတော၍ ပူမည်ဆိုပါက ပူစရာတွေ တသီကြီး ရှိလာသည်။ ဂရေစီယာကို ဆက်၍ မေးချင်စိတ် ရှိနေသော်လည်း မမေးပွံ့။

' ကျေးဇူးတင်တယ် ဂရေစီယာ ' ဟု သူက ပြောသည်။

' ငါ မင်းဆီက အကူအညီ အများကြီး ရခဲ့ ပါတယ်၊ မင်းပြောပြ တဲ့ စကားတွေကိုလည်း ငါ ယုံကြည်ပါတယ် '

ဂရေစီယာက အလွန် အေးဆေးတည်ငြိမ်သော မျက်နှာထားဖြင့် တရိုတသေ တလေးတစား ဦးညွှတ် လိုက်သည်။

သို့သော်လည်း ကောင်စစ်ဂန်အား ကျောခိုင်းပြီး ထွက်ခွာ လာသည့် အခါတွင်မူ သူ့မျက်နှာသည် သိသိသာသာကြီး ပြောင်းလျက် ရှိသည်။ ကျေနပ်အားရခြင်းကို ဖုံးဖိမထား နိုင်။ သူ၏ စွေစောင်းစောင်း မျက်လုံး အစုံသည် ဂင်းလက်တောက်ပလျက်ရှိသည်။ ပြုံးချင်ရယ်ချင်စိတ်ကို မျိုသိပ်ထားရသည်။ ဟန်လည်း ပေါ်နေသည်။ သူ့နှုတ်ခမ်းများတွင် ထင်ဟပ်နေသည့် လျောင်ပြောင် သရော်လိုသော အရိပ် လက္ခဏာ ကတော့ အထင်ရှားဆုံးနှင့် အပေါ်လွင်ဆုံး...။

http://www.shwezinu.com/

တယောက်တည်း ကျန်ခဲ့သော ဟာရင်တန် ဘရန်းဒီးသည် သူ့လက်ချောင်းများဖြင့် စားပွဲကို တဒေါက်ဒေါက် ခေါက်ကာ တွေတွေငေးငေး ဖြစ်လျက်ရှိသည်။ သူသည် နံနက်စာ စားပြီးတိုင်း ဆေးလိပ်ကို အရသာခံ၍ သောက်တတ်သော အလေ့အထ ရှိသူဖြစ်၏။ သို့သော်လည်း အခုတော့ ဖြင့် ဆေးလိပ် ကို သတိမရ။ လောလောဆယ် ဖြစ်ပေါ်နေသည့် သူ၏ဆန္ဒမှာ ဂျိုစီအား ချက်ချင်း အလုပ်ဖြုတ်ပစ်ရန်ဖြစ်သည်။

သို့တစေလည်း အသေအချာပြန်၍ ဆင်ခြင်သုံးသပ်ကြည့် လိုက်သည့်အခါ ဂျိုစီကို အလုပ်မှ ထုတ် ပစ်ရုံမျှဖြင့် သူရင်ဆိုင်နေရသော အခက်အခဲသည် ပြေလည်သွားလိမ့်မည် မဟုတ်ဟု တွက်မိပြန် သည်။ အကယ်၍ အလုပ်ဖြုတ်လိုက်ပါမူ သူနှင့် ဂျိုစီ၏ကြားတွင် ပြဿနာကတော့ ရှိလာနိုင်၏။ ရေးကြီးခွင်ကျယ် မလုပ်လောက်သည့် ကိစ္စတခုကို အကြောင်းပြု၍ မိမိထက် အဆင့်အတန်းအားဖြင့် များစွာ နိမ့်ကျသော ဂျိုစီ လို လူတယောက်နှင့် ဖက်ပြိုင်သင့်ပါ၏လော။

မိမိ၏သား နီကိုလတ်စ်နှင့် ခင်ခင်မင်မင် ရင်းရင်းနှီးနှီး ပေါင်းသင်း ဆက်ဆံနေ၍ အလုပ်မှထုတ်ပစ် ခြင်းဖြစ်သည်ဟု ဆိုလျှင် လူကြား၍ပင် ကောင်းမည်မဟုတ်။ ဤမျှလောက် ကလေးအတွက် မိမိ လက်အောက် မှ အလုပ်သမား တဦးကို အလုပ်မှ ထုတ်ပစ်သည်အထိ အရေးယူသည့်အတွက် သူ့ သိက္ခာ ကျရမည် မှာကတော့ သေချာလျက်ရှိ၏။ ဘာမှမဟုတ်သည့် အောက်တန်းစား တယောက်အတွက် မိမိ၏ဂုဏ်နှင့် သိက္ခာ ကို အကျခံသင့်ပါ၏လော။

http://www.shwezinu.com/



ဂျူစီကို အလုပ်မှ ဖြုတ်တော့မည်ဆိုပါက သည့်ထက်ကောင်း၍ သည့်ထက် ခိုင်လုံသော အကြောင်း ပြချက် တခု လည်း ရှိသင့်သည်ဟု သူတွေးမိ၏။ ပြီးတော့လည်း နီကိုလတ်စ်သည် သူ့သားဖြစ်သည်။ သူမကြိုက်သောအလုပ်ကို မလုပ်ဖို့ သူ့သားကို သူ တားမြစ်နိုင်ရမည်။ သူတို့ နှစ်ဦး၏ ခင်မင် ရင်းနှီးမှု ကိုမတိုးတက် မကျယ်ပြန့်လာအောင် မိမိကိုယ်တိုင် ဣန္ဒြေရရ သိက္ခာရှိရှိနှင့် ပိတ်ပင်တားဆီးနိုင်ရမည်။ လောလောဆယ် အခြေအနေအရ ထိုလုပ်နည်းလုပ်ဟန်သည် သူ့ အတွက် အမှန်ကန်ဆုံးနှင့် အကောင်းဆုံး ဖြစ်လိမ့်မည်ဟု သူ ဆုံးဖြတ်သည်။

ဆုံးဖြတ်ချက် ရသည်နှင့် တပြိုင်နက် သူ ပထမဆုံး လုပ်သင့်သည့် အလုပ်ကို စဉ်းစားသည်။ ဘာပဲဖြစ်ဖြစ် သူ၏ ရန်သူဟု သတ်မှတ်ထားသော ဂျူစီအား စိတ်ဆင်းရဲ ကိုယ်ဆင်းရဲဖြစ်အောင် လုပ်ရမည်။ မိမိက အလုပ်ရှင် အနေဖြင့် အပေါ်စီးရထားသူဖြစ်ရာ ဂျူစီ၏ စိတ်ကို ချိုးနှိမ်ပစ်ရမည်။

သူ မော်တော်ကားဆီသို့ လျှောက်သွားချိန်တွင် ပီတူးနီးယား ပန်းခင်းကို ရေလောင်းနေသော ဂျူစီအား သတိထား မိသည်။ ဂျူစီကတော့ သူ့ကို မြင်ဟန်မတူ။ ရုံးရောက်ပြန်တော့လည်း တမနက်ခင်း လုံး အလုပ် လုပ်၍ မရ။ ထိုနေ့ မွန်းလွဲပိုင်းတွင် သူသည် ခါတိုင်း အိမ်ပြန်လာနေကျအချိန်ထက် တနာရီ တိတိ စော၍ ပြန်လာသည်။

သူ အပြန်တွင် သူ့သားနှင့် ဂျူစီတို့ တပူးတွဲတွဲ လုပ်နေကြသည်ကို ဖမ်းမိလိမ့်မည်ဟုလည်း မျှော်လင့် ထားသည်။ သို့သော်လည်း နီကိုလတ်စ်မှာ

http://www.shwezinu.com/


အိမ်အပေါ်ထပ်တွင် စာကျက်လျက်ရှိ၍ ဉယျာဉ်မှူးဂျိုစီမှာ အိမ်ဝင်း အုတ်ထရံအနီးရှိ မြက်ပင်ကြီး များကြားတွင်ရပ်ကာ မြက်ရိတ်တံစဉ်ကို သွေးနေသည်။ ဟာရင်တန် ဘရန်းဒီး သည် ကားပေါ်မှ ဆင်းမိလျှင် ဆင်းမိချင်း ဂျိုစီထံသို့ တိုက်ရိုက်လျှောက်သွားသည်။

' ငါ မင်းနဲ့ စကားပြောစရာရှိတယ် ... '

' ဟုတ်ကဲ့ပါ ...ဆီညော် ' ဂျိုစီ၏ အသံမှာ တရိုတသေပင်ဖြစ်သည်။ မနေ့ကလို မခံချင်စိတ်နှင့် ယှဉ် သော အသံမျိုးမဟုတ်။ အမူအရာကလည်း ကျိုးကျိုးနွံ့နွံ့ပင် ဖြစ်သည်။ သို့သော်လည်း အလျင်ကလို သူ ပြောသမျှ လုပ်သမျှကို ခေါင်းငုံ့ခံမည့် အမူအရာမျိုးတော့မရှိ။ ရင်ဆိုင်စရာရှိလာလျှင် တိကျပြတ်သားစွာ ရင်ဆိုင် မည့်ပုံမျိုးဖြစ်သည်။ ဂျိုစီ၏ အမူအရာသည် ကောင်စစ်ဂန်၏ ဒေါသကို ဆွပေးလိုက်သလို ဖြစ်သွား သည်။

' မင်း ... နီကိုလတ်စ်နဲ့ စကားမပြောပါနဲ့ '

ဂျိုစီသည် လက်ထဲမှ ဓားသွေးကျောက်ကို အတန်ကြာမျှ စိုက်ကြည့်နေသည်။

' ဘုရားသခင်က ကျွန်တော့်ကို လျှာပေးထားခဲ့ပါတယ် ဆီညော်...၊ ကျွန်တော့်လျှာကို မသုံးရဘူးလို့ တားမြစ် လိုပါသလား... '

' ဟုတ်တယ် ... ငါ တားမြစ်တယ် ' ဟု ကောင်စစ်ဂန်က ဒေါသတကြီးနှင့် ပြောသည်။

http://www.shwezinu.com/



' ငါ့သားနဲ့ ပတ်သက် နေရင် လုပ်ခိုင်းတယ်၊ သူ့ကိုမင်းက မြေတူးခိုင်းတယ်၊ ပေါင်းသင်းခိုင်းတယ်၊ ချုံပင်တွေ ခုတ်ခိုင်း တယ်'

'သူ့ကို သန့်သန့်စွမ်းစွမ်း ဖြစ်လာစေချင်တဲ့ စေတနာနဲ့ ကျွန်တော် လုပ်ခဲ့တာပါ ' ဟု ဂျိုစီက ဖြေသည်။

'အချိန်ရှိသမျှ နာဖျားမကျန်းဖြစ်နေတဲ့ မိန်းကလေးတယောက်လို အိပ်ရာပေါ်မှာချည်း လှဲမနေသင့်ပါဘူး '

' မင်း တော်တော်လူပါးဝတဲ့ အကောင်ပါလားကွ ဟေ ... '

'သူဟာ အလျင်ကထက် အများကြီး ကျန်းမာလာပါတယ် ' ဟု ဂျိုစီက အလျှော့မပေးပဲ ဖွတ်တိုးပြောသည်။

'ဆီညော်ကိုယ်တိုင် မြင်နိုင်ပါတယ် ...၊ ရောက်စက ဖြူရော်ရော် ဖါကြန်ကြန်ဖြစ်နေတဲ့ သူ့ အသား အရေဟာ အခုဆိုရင် အညိုရောင်ကို ပြောင်းလာတာ တွေ့နိုင် ပါတယ်..၊ ပြီးတော့ သူကိုယ်တိုင်ကလဲ တံစဉ် ပေါ့ပေါ့ပါးပါး ကလေးနဲ့ သဲမြေပေါ်မှာ ပေါက်တဲ့ ကျောက်ခက်ပင်လို အပင်မျိုးတွေကို ရိတ်ရတာ သဘောကျတယ်၊ ကျွန်တော်ကလဲ ဒီလို ပေါ့ပါးတဲ့ အလုပ်မျိုးကိုပဲ ခိုင်းတာပါ၊ ကျွန်တော်နဲ့ နေတဲ့အခိုက်မှာ လေကောင်းလေသန့် ရှုရှိုက်ရင်းနဲ့ သူ့အကြော တွေကို အသုံးပြုနိုင်အောင် လုပ်ပေးတဲ့ သဘောပါ '

ဂျိုစီ၏ စကားသည် ဘရန်းဒီး၏ ဒေါသကို ပို၍ ကြီးလာစေသည်။ ဒေါသအရှိန်ဖြင့် တမျက်နှာလုံး ညိုမည်း လာသည်။ သို့သော်လည်း

http://www.shwezinu.com/



သူ့ဒေါသကို ပေါက်ကွဲမထွက်အောင် ထိန်းချုပ်ထားသည်။ သူ သည် ဂျိုစီအား အံကြိတ်၍ ကြည့်သည်။

'မင်း ငါပြောတာကို လိုက်နာရင် လိုက်နာ မလိုက်နာရင် အလုပ်ကထွက်'

အချိန် အတော်ကြာမျှ ငြိမ်ဆိတ်သွားသည်။ ဂျိုစီက ကောင်စစ်ဂန်၏ မျက်နှာကို မော့ကြည့်သည်။ ချက်ချင်းပင် သူ့အကြည့်ကို အဝေးသို့ ပြောင်းလိုက်၏။ သူ့မျက်နှာမှာ မှုန်မှိုင်းလျက်ရှိလေသည်။

' ကျွန်တော် လိုက်နာဖို့ ကတိပေးတယ် '

သူ၏ ဩဇာအာဏာ တည်သွားသဖြင့် ကောင်စစ်ဂန်သည် ကျေနပ် အားရသွားသည်။ သူ့ဘက်က အပေါ်စီးရခိုက်တွင် ဂျိုစီအား ဦးကျိုးသွားအောင် လုပ်ရမည်။ ဂျိုစီ၏ အစွယ်များကို စေစောစီးစီး ချိုးထားမှ ဖြစ်မည်။ နောင်ကြည်သွားအောင် သင်ခန်းစာပေးမှ ဖြစ်မည်ဟု သူတွေးသည်။

ဂျိုစီကတော့ ဘာတခွန်းမှ မပြောတော့ပဲ သူ့အလုပ်ကို ပြန်လုပ်ရန် ဟန်ပြင်သည်။

'နေဦး၊ ပြောစရာကိစ္စ တခုရှိသေးတယ်၊ ဥယျာဉ်က ငါမျှော်လင့်ထားတဲ့ ပုံစံ ဖြစ်မလာသေးဘူး၊ ဒီကိစ္စမှာလဲ ငါမကျေနပ်ဘူး၊ ငါ မင်းကို လက်တွေ့ဥပမာ တခုပြမယ်၊ ဟောဒီမှာကြည့် '

ကောင်စစ်ဂန်က ကက်တားပါးပင် ၏ တဘက်ရှိ မြေကွက် အလွတ်တခုကို လက်ညှိုးထိုးပြသည်။

http://www.shwezinu.com/

ထိုမြေမှာ မြေကြမ်းမြေရိုင်း ဖြစ်နေဆဲ။ လုံး၀ ပြန်လည်ပြုပြင်ရှင်းလင်းခြင်းမပြုရသေး။

'မင်း မြင်တဲ့ အတိုင်းပဲ၊ ဒီမြေပေါ်မှာ ဘာမှမရှိဘူး၊ မြေလွတ်ကြီး၊ ဒီမြေကို ကျောက်ဆောင် ကျောက်တုံးတွေ ခင်းပြီး၊ ကြည့်လို့ လှပမယ့် ကျောက်ပန်းဥယျာဉ်တခု လုပ်မယ်လို့ ငါ စိတ်ကူးထားတယ်'

' ကျောက်ပန်း ဥယျာဉ် လုပ်မယ် ဟုတ်လား ဆီညော် '

ဂျိုစီက တအံ့တသြ ရေရွတ်သည်။

'ဟုတ်တယ်၊ ဟောဟိုဘက် အနိမ့်ထဲမှာရှိနေတဲ့ မြေကွက်ထဲက ကျောက်တုံးကို မင်းသယ်ပြီး လုပ်နိုင်တယ် '

ဂျိုစီက ကောင်စစ်ဂန် ညွှန်ပြနေသော မြေကွက်ကို လှမ်းကြည့်သည်။

'ဒီကျောက်တုံးကြီးတွေက အကြီးကြီးတွေပဲ၊ သယ်ဖို့မလွယ်ဘူး၊ သိပ်လေးပါတယ် ... ဆီညော် '

'မင်းက အလုပ်ကြမ်း လုပ်ရမှာ ကြောက်နေသလား '

ဘရန်းဒီးက မလိုတမာ အသံဖြင့် သရော် သည်။

'အလုပ်ကြမ်း လုပ်ရမှာ မကြောက်တဲ့ အကြောင်းကို ကျွန်တော် လက်တွေ့ပြခဲ့ပြီးပါပြီ ဆီညော် '

http://www.shwezinu.com/



ဂျူစီက သူ့အသံကို ထိန်း၍ ပြောသည်။ သူ့ လေသံမှာ မသိနားမလည်သော ကလေးငယ် တယောက်အား နားဝင်အောင် ရှင်းလင်း ပြောပြနေသည့် လေသံမျိုး ...။

'ဒါပေမယ့် အဲဒီ မြေကွက် ပေါ်က ကျောက်တုံးကြီးတွေကို ဒီဘက်ရွေ့ဖို့ ဆိုတာက အလုပ်သမားအများကြီး လိုလာပါလိမ့်မယ်၊ သံကြိုးတွေနဲ့ ကရိန်း တခုလဲ ရှိမှဖြစ်မှာပါ '

'အဓိပ္ပာယ်မရှိတဲ့ စကားတွေ ပြောမနေပါနဲ့ကွာ၊ လူတော်တယောက် ဆိုရင် တယောက်တည်း လုပ် နိုင်တဲ့ အလုပ်မျိုးပါ '

'ဆီညော်ဟာ လူတော် တယောက်ပါ ခင်ဗျာ၊ ဆီညော် တယောက်တည်း ဒီကျောက်တုံးတွေကို သယ်နိုင် ရွေ့နိုင် ပါ့မလား' ဟု ဂျူစီက လေအေးကလေးဖြင့် ပြန်မေးသည်။

' မင်း ငါ့ကို စောကား မော်ကား မပြောနဲ့ '

ဂျူစီသည် နှုတ်ခမ်းကို ကိုက်ကာ အနိမ့်ပိုင်းထဲမှ မြေကွက်ဆီသို့ ငေးကြည့် နေသည်။ ကျောက်ဆောင် ကျောက်တုံး များမှာ သေးသေးငယ်ငယ်များ မဟုတ်။ အလွန် ကြီးမားသော ကျောက်တုံးကြီးများ ဖြစ်သည်။ အချွန် အတက်များနှင့် အလွန်ကြမ်းသော ကျောက်တုံးကြီးများ ဖြစ်သည်။ အချို့ကျောက်တုံးကြီးများသည် မြေကြီး ထဲတွင် နစ်ဝင်လျက် ရှိကြသည်။ ပို၍ ဆိုးသည်မှာ တခြားမဟုတ်။

http://www.shwezinu.com/



အချို့ နေရာများတွင် ယူကလစ်ပင် အမြစ်များသည် ကျောက်တုံးကြီးများ အောက်ခြေဘက်၌ တွယ်ပတ် မြုပ်ဝင်လျက် ရှိခြင်းဖြစ်၏။ ဤကျောက်တုံးကြီးများအား သယ်ဖို့ ရွှေ့ဖို့ဆိုသည်မှာ အလွန် အလွယ် ကူသော အလုပ်တခုဖြစ်၏။ လုပ်၍ ဖြစ်မြောက်နိုင်သည် ဆိုဦး တော့…။ အဆမတန် အပင်ပန်း ခံရပေလိမ့်မည်။ ပီလိုတာ ဘောလုံးပွဲအတွက် မွေးထားသည့် ခွန်အား ဟူသမျှ အကုန်ခံရပေလိမ့်မည်။

ဤအလုပ် မှာ မလုပ်ခင် ကတည်းက စဉ်းစား တွေးတောရုံမျှဖြင့် ဂျိုစီမှာ စိတ်ထိခိုက် ကြေကွဲခြင်း ဖြစ်ရ သည်။

မလုပ်နိုင်ဟု ငြင်းဆန်ဖို့ ဆိုသည်မှာလည်း သူ့အဖို့ မလွယ်။ သူ့အိမ်အခြေအနေမှာ ကောင်းသည် မဟုတ်၊ သူ့အမေ ဆိုလျှင် တနေကုန် တနေခန်း မိုးလင်းမှ မိုးချုပ် အများသုံး ရေချိုးကန်တွင် ထိုင်၍ အဝတ် လျှော်ရသည်။ ရသည့် လုပ်ခက မဖြစ်စလောက်။ သူ့အောက် ညီမငယ် ငါးယောက်မှာ လူလား မြောက်ကြသေးသည်မဟုတ်။ သူတို့သည် စာပေါက်စကလေးများ သဖွယ် အမြဲတစေ ပါးစပ်များကို ဟလျက် အစားအစာကို ငံ့လင့်နေကြသူများ ဖြစ်၏။ သူ့အဘိုး ပက်ဒရိုကိုတော့ ထည့်၍ စဉ်းစားရန်ပင် မလို။ သူ့အဘိုးမှာ အိုမင်းမစွမ်း အရွယ် ရောက်နေပြီဖြစ်၍ ဝင်ငွေ တပြားတချပ်မှ ရှာဖွေ နိုင်တော့ သည်မဟုတ်။ အမှန်တော့ သူ့အမေ အပါအဝင် တအိမ်သား လုံးသည် သူ့လုပ်စာကို မှီခိုနေရသူများဖြစ်၏။

http://www.shwezinu.com/



သို့ဖြစ်ရာ အခု ကောင်စစ်ဝန်ခိုင်းသည့် အလုပ်ကို သူမလုပ်၍ မဖြစ်။ နောက်ဆုံး ဖြစ်လိုရာ ဖြစ်စေ တော့ဟု သဘောထားကာ လုပ်ရမည်သာ ဖြစ်သည်။ အရေးကြီးသည်မှာ ရထားသည့် အလုပ်မှ မပြုတ်ရန် သာဖြစ်၏။ ထို့အပြင်လည်း နီကိုလတ်စ်၏ မျက်နှာက ရှိသေးသည်။ ဘာကြောင့်ရယ်တော့ မသိ...။ နီကိုလတ်စ်ကို သူ တွေ့စကတည်းက ညီလေး တယောက်သဖွယ် ခင်မင်မိခဲ့သည်။ သူသည် တွေဝေ ငေးငိုင် နေရာမှ တည်ငြိမ် လေးနက်သော မျက်နှာထားဖြင့် ကောင်စစ်ဝန် အား မော့်ကြည့်သည်။

' ကောင်းပြီလေ...၊ ကျွန်တော် လုပ်မယ် '

' အေး ... ၊ ငါကလဲ မင်း လုပ်လိမ့်မယ်လို့ ထင်ထားပြီသားပါ ' ဟု ဘရန်းဒီးက လှောင်ပြောင် သရော်သံဖြင့် ပြောသည်။

'ကောင်းကောင်း လုပ်ပေါ့ကွာ၊ မလုပ်နိုင်တော့လဲ မင်း ဘာကြောင့် မလုပ်နိုင်ရသလဲဆိုတဲ့ အကြောင်း ကို ငါ သိလားရမှာပေါ့ '

သူသည် နောက်သို့ လှည့်ကာ အိမ်ဘက်သို့ ပြန်လျှောက်လာသည်။ သူ၏ လက်ကိုင်တုတ်နှင့် ဦးထုပ်ကို ဆီးကြို၍ ယူရန် တံခါးဝမှ ရပ်စောင့်နေသော ဂရေစီယာကို ကျေနပ်နှစ်သိမ့်လှသော အမူအရာဖြင့် ခေါင်း တချက် ဆတ်ပြပြီး အိမ်ထဲသို့ ဝင်သည်။ ယနေ့ည ဘုရားရှိခိုးအပြီးတွင် သူ့သားနီကိုလတ်စ်နှင့် ပြောစရာ ရှိသမျှ စကားများကို ပြောရပေဦးမည်။

http://www.shwezinu.com/



နောက်တနေ့ နံနက်မှစ၍ ဂျိုစီသည် ကျောက်ပန်းဥယျာဉ်ကို စလုပ်သည်။ သူ့တွင် လက်နက် ကိရိ ယာ ပြည့်ပြည့် စုံစုံ မရှိ။ ရှိသမျှမှာလည်း သိပ်ပြီး အရာရောက်နိုင်သည့် ပစ္စည်းများမဟုတ်။ ပေါက်ချွန်း တလက်၊ သံတူရွင်း နှစ်ချောင်းနှင့် ဂင်ရိုးပျက်နေသော လက်တွန်းလှည်း တစ်စီးသာ ဖြစ်သည်။ အများအားဖြင့် ကျောက်တုံးကြီးများမှာ မြေကြီးထဲ နှစ်ဝင်နေကြသဖြင့် သံတူရွင်းများကို ကုပ်သဖွယ် အသုံးပြု၍ ကော်ထုတ် ရသည်။ ထို့နောက် လက်တွန်းလှည်းပေါ်တင်၍ ဆွဲယူရသည်။

တင်၍ မရသည့် အခါများတွင်မူ ကျောက်တုံးကြီးများကို ကြိုးနှင့်ချည်၍ လှည်းနှင့် ဆွဲယူရသည်။ ကျောက်တုံးများ တည်ရာမြေနှင့် ဥယျာဉ်မြေမှာ ဂိုက်ငါးဆယ်ကျော်ကျော် ခန့်ဝေးသဖြင့် များစွာ အပင်ပန်းခံ၍ သယ်ရလေသည်။ ကျောက်တုံးကြီးများ၏ အောက်ခြေသို့ သံတူရွင်းများကို ကုပ်သဖွယ် ထိုးသွင်း ၍ မထားပြီးခါမှ ပြန်၍ ကျသွားသည့် အခါများတွင် ဂျိုစီမှာ အကြီးအကျယ် စိတ်မောလူမော ဖြစ်ရသည်။

ဤအဖြစ်မှာ မကြာခဏ ကြုံရသော အဖြစ်တခုမို့ ကြာတော့လည်း အရေထူ လာသည်။ တခါတရံတွင် တွန်းလှည်းပေါ် ရောက်နေပြီဖြစ်သော ကျောက်တုံးသည် အမြင့်ပိုင်း ရောက်လုနီးခါမှ ထွက်ကျပြီး အောက်ဘက်သို့ ပြန်၍ လိမ့်ဆင်းသွားတတ်သည်။ ထိုအခါမျိုးတွင်လည်း ဂျိုစီမှာ စိတ်ပျက် လက်ပျက်ဖြင့် တခေါက် ပြန်၍ သယ်ရတတ်လေသည်။

http://www.shwezinu.com/



အလုပ် ကတော့ အဆမတန် ပင်ပန်းလွန်း လှချေသည်။ ရာသီဥတု ကလည်း ပူနွေးသော ရာသီဖြစ်၍ ပို၍ ခက်ခဲ ပင်ပန်း ရခြင်းဖြစ်၏။ မနက်ပိုင်း အရက် တက်ချိန်လောက်တွင်သာ အအေးဓာတ်ရှိ၍ နေထွက် လာသည်နှင့် တပြိုင်နက် အပူရှိန်သည် သိသိသာသာ တက်လာတတ်သည်။ ဂျိုစီ၏ လက်နှစ်ဘက်မှာ ကျောက်တုံး အစွန်းများနှင့် ထိခိုက်မိသဖြင့် ဒဏ်ရာ အနာအဆာများနှင့် ဗရပွ ဖြစ် လာသည်။ ပေါက်ပြဲ နေသော ထိုဒဏ်ရာများမှ သွေးများသည် စို့ထွက်နေကြ၏။

တကိုယ်လုံးမှာလည်း ရေချိုးထားသည့်နှယ် ချွေးများဖြင့် ရွှဲရွှဲစိုလျက် ရှိသည်။ နဖူးမှ ချွေးသီးချွေးပေါက်များ သူ့မျက်စိများအတွင်းသို့ စီးမဝင်စေရန် အတွက် သူ့လက်ကိုင်ပဝါ အနီကို နဖူးမှ ပတ်၍ စည်းထား ရလေသည်။ သူ့အတွက် စိတ်ချမ်းမြေ့စရာ အကောင်းဆုံးအချိန်မှာ တချိန်သာလျှင် ရှိ၏။ ထိုအချိန်မှာ လိမ္မော်ရောင် နေလုံးကြီး အနောက်ဘက် ပင်လယ် ရေပြင် အောက်သို့ ငုပ်ဆင်းသွားသည့် အချိန်ပင်တည်း။

ဤမျှလောက် အထိ ပင်ပန်းကြီးစွာ လုပ်နေရသော်လည်း ဂျိုစီသည် အလုပ်ကို ဆက်မလုပ်ပဲ ရပ်လိုက်တော့ မည်ဟု စိတ်ကူးခြင်းမပြု။ မတရား သဖြင့် ခိုင်းမှန်းလည်း သူသိသည်။ မတရားသဖြင့် လုပ်မှန်း သိ၍ပင် သူ့စိတ် သည် တိုး၍ခိုင်မာလာသည်ဟု ထင်သည်။

ဤသို့ဖြင့် ရက်တွေ တရက်ပြီးတရက် ကုန်လာသည်။ သူကလည်း နေ့စဉ်မှန်မှန်ပင် သူ လုပ်ရမည့် အလုပ်ကို လုပ်သည်။ ပန်းခုံးအောက်တွင်

http://www.shwezinu.com/



ထိုင်၍ စာကျက်နေရသော နီကိုလတ်စ်သည် သူ့မိတ်ဆွေ ဂျူစီ၏ အဖြစ် ကို ကြည့်၍ စိတ်မကောင်းဖြစ်နေရသည်။ အလွန်လေးလံသော ကျောက် တုံးကြီးများကို မနိုင့်တနိုင် သယ်ယူ ရသည့်အဖြစ်မှာ သူ အမြဲတစေ မြင်တွေ့နေရသောရှုခင်းဖြစ်နေသည်။ ကျောက်တုံးတတုံး ဂျူစီ၏ ခြေထောက်ပေါ် ကျသွားသည်ကို မြင်တွေ့လိုက်ရသည့် အခါကဆိုလျှင် သူ့မှာ များစွာ စိတ်ထိခိုက်ခဲ့ရ၏။

အဆိုးဆုံးကား တခြား မဟုတ်။ ဂျူစီက သူ့ကို မကြည့်ခြင်းပင်တည်း။ သူ့ရှေ့မှ ဖြတ်သွားဖြတ်လာ လုပ်နေ သော်လည်း သူ့ကို လှည့်မကြည့်။ အမှတ်တမဲ့ မျက်နှာချင်း ဆိုင်မိပြန်တော့လည်း ပြုံးဖော် ရယ်ဖော် ပင်မရ။ သူ့ မျက်နှာသည် အမြဲတစေ ရှေ့တည့်တည့်ကိုသာ စူးစိုက်ထားသည်။ သူ မျက်နှာမှာ ယခင်ကလို ရွှင်ရွှင် လန်းလန်းမရှိ။ တစုံတခုသော အကြောင်းကြောင့် နာကျည်းဟန် ပေါက်လျက်ရှိလေသည်။

နီကိုလတ်စ် အနေဖြင့် ဂျူစီအား စကား ပြောချင်ပါ၏။ မပြောပုံ။ ဤအဖြစ်ကြောင့် သူ့နှလုံးသားမှာ နာကျင် ရသည်။ သူ့အဖေက ဘာကြောင့် ဂျူစီအား စကားမပြောရဟု ပိတ်ပင်ထားရပါသနည်း..။ သူ့ အဖေ၏ သဘောထားနှင့် သူ့အဖေ၏ အမိန့်ကို သူ နားမလည်။ သူ့အနေဖြင့် သူ့ အဖေကို ချစ်ပါ၏။ ဤအချက်နှင့် ပတ်သက်၍ နည်းနည်းကလေးမှ သံသယ ဖြစ်စရာမရှိဟု သူ ထင်သည်။ တဘက်တွင်လည်း ဂျူစီအား သူချစ်သည်။ သို့သော်လည်း ဂျူစီကို ချစ်ပုံနှင့် သူ့အဖေကို ချစ်ပုံမှာ တူတော့မတူ။ တမျိုးစီ

http://www.shwezinu.com/

တဘာသာစီ ဖြစ်သည်။ သူ့အဖေသည် ဘာကြောင့်များ သူတို့ နှစ်ယောက် ၏ ခင်မင်မှုကို တားမြစ် ပိတ်ပင် ချင်ရပါသနည်း။

ရုတ်တရက် သူ့ ခေါင်းထဲသို့ စိတ်ကူးတခု ဝင်လာသည်။ သူ့ စိတ်ကူးမှာ သူတို့နှစ်ယောက် အတွက် ထွက်ပေါက် တခုဖြစ်သည်။ ဤစိတ်ကူး အတိုင်းသာ လုပ်လျှင် သူ့အဖေ၏ အမိန့်ကို မလိုက်နာရာ ရောက်လိမ့် မည် မဟုတ်။ ဂျိုစီနှင့်လည်း အဆက်အသွယ် ပြတ်စရာအကြောင်းမရှိ။ သူသည် အတန်ကြာမျှ ငိုင်၍ စဉ်းစားနေသေးသည်။ ထို့နောက် စားပွဲပေါ်မှ စာရေး စက္ကူ တရွက်ကို ယူကာ ခဲတံဖြင့် စာတစောင် ရေးသည်။

ချစ်သောဂျိုစီ ...

ကျွန်တော် ခင်ဗျားနဲ့ စကားမပြောပါဘူးလို့ ကတိပေးထားရတယ်။ ဒါပေမယ့် ခင်ဗျားဆီ စာမရေးပါဘူးလို့တော့ ကတိ ပေးမထားဘူး။ ဒါကြောင့် ကျွန်တော် ဒီစာကို ရေးတာ၊ အခုလို စာရေး တာတော့ ကျွန်တော် မမှားဘူးလို့ ထင်တယ်။ ဘာပဲ ဖြစ်ဖြစ် ကျွန်တော်ကတော့ စာရေးရမှာပဲ။ ဘာကြောင့် လဲ ဆိုတော့ ကျွန်တော် ခင်ဗျားကို သိပ် သတိရလို့ပါ။ ညအိပ်တဲ့ အချိန်ဆိုရင် ခင်ဗျားကို သတိရလွန်းလို့ အိပ်လို့ တောင် ကောင်းကောင်းမပျော်ဘူး။

ဂျိုစီရာ ခင်ဗျား သိပ်အပင်ပန်းခံတယ်။ သိပ်ပြီးတော့လဲ မလုပ်နဲ့ဗျာ။ နားနားနေနေ လုပ်ပါ။ ကျွန်တော် ခင်ဗျားကို ကူညီပြီး လုပ်ကိုင်ပေးချင်ပါတယ်။ တကယ်ပါ။ ကျွန်တော်တို့ ပန်းပင်တွေ စိုက်ကြတုန်းက ခင်ဗျား ပြောခဲ့တယ် မဟုတ်လား။ ကျွန်တော်ဟာ သိပ်ပြီး အကူအညီရတာပဲလို့။

http://www.shwezinu.com/



တကယ်လို့ ခင်ဗျားကျောအောင့်ရင် မာရီယာကို ခေါ်ပြီး နှိပ်ခိုင်းပေါ့ဗျာ။ ဒီစကားက ခင်ဗျား ကျွန်တော့်ကို ပြောခဲ့ဖူးတဲ့ စကားပဲ။ ကျွန်တော် ခင်ဗျားနဲ့ အတူတူ အလုပ် မလုပ်နိုင်ပေမယ့် ခင်ဗျား သင်ထားတဲ့ ကာယ လေ့ကျင့်ခန်းတွေကို မှန်မှန် လုပ်တယ်။ ဒါကြောင့်မို့ အလျင်ကလို သန်သန် မာမာပဲ၊ နောက်တနေ့ ကျရင် ကျွန်တော် လည်း ခင်ဗျားလို ပီလိုတာ ဘောလုံးသမားကောင်း တယောက်ဖြစ်ချင် ဖြစ်လာမှာပါဗျာ။ စာပြန် ရေးပါ။ ခင်ဗျား သဘောထား ကိုလည်း ထည့်ရေးဖို့ မမေ့ပါနဲ့။

ဟိုနေ့က ခင်ဗျားရလာတဲ့ငါးတွေကို အဘိုးပက်ဒရိုနဲ့ ညီမလေး ငါးယောက်က ကြိုက်ကြတယ် မဟုတ်လား။

ခင်ဗျားကလည်း ကျွန်တော့်ကို သတိရနေလိမ့်မယ်လို့ မျှော်လင့်ပါတယ် ဗျာ။

နီကိုလတ်စ်

စာရေးပြီးသောအခါ နီကိုလတ်စ်သည် စက္ကူကို သေးသေးကလေး ဖြစ်သွားအောင် အထပ်ထပ် ခေါက်သည်။ အိမ်ပြူတင်းပေါက်များမှ သူ့အား ချောင်းမြောင်းကြည့်နေသူ ရှိ မရှိ မသိမသာ မျှော် ကြည့်ရင်း ဂျူစီ သူ့ရှေ့မှ ဖြတ်အသွားကို စောင့်နေသည်။ ဂျူစီ သူ့ရှေ့တည့်တည့် ရောက်သည်နှင့် တပြိုင်နက် လက်ထဲ၌ ဆုပ်ထားသော စက္ကူခေါက်ကလေးကို တွန်းလှည်းပေါ်သို့ လှမ်းပစ်လိုက်၏။ စာရွက် ခေါက်ကလေးသည် တွန်းလှည်းပေါ်ရှိ ကျောက်တုံးနှစ်တုံးကြားသို့ ကျရောက် ပျောက်ကွယ်သွားလေ၏။

http://www.shwezinu.com/

ဂျိုစီကတော့ အံ့အားသင့်သွားသည့် အရိပ်အရောင် မပြ။ တွန်းလှည်းကို အရှိန်မပျက် ဆက်၍တွန်း သွားသည်။ သူပစ်ထည့်လိုက်သည့် စာကို မမြင်၍များလား။ နီကိုလတ်စ်သည် သူ့အတွေးနှင့်သူ ရင်ခုန် လျက်ရှိသည်။ ဂျိုစီဘက်သို့ တချက်လှမ်းကြည့်သည်။

ဂျိုစီသည် တွန်းလှည်းအတွင်းမှ ကျောက်တုံးများကို သွန်ချလိုက်ပြီး စာရွက်ခေါက်ကို ဆက်ကနဲ ကောက်ယူကာ လက်နှင့် ဆုပ်ထား သည်။ ထို့နောက် အောက်ဘက်မြေကွက်ဆီသို့ ပြန်ဆင်းသွားသည်။ သူသည် တခါတရံ တွင် ပစ္စည်းများထားရာ တဲ အတွင်းသို့ဝင်၍ ရေသောက်ရင်း အမောဖြေတတ်သည်။ အခု တခေါက် တွင်လည်း တော်တော်နှင့် ပြန်၍ ပေါ်မလာ။ သူ ပြန်ပေါ်လာသည့်အခါတွင်မူ သူ့နားတဘက် ၌ ခဲတံ တချောင်း ညှပ်ထားသည်ကို မြင်ရလေသည်။

ဂျိုစီသည် စောစာကလိုပင် ပုံမှန်ပြန်လျှောက်လာသည်။ သူ့ရှေ့မှ အဖြတ်တွင် တချက်မျှပြုံးသည်။ ဂျိုစီ၏ လက်တဘက်သည် သွက်လက် လျင်မြန်စွာ လှုပ်ရှားသွားသည်။ တဆက်တည်းပင် သူ့ ရင်ခွင်ထက်သို့ ကျစ်ကျစ် လျစ်လျစ် ထုပ်ထားသော စာရွက်ခေါက်တခုကျလာသည်။

နောက် တခဏတွင် ဂျိုစီသည် ပိုင်ယာတဲလ် ပန်းချုံနောက်ဘက်သို့ ဂင်ရောက်ပျောက်ကွယ်သွားသည်။

ဂျိုစီ ကတော့ အံ့အားသင့်သွားသည့် အရိပ်အရောင် မပြ။ တွန်းလှည်းကို အရှိန်မပျက် ဆက်၍ တွန်း သွားသည်။ သူပစ်ထည့်လိုက်သည့် စာကို

http://www.shwezinu.com/



မမြင်၍များလား။ နီကိုလတ်စ်သည် သူ့အတွေးနှင့်သူ ရင်ခုန် လျက်ရှိသည်။ ဂျိုစီဘက်သို့ တချက်လှမ်းကြည့်သည်။

ဂျိုစီသည် တွန်းလှည်းအတွင်းမှ ကျောက်တုံးများကို သွန်ချလိုက်ပြီး စာရွက်ခေါက်ကို ဆတ်ကနဲ ကောက်ယူကာ လက်နှင့်ဆုပ်ထား သည်။ ထို့နောက် အောက်ဘက်မြေကွက်ဆီသို့ ပြန်ဆင်းသွားသည်။ သူသည် တခါတရံတွင် ပစ္စည်းများထားရာ တဲအတွင်းသို့ဝင်၍ ရေသောက်ရင်း အမောဖြေ တတ်သည်။ အခု တခေါက်တွင် လည်း တော်တော်နှင့် ပြန်၍ ပေါ်မလာ။ သူ ပြန်ပေါ်လာသည့်အခါတွင်မူ သူ့နားတဘက် ၌ ခဲတံ တချောင်း ညှပ်ထားသည်ကို မြင်ရလေသည်။

ဂျိုစီသည် စောစောကလိုပင် ပုံမှန် ပြန်လျှောက်လာသည်။ သူ့ရှေ့မှ အဖြတ်တွင် တချက်မျှပြုံးသည်။ ဂျိုစီ၏ လက်တဘက်သည် သွက်လက် လျင်မြန်စွာ လှုပ်ရှား သွားသည်။ တဆက်တည်းပင် သူ့ရင်ခွင်ထက်သို့ ကျစ်ကျစ်လျစ်လျစ် ထုပ်ထားသော စာရွက်ခေါက်တခုကျလာသည်။ နောက် တခဏတွင် ဂျိုစီသည် ပိုင်ယာတဲလ် ပန်းချုံနောက်ဘက်သို့ ဝင်ရောက် ပျောက်ကွယ်သွားသည်။

နီကိုလတ်စ်သည် အခုမှ စိတ်အေးသွားသည့်နယ် သက်ပြင်းတချက် ချလိုက်ပြီး စာကို ကောက်ယူသည်။ လက်ရေးက ပိုင်းပိုင်းစက်စက်...။ သပ်သပ်ရပ်ရပ် ညီညီညာညာတော့ မဟုတ်။ ခဲတံအမာ စားနှင့် ရေးထား သည့် ဂျိုစီ၏ လက်ရေး...။

http://www.shwezinu.com/



နီကိုလတ်စ် ...

မင်းက ငါ့ထက်ဦးနှောက်ကောင်းတယ်။ ဦးနှောက်ကောင်း လို့ မင်း ဒီနည်းလမ်းကို သိတာပေါ့။ စာထပ်ရေးဦးကွာ။ စာရေးတာကတော့ ဘယ်သူ့ကိုမှ မထိခိုက်ပါဘူး။ အခု ငါ လုပ်နေ ရတဲ့ အလုပ်က မဖြစ်လောက် ပါဘူးကွာ။ မင်းလည်း သိသားပဲ။ ငါက အင်ဒါလူစီယန် မြည်းတကောင်လို ပေတေတေ ကောင်စားပါ။

အင်ဒါလူစီယန် အလွန် ဖွဲကောင်းတယ်ကွ။ သိလား။ စိတ်မပူပါနဲ့။ ဘာပဲဖြစ်ဖြစ် တနင်္ဂနွေကျလို့ အေရင်းရိုးမြစ်ကို သွားပြီး ငါးမျှားတဲ့အခါ ငါ ကောင်းကောင်း အနားရပါတယ်ကွာ။ အေရင်းရိုး မြစ်ကိုသွားတဲ့အခါ မင်းပါ လိုက်လာနိုင်ရင် သိပ်ကောင်းမှာပဲ။ ညီမလေး ငါးယောက်လည်း နေကောင်း ကြပါတယ်။

အဘိုးပက်ဒရိုကတော့ ဟိုနေ့က ငါးကို အငမ်းမရ စားတာပေါ့ကွာ။ မင်း ... ငါ့ကို သတိရတယ် ဆိုတာ တကယ်မှ ဟုတ်ရဲ့လားကွာ။ မင်းက သတိရတယ် ဆိုတော့လည်း ငါ့မှာ အားတက်တာပေါ့ကွာ။

ဂျိုစီ

နီကိုလတ်စ်သည် စာကိုဖတ်ကာ ဝမ်းသာလုံးဆို့လျက် ရှိသည်။ ဂျိုစီ သူ့ကိုအခင်အမင်မပျက်သေး။ သူ့ကို သတိရနေဆဲ။ သူသည် တချက်မျှ အသံထွက်၍ ရယ်လိုက်ပြီး ခဲတံကို လှမ်းယူပြန်သည်။

http://www.shwezinu.com/

ခင်ဗျားလို ဆန်ဂျော့ဂျီမြို့ပေါ်မှာ အကောင်းဆုံး ပီလိုတာ ဘောလုံးသမား တယောက်ဟာ အင်ဒါလူစီယန် မြည်းတကောင်နဲ့ ဘယ်လို လုပ်ပြီး တူမှာလဲဗျာ။ မတူပါဘူး။ ပြီးတော့လဲ ခင်ဗျားဟာ ကျွန်တော့်ရဲ့ အခင်မင်ဆုံး နဲ့ အကောင်းဆုံး သူငယ်ချင်းမဟုတ်လား။

အလျင်တုန်းက ကျွန်တော့်မှာ သူငယ်ချင်းတယောက်မှ မရှိခဲ့ဘူး။ အခု ခင်ဗျားနဲ့ မိတ်ဆွေဖြစ်ရလို့ ကျွန်တော် အရမ်းဝမ်းသာတာပဲ။ ဟဲ … ဟဲ။ ခင်ဗျားရဲ့ လက်တွန်းလှည်း ဝင်ရိုးကို ဘာပြုလို့ ဆီမထိုး တာလဲဗျာ။ တကျည်ကျည် နဲ့ လွှတ်နားငြီးတယ်ဗျ။ ဒါပေမယ့် ကိစ္စတော့ မရှိပါဘူး။ အဲဒီ အသံကို ကျွန်တော် နားထောင် နိုင်ပါတယ်။ အဲဒီအသံက ကျွန်တော့်အဖို့ တေးဂီတသံ တမျိုးနဲ့ တူတယ်။ ဘာကြောင့်လဲ ဆိုတော့ ဒီအသံကြားနေရရင် ခင်ဗျားဟာ ကျွန်တော့်ရဲ့ အနီးအနားမှာ ရှိနေတယ်ဆိုတာ သိနိုင်တယ် မဟုတ်လား။ ကျွန်တော်ဖြင့် ပျော်တယ်ဗျာ။

နီကိုလတ်စ်

ထုံးစံအတိုင်း နီကိုလတ်စ်၏ စာသည် ဂျူစီ၏ လက်တွန်းလှည်းထဲသို့ ရောက်သည်။ ခဏမျှကြာတော့ ဂျူစီ၏ စာသည် နီကိုလတ်စ်၏ ခြေရင်းရှိ ခြေသုတ်ခုံပေါ်ရောက်လာသည်။ ခဏမျှကြာတော့ ဂျူစီ၏စာသည် နီကိုလတ်စ်၏ ခြေရင်းရှိ ခြေသုတ်ခုံပေါ်ရောက်လာသည်။

ငါ့လှည်းဝင်ရိုးကို တကျည်ကျည်မြည်နေအောင် ငါတမင် လုပ်ထား တာကွ။ ဒါမှ ဉယျာဉ်မှူး ပျေင်း တကောင် အလုပ် တကယ်လုပ်နေတယ်ဆိုတာ



http://www.shwezinu.com/

လူတိုင်းသိမှာ။ ဒါပေမယ့် မင်း အတီးအမှုတ် ဂါသနာ ပါတယ်ဆိုရင်တော့ တနေ့လောက် ငါ ကလဲရီနက် မှုတ်ပြမယ်။ ငါတို့ ကက်တာလန် စပိန် တေးဂီသံတွေကို မင်းကြားရင် မင်း ငြိမ်ငြိမ်နေနိုင်မှာ မဟုတ်ဘူး။ ထပြီး ခုန်ပေါက်နေမှာ သေချာ တယ်။ ငါတို့ နှစ်ယောက်စာရေးပြီး စကားပြောရုံမကဘူး။ ငြိမ်ငြိမ်ဆိတ်ဆိတ်နဲ့ ဘောလုံးကစားနိုင် တဲ့နည်းပါ ရှိတယ်ကွ။ ငါလဲ လူအ လူနတယောက် မဟုတ်ပါဘူးကွာ။

မြည်း ဂျိုစီ။

ထို့နောက် နီကိုလတ်စ်ထံမှ စာ ...။

ခင်ဗျားက မြည်းဆိုရင် ကျွန်တော်က သန်းတကောင်ဖြစ်ရမှာပေါ့ ဂျိုစီရာ။ ဒါမှလဲ ဘယ်သူမှ အမြင်မခံရပဲ ခင်ဗျားနဲ့ တွဲနိုင်မှာဗျ။ ပြီးတော့ ခင်ဗျားခုန်ချင်သလောက်ခုန် ကျွန်တော် လွင့်စင် ထွက်မသွား နိုင်ဘူး။ ဒါပေမယ့် တခုတော့ သေချာတယ်ဗျ။ ခင်ဗျားက ကျွန်တော့်ကို မခင် တော့ဘူးဆိုတဲ့ တနေ့ကျရင် ကျွန်တော် ခင်ဗျားကို တအားကိုက်ထားနိုင်တယ် ...။

သန်း နီကို။

နောက်တခေါက် နီကိုလတ်စ် ရှေ့မှ ဖြတ်သွားသည့်အခါ ဂျိုစီသည် မပြုံးတော့ပေ။ စာကိုတော့ ထုံးစံအတိုင်း ပစ်သွားသည်။

http://www.shwezinu.com/



နီကိုရေ...သတိ။ ဂရေစီယာဆိုတဲ့ ကောင်ကြီး ပင်းခြံနားမှာ ရပ်နေတယ်။ ငါတို့ လုပ်နေ တာတော့ မမြင် ပါဘူး။ ဒါပေမယ့် စာတွေ ဆက်ရေးနေလို့မဖြစ်တော့ဘူး။ ရပ်ထားဦးမှ။ မနက်ဖြန် ပေါ့ကွာ။ ငါမင်းကို သတိရ နေပါတယ်။

ဂျိုစီ

နီကိုလတ်စ်သည် ထိတ်လန့်သော စိတ်ဖြင့် တကိုယ်လုံး တောင့်တင်းသွားသည်။ ရုတ်တ ရက် ဘာလုပ်ရမှန်း မသိ။ သို့သော်လည်း ချက်ချင်းပင် သူ့ကိုယ်သူ ဟန်မပျက်အောင် ထိန်းကာ ဂျိုစီ၏စာကို ရှပ်အင်္ကျီ အိတ်ကပ်ထဲသို့ ထိုးထည့်သည်။ သူ ဖတ်ခဲ့ဖူးသော စာအုပ်များထဲမှ စာဖျောက်ဖျက် နည်းတနည်းကို သူ သိထားသည်။ စာကို ဂါးချေပြီး မျိုချလိုက်ရန်ဖြစ်သည်။ သို့သော်လည်း စာရွက်တွေက သေးသေး မဟုတ်။ ကြီးနေသဖြင့် ဂါးဖို့မလွယ်။ မျိုချ၍လည်းမဖြစ်။

ထို့ပြင်လည်း ဂျိုစီ၏စာများကို သူ အမှတ်တရ သိမ်းချင်သည်။ သူ့အင်္ကျီအိတ်ကပ်ထဲမှ ဂျိုစီ၏ စာ သည် ခိုးလိုး ခုလု ဖြစ်လျက်ရှိသည်။ သူ့အသက် ရှူလိုက်တိုင်း တလှုပ်လှုပ်ဖြစ်ကာ သူ့အသားကို ပွတ်တိုက် လျက်ရှိလေသည်။

***************

http://www.shwezinu.com/

**အခန်း (၈)**

ဂျူစီသည် သူလုပ်ရမည့်အလုပ်ကို ပုံမှန်ပင် လုပ်သည်။ ခိုခြင်း ကပ်ခြင်း ပျက်ခြင်းမရှိ။ သို့သော်လည်း သူ၏ အနေအထိုင်နှင့် အပြုအမူများကတော့ သိသိသာသာကြီး ပြောင်းလဲလာသည်။ ယခင်ကလို ပြုံးဖော် ရယ်ဖော် မရ။ စကားလည်း မပြော။ နှုတ်ဆိတ်နေသည်က များသည်။ မျက်နှာထားကလည်း တည်ငြိမ် သည်ထက် တည်ငြိမ်လာသည်။ အလုပ်ပင်ပန်းသည့် ဒဏ်ကြောင့် လူကလည်း တနေ့တခြား ပိန်ချုံး လာသည်။

ကောင်စစ်ဝန် ကတော့ သူ ရည်မှန်းထားသည့် ပုံစံအတိုင်း ဖြစ်လာသဖြင့် ကျေနပ်အားရလျက်ရှိ၏။ တခုတော့ဖြင့် စိတ်မကောင်း ဖြစ်မိသည်။ တခြားတော့ မဟုတ်။ သူ့စိတ်ထဲက ဂျူစီပြီးပြတ်အောင် လုပ်နိုင် လိမ့်မည် မဟုတ်ဟု ထင်ထားသော အလုပ် ပြီးပြတ်သွားခြင်းကြောင့် ဖြစ်သည်။ သို့တစေ လည်း ဥယျာဉ် စိုက်ပျိုးခြင်း အလုပ်တွင် လုပ်စရာတွေ အများကြီးရှိသည်။ ဂျူစီ မပင်ပန်း ပင်ပန်း အောင်၊ စိတ်ဓာတ်မကျ ကျအောင် ကြံဖန်ပြီး ခိုင်းမည်ဆိုပါက ခိုင်းစရာအလုပ်တွေ တပုံကြီးရှိသည်။ ဂျူစီ၏ ခေါင်းမာချင်သောဖွဲ့နှင့် အာခံ ချင်သော စိတ်ဓာတ်များ ချိုးနှိမ်၍ မရမချင်း သူ့ဘက်ကတော့ လျှော့ဖို့ စိတ်မကူး။ ပညာရှိနည်းဖြင့် ဂျူစီ ၏ မာနနှင့်ဖွဲ့ကို ဖြုတ်ပစ်မည်ဟု သူ စိတ်ကူးသည်။

http://www.shwezinu.com/



ဘရန်းဒီးသည် ဂျိုစီ၏ အပေါ်၌ အာဃာတစိတ် ပြင်းထန်နေသည်နှင့်အမျှ တဘက်မှလည်း သူ့ ကျန်းမာရေး အခြေအနေ တိုးတက်ကောင်းမွန်နေသည်ကို သတိပြုမိသည်။ လွန်ခဲ့သော နှစ်များက ဆိုလျှင် သူ့မှာ ကောင်းစွာ ကျန်းမာသည်ဟု မရှိခဲ့။ ကိုယ်ပိုင်းရော စိတ်ပိုင်းပါ နှစ်ပိုင်းစလုံးတွင် ကျန်းမာရေး ချို့တဲ့ခဲ့သည်။ သူသည် ပူနွေးသော ရာသီဥတုကိုသာ ကြိုက်သည်။ နေရောင်ခြည် များများ ရလေ သူ့ ကျန်းမာရေးသည် ကောင်းလေ...။

လက်ရှိ နွေဦးပေါက် ရာသီမှာ သူနှင့် အသင့် တော်ဆုံး...။ အံ့ဂင်ခွင်ကျ အဖြစ်ဆုံး ရာသီဖြစ်၏။ ရုံးပိုင်း အခြေ အနေ မှာလည်း ဆိုးသည်ဟု မဆိုသာပေ။ သူနှင့် ထိုက်တန်သော နေရာမျိုး မဟုတ်သည့် တိုင်အောင် လုပ်လို့ကိုင်လို့ကတော့ ချော မောပြေပြစ်လျက်ရှိသည်။ သူရေးနေသည့် မေဘရန်းဒီး အတ္ထုပ္ပတ္တိ မှာလည်း အခုဆိုလျှင် ပြီးဆုံး တော့မည်။ လက်ရေးမူကို တကြိမ် ပြန်လည် ဖတ်ရှု စစ်ဆေး နေသည့် နောက်ဆုံးအဆင့်သို့ ရောက် နေပြီ။

ဘရန်းဒီး အနေဖြင့် သူ့သား နီကိုလတ်စ်အတွက်လည်း များစွာ စိတ်ချမ်းသာနေရသည်။ နီကိုလတ်စ် သည် ယခုအခါတွင် သူ၏ ဩဇာအာဏာ၌ လုံး၀ တည်လျက်ရှိသည်။ ပထမတော့ နီကိုလတ်စ်သည် သူ့ကိုပင် ခပ်စွာစွာ လုပ်နေခဲ့သည်။ သူ့အပေါ်၌ သူ မကျေနပ်ကြောင်းပင် သိသိ သာသာ ဖော်ပြခဲ့၏။ ထို့နောက် ရက်အနည်းငယ် ကြာလာသောအခါ မူလ အနေအထားအတိုင်း ပုံမှန် ပြန်၍ ဆက်ဆံ လာခဲ့သည်။ သူ့ကို ချစ်သော၊ သူ့စကားကို မပယ်ရှားသော ကလေးတယောက် ပြန်လည် ဖြစ်လာ ခဲ့သည်။

http://www.shwezinu.com/



ယခင်ကလိုပင် ပြုံးပြုံးရွှင်ရွှင် ရယ်ရယ်မောမောနှင့် နေလာခဲ့သည်။ ဂျူစီနှင့် ဖြစ်ခဲ့ရသော ပြဿနာ အားလုံးကိုပင် ကလေးသူငယ်များ၏ သဘာဝအတိုင်း မေ့မေ့ပျောက်ပျောက် ဖြစ်သွားပုံ ရလေသည်။

ဤကဲ့သို့ အဘက်ဘက်မှ အဆင်ပြေနေပြန်တော့လည်း ဘဂ၏ အရသာကို ခံစားနေရသည်မှာ စိတ်ချမ်းမြေ့ စရာကောင်းလှပေသည်။ လုပ်သမျှ ဖြစ်နေသဖြင့် အရာရာကို လွှမ်းမိုးနိုင်သည်ဟူသော စိတ်ဓာတ်သည် ရှင်သန်ကြီးထွားလာသည်။ ထိုအခါ စိတ်ရောကိုယ်ပါ ပြန်လည် နပျိုတက်ကြွလာ တတ်သည်မှာ လူတို့၏ သဘာဝဖြစ်၏။ ယခုလည်း ဘရန်းဒီး၏ စိတ်ဓာတ်မှာ အသစ်တဖန် ပြန် လည်နိုးကြွ လာသည့်နယ် ခံစားနေရသည်။ သူ့ရှေ့ရေးကို မျှော်တွေးပြီး အားမန်အပြည့်နှင့်ဖြစ်လာ သည်။ ယခင်က ရှိခဲ့သော မကောင်းမြင် ဂါဒသည် သိသိသာသာ လျော့နည်းသွားသည်။ အကောင်း မြင်မျက်စိဖြင့် မြင်တတ် ကြည့်တတ် လာသည်။ ကံကြမ္မာသည် သူ့အပေါ်၌ ယခင်ကလို ဆိုးတော့ မည်မထင်။ အခုဆိုလျှင် သူ့အား မျက်နှာသာပင် ပေးနေပြီလော ...။

စနေနေ့ မွန်းလွဲပိုင်း ငါးနာရီထိုးခါနီး အချိန်တွင် ကောင်စစ်ဂန်သည် သူ့ရုံးဘက်သို့ အညောင်းပြေ သဘောဖြင့် လမ်းလျှောက်ထွက်လာခဲ့သည်။ ဂင်လုဆဲ နေရောင်သည် ဂင်းလက်လျှောက်ထွက် လာခဲ့သည်။ ဂင်လုဆဲ နေရောင်သည် ဂင်းလက်တောက်ပနေသည်။ အမှန်အားဖြင့် စနေနေ့ နေ့လယ် ရုံးပိတ်ရက်...။ သူ ဆန်ဂျော်ဂျီသို့ မရောက်ခင်ကဆိုလျှင် ရုံးပိတ်ရက်တွင် ရုံး၌ ရုံးစောင့်မှတပါး အခြား ဘယ်သူမှ မရှိ။ အခု သူရောက်တော့ ရုံးတွင်း



http://www.shwezinu.com/

စီမံခန့်ခွဲမှုတွင် သူကျွမ်းကျင်ကြောင်း ပြလိုသည့်စိတ်ဖြင့် ရုံးပိတ်ရက် တွင် အလှည့်ကျ တာဝန်မှူးတဦး ရှိရမည်ဟူသော စနစ်ကို ထွင်ခဲ့ သည်။ ယနေ့ တာဝန် ကျသူမှာ ဘာတန်...။ သို့သော်လည်း ဘာတန်မှာ သူ့မိန်းမနှင့်အတူ သူတို့ ဖွဲ့စည်းထားသော အေလ်ကာဒီ လူငယ်များ အသင်းဝင် ကလေး သူငယ်များနှင့် ဟူစကားမြို့သို့ ပျော် ပွဲစားခရီး ထွက်ရန် ရှိနေ သဖြင့် သူ ကိုယ်တိုင်ပင် ခွင့်ပေးခဲ့သည်။ ဘာတန်အစား အထက်တန်း စာရေး ဖာနန်ဒိုအား တာဝန် ပေးခဲ့သည်။

အခု သူ ရုံးဘက်သို့ ထွက်လာခဲ့ခြင်းမှာ အညောင်းပြေ လမ်းလျှောက် သည့် သဘောလည်းပါသည်။ သူအမိန့် ထုတ်ထားသည့်အတိုင်း လက်အောက် ဝန်ထမ်းများ အတိအကျ လိုက်နာခြင်းရှိမရှိ ကြည့် ရှု စစ်ဆေး လိုသော ရည်ရွယ်ချက်လည်း ရှိသည်။ ထို့ပြင်လည်း စနေနေ့တိုင်း ဘာစီလိုးနား မြို့မှလာသည့် မွန်းလွဲပိုင်း မီးရထားဖြင့် စာများ ရောက်လာ တတ်၏။ ထိုစာများ ထဲတွင် မိမိမှတပါး အခြား ဝန်ထမ်းများ ဖောက်ခွင့် မရှိသည့် အရေးတကြီး စာများ ပါလာတတ်သည်။

ယင်းကဲ့သို့သောစာများ ရှိလိုရှိငြား ကြည့်မည်ဟူသော စိတ်ကူးလည်း ပါသည်။ ရုံးပိတ်ရက်ကျခါမှ ရောက်လာ လေ့ရှိသည့် ဤစာများအတွက် သူ့မှာ များစွာ စိတ်အနှောင့်အယှက်ဖြစ်ခဲ့ရ၏။ သို့သော် လည်း ဤစာများ အချိန်မီ ချက်ချင်းပို့ပေးဖို့အတွက် စာတိုက်ဌာနနှင့် အပြင်းအထန် စကားပြောခဲ့ရသည်။ နောက်ဆုံး တွင် စတိုက်က သူလိုချင်သည့် ပုံစံအတိုင်း စနေနေ့ရထားဖြင့် ရောက်လာသည့် စာများကို နေ့ချင်း ပို့ပေးရန် သဘောတူခဲ့လေသည်။

http://www.shwezinu.com/



ယနေ့ ညနေပိုင်းတွင် သူ့မှာ ဘာပြဿနာမှ မရှိ။ စိတ်လက်ကြည်သာသည်။ ရုံးထဲ ဝင်လာသည့်အခါ ခါတွင်လည်း တာဂန်ကျဖာနန်ဒိုအား သူ့စားပွဲတွင် ထိုင်လျက် တွေ့ရသဖြင့် ပို၍ ကျေနပ်ခြင်းဖြစ် သည်။ သူသည် ဖာနန်ဒို အား တရင်းတနှီး လေသံဖြင့် နှုတ်ဆက်စကားပြောသည်။

'မင်း ခံတပ်ကို တာဂန်ယူ စောင့်ကြပ်နေတာပေါ့လေ၊ ဟုတ်လား... ဖာနန်ဒို၊ ဘာသတင်းထူးများ ရှိသေးလဲ'

ဖာနန်ဒို သည် ကပျာကယာ ထိုင်ရာမှ ထရပ်သည်။ ငိုက်မြည်းထားသဖြင့် သူ့မျက်လုံးများမှာ ရီတီတီ ဝေတေတေ...။

'မရှိပါဘူး... ဆီညော်၊ ကနေ့ ရာသီဥတုက သိပ်သာယာပါတယ်ခင်ဗျ၊ အပြင်ထွက်လည်ဖို့ အင်မတန် ကောင်းတဲ့နေ့တ နေ့ပါ၊ ပင်လယ်ကမ်းခြေဘက် ထွက်ရရင် သိပ်ကို ကောင်းမယ့်နေ့မျိုးပါ'

'အပြင် မထွက်ရပေမယ့် မင်းရဲ့ တာဂန်တရပ်ကို ကျေပွန်အောင် ဆောင်ရွက်ခွင့် ရတဲ့အတွက် တမျိုး ဂမ်းသာဖို့ ကောင်းပါတယ်ကွ' ဟု ဘရန်းဒီးက လေအေးဖြင့် ပြောသည်။

' စာတွေကော မရောက် သေးဘူးလား '

'ရောက်ပါပြီ ... ဆီညော်၊ စာပူးထဲမှာ ရှိပါတယ်...၊ ပြီးတော့ စာပို့လုလင်က ပြောသွားပါတယ်၊ မက်ဒရစ် က ရုံးတံဆိပ်တွေ နှိပ်ထားတဲ့

http://www.shwezinu.com/


ချိပ်ပိတ် စာတစောင်ပါတယ်...တဲ့၊ ဒါပေမယ့် ကျွန်တော် ကိုင်ခွင့်မရှိတဲ့ စာမို့ လက်ဖျား နဲ့တောင် မတို့ပါဘူး '

' အေး...ကောင်းတယ်၊ ဒါမှပေါ့ '

ဘရန်းဒီးက သဘောကျသည့်နှယ် ခေါင်းဆက်ပြသည်။

' ကဲ... မင်း သွားချင် သွားတော့ '

ဖာနန်ဒိုသည် စားပွဲပေါ်မှ သူ့ဦးထုပ်ကို ကသောကမျော ကောက်ယူကာ ယာယီ ဒဏ်ပေးထားခြင်းမှ လွတ်မြောက် သွားသည့် ကျောင်းသားလေး တယောက်သဖွယ် ဂမ်းသာအားရနှင့် ထွက်သွားသည်။ ဘရန်းဒီး ကတော့ စာဗူးရှိရာသို့ သွားကာ သူ့လက်ထဲမှ သော့ဖြင့် ဖွင့်၍ အထဲမှ စာအိတ်ကို ထုတ်ယူ သည်။ စာအိတ်ပေါ်တွင် အနီရောင် ရုံးတံဆိပ်ရိုက်နှိပ်ထားသည်။ စာကတော့ မက်ဒရစ်မြို့မှ ပို့သည့်စာ။

သူသည် စာအိတ်ကိုကြည့်ကာ ငိုင်နေမိသည်။ ဤစာတွင် ထူးခြားသည့် အကြောင်းအရာတခုတော့ ပါလိမ့် မည် ထင်၏။

အထူးသဖြင့် သူ့အတွက် အလွန် အရေးကြီးသော သတင်းတခု ပါလာလိမ့်မည် ဟုစိတ်ထဲက ကြို၍ သိနေ သလိုလို ခံစားရသည်။ သူသည် စာကို လျင်မြန်စွာ ဖောက်၍ ဖတ်သည်။ သူ့စိတ်က ခံစား ရသည့် အတိုင်း မှန်နေသည်။ စာတွင် ဖော်ပြထားသည့် သတင်းမှာ သူ့အတွက် အလွန် အရေးကြီးသော သတင်း...။

http://www.shwezinu.com/



စာမှာ မက်ဒရစ်မြို့ရှိ ကောင်စစ်ဝန်ချုပ် လေတွန်ဘောလီ ထံမှဖြစ်သည်။ တိုတိုနှင့်လိုရင်းကို ဖော်ပြ ထားသည်။ ဂျော့ချ်တင်းနေးမှာ ရုတ်တရက် ဦးနှောက်အမြှေးပါးရောင်ရောဂါဝင်လာသဖြင့် အပြင်း အထန် ဖျားကြောင်း၊ အသက် မစိုးရိမ်ရသည့်တိုင်အောင် ရောဂါ၏ ပြင်းထန်မှု ဒဏ်ကြောင့် အလုပ် မှ မဓာပင်စင်ယူ၍ နားရလိမ့်မည်ဟု ယူဆရကြောင်း၊ ထို့ကြောင့်... ဘရန်းဒီး သည် လူကိုယ်တိုင် သံရုံးသို့ အမြန်ဆုံး ရောက်ရှိ သတင်းပို့စေလိုကြောင်း ...။

ဘရန်းဒီးသည် ခဏမျှ မိန်းမောသလို ဖြစ်သွားသည်။ သူသည် စာကို နောက်တခေါက် ထပ်၍ဖတ် ပြန်သည်။ စာ၏ ဆိုလိုရင်းအဓိပ္ပာယ်မှာရှင်းသည်။ တင်းနေး၏နေရာကို သူယူရမည်။ ရာထူးတဆင့် တက်ခြင်း...။ အချိန်ကာလ ကြာမြင့်စွာ သူ့အား တိုးတက် မပေးပဲ လုပ်ထားခဲ့ကြ၏။ နောက် ဆုံးကျတော့ မပေး၍ မရ။ ပေးကြရပြီ။

အမှန်တော့ သူသည် ဂမ်းသာလုံးဆို့လျက်ရှိ၏။ သို့သော်လည်း သူ့စိတ်သူ ထိန်းချုပ်ထားသည်။ နောက်ဆုံး ကျတော့လည်း သူတို့ လူစုသည် သူ့တန်ဖိုးကို အသိအမှတ်မပြု၍မရ။ သူသည် ကုလား ထိုင် တွင် ကျောမှီကာ ဦးခေါင်းကို မော့လိုက်ပြီး သာယာကြည်နူးမှုကို အပြည့်အဝ ခံစားသည်။

ကျေနပ် အားရပြီ ဆိုတော့မှ ထိုင်ရာမှ ထကာ နံရံကပ်တယ်လီဖုန်းဖြင့် ဘူတာသို့ဆက်၍ ရထား အဝင် အထွက် အချိန်စာရင်းကို မေးသည်။ ယနေ့ည ညစာ စားအပြီးတွင် ဂရေစီယာအား ဘာစီလိုး နားမြို့အထိ မော်တော်ကားနှင့်

http://www.shwezinu.com/



လိုက်အပို့ခိုင်းမည် ဆိုပါက ဇာရာဂိုဇီမြို့သို့ ထွက်သည့် သန်းခေါင် ရထားကို မီနိုင် သည်။

ဇာရာဂိုဇီမြို့မှ ဟာလာဒိုလစ်မြို့အထိ လိုကယ်ရထား ဆက်စီးပြီး ထိုမြို့ဘူတာမှ တနာရီခန့် စောင့်လိုက်လျှင် တနင်္ဂနွေနေ့ မွန်းမတည့်မီ မက်ဒရစ်မြို့သို့ ဆိုက်ရောက်သွားနိုင်သည့် 'ဆင်ထရယ် ကာစတီလီ အမြန်ရထား' ကို စီးနိုင်စရာရှိ၏။ ထိုခရီးစဉ်အတိုင်း သွားမည်ဆိုပါ ကအလွန် ပင်ပန်းမည်ဖြစ်သည်။ သို့သော်လည်း ပင်ပန်းသလောက် အကျိုးရှိနိုင်မည့် အလားအလာ ရှိသည်။ ဘယ်နည်းနှင့်မဆို သူ၏ လျင်မြန် သွက်လက်မှုနှင့် တာဝန်ဝတ္တရားကို အတိ အကျလိုက်နာမှုတို့အတွက် သူ့အတွက် လူကြီးဖြစ်သူ ဘေလီ က သူ့အပေါ် အထင်အမြင်ကြီးသွား နိုင်စရာရှိသည်။

ဘရန်းဒီးသည် ရွှင်လန်းတက်ကြွသော စိတ်ဖြင့် သူ့ခရီးစဉ်ကို အေးစိတ် ပြန်ချိန်သည်။ အနည်းဆုံး သုံးရက်ခန့်တော့ အိမ်နှင့် ခွဲနေရလိမ့်မည်ဖြစ်၏။ ဤခရီးစဉ်တွင် သူ့သားကို ခေါ်သွားလို့ကတော့ မဖြစ်။ နီကိုလတ်စ် အား ဂရေစီယာနှင့် မက်ဂ်ဒါလီးနားတို့ လင်မယားထံ အပ်ထားခဲ့မည်။ အခုလို အချိန်မျိုးတွင် ယုံကြည် စိတ်ချရသည့် ဂရေစီယာတို့လို စုံတွဲကို အိမ်ဖော် အိမ်စောင့်အဖြစ် ရထား ခြင်းသည် သူ့အတွက် ကံကောင်းခြင်း တရပ်ပင်...။ ပြီးတော့ နီကိုလတ်စ်အား စောင့်ကပ်ကြည့်ရှု ပေးဖို့အတွက် ဘာတန်တို့ လင်မယား ကိုပါ တာဝန်ပေးနိုင်သည်။ ဤကိစ္စနှင့် ပတ်သက်၍ အိမ်ပြန် ရောက်မှပင် အောလ်ဗင်ဘာတန် ထံ ဖုန်းဆက် ၍ မှာမည်။

http://www.shwezinu.com/



နီကိုလတ်စ်အကြောင်း တွေးမိသည့်အခါ သူ့မျက်လုံးများတွင် မျက်ရည်စို့လာသည့် အထိပင် ကျေနပ်အားရ ခြင်းဖြစ်မိသည်။ ဤသတင်းကို သူ့သားအား ပြောပြလိုက်ရလျှင် မည်မျှ ဂမ်းသာရှာလိမ့် မည်နည်း။ ဆန်ဂျော်ဂျီလိုမြို့သိမ်မြို့ငယ်ကလေးမှနေ၍ စပိန်နိုင်ငံ၏မြို့တော်ဖြစ်သော မက်ဒရစ်မြို့သို့ ပြောင်းရွှေ့ရခြင်းသည် မည်မျှ စိတ်ချမ်းသာစရာ ကောင်းလိုက်ပါ သနည်း..။

မြို့တော်ဆိုတော့ မြို့ကကြီးကြီး...။ တခမ်းတနားထည်ထည်ဂါဂါ နေနိုင်သည့် နေရာမျိုး...။ သူတို့ သားအဖအတွက် ပေါင်းသင်း ဆက်ဆံရေး နယ်ပယ်နှင့် အသိဉာဏ်ပညာ တိုးတက်ဖွံ့ဖြိုးရေး နယ်ပယ်များသည် အတိုင်းအဆမရှိ ကျယ်ပြန့် လာပေတော့မည်။ ပြီးတော့ နီကိုလတ်စ်အား မရားဒိုး...၊ စပိတ်ဘုရင် နန်းတော်...။ ဘူအင်ရက်တီရိုး နန်းဆောင်များ...။ အလွန် စိတ်ဂင်စားဖို့ ကောင်းသည့် နေရာဌာနများသို့ လိုက်ပို့နိုင်မည်။

ဤအတွေး ဂင်လာသောအခါ ဘရန်းဒီးသည် သူ့သား နီကိုလတ်စ်နှင့် အမြန်ဆုံး တွေ့ချင်သည့် စိတ်ကို မမျိုသိပ်နိုင်။ ချက်ချင်းပင် လက်ထဲမှ စာကို မှတ်စု စာအုပ်ကြားတွင် ညှပ်လိုက်ပြီး ရုံးခန်း တံခါးကို ကပျာ ကယာ သော့ခတ်ကာ အပြင်သို့ ထွက်လာခဲ့သည်။ လမ်းမပေါ် ရောက်သည့်အခါ တည်တည် ငြိမ်ငြိမ်နှင့် ကြွနွှေရရပင် မလျှောက်နိုင်။ အိမ်ကို အမြန်ဆုံး ရောက်လိုသည့် ဇောဖြင့် ခြေလှမ်းကို မြန်နိုင် သမျှ မြန်မြန် လျှောက်လာ ခဲ့လေ၏။

http://www.shwezinu.com/

## အခန်း (၉)

ထိုညဆယ်နာရီတွင် နီကိုလတ်စ်သည် အိမ်ဂင်းအတွင်းမှ မောင်းထွက်သွားသော မော်တော်ကားသံကို အိပ်ရာထဲမှနေ၍ ကြားနေရသည်။ ကားရှေ့မီးအလင်းရောင်များမှ တဆင့် ဂင်ရောက်လာသော ရောင်ပြန်များသည် သူ့အိပ်ခန်း ခေါင်မိုးထက်သို့ ပြိုးကနဲ ပြက်ကနဲ ကျရောက်လာပြီးသည့်နောက် တခဏ အတွင်းမှာပင် ပျောက်သွားသည်။ သူ့နားထဲမှ မော်တော် ကားသံဝေးသွားသည်နှင့်အမျှ သူ၏ နှလုံးခုန်သံ ကို သဲသဲကွဲကွဲ ကြားလာနေရ၏။

အမှန်တော့ နီကိုလတ်စ်သည် ဖခင်နှင့် ရက်ကြာကြာခွဲ၍ နေဖူးသူမဟုတ်။ အခုလို သုံးရက်ခန့် ခွဲနေ ရမည်ဟု သိလိုက်ရသောအခါ များစွာ စိတ်အားငယ်လျက်ရှိသည်။ သူ့ဖခင်အား မသွားစေ ချင်ကြောင်း ပြောလို သော်လည်း မဖြစ်နိုင်မှန်း သိသဖြင့် မပြောရဲ။ ဖခင်နှင့် ခွဲခွာနေရမည့် အရေးကို တွေး၍ စိတ်အားငယ် နေရသည့်အထဲတွင် ကြောက်စရာ တခုကရှိနေသေးသည်။ သူသည် ဂရေစီ ယာကို ယုံကြည် စိတ်ချသူမဟုတ်။ စိတ်ထဲကလည်း ခင်မင် နှစ်မြို့ခြင်းမရှိ။ သူ့အဖေအဝေးသွားနေ ခိုက်တွင် သူ တယောက်တည်း ဂရေစီယာနှင့် မည်ကဲ့သို့ နေထိုင်ရပါမည်နည်း။

http://www.shwezinu.com/



နီကိုလတ်စ်မှာ အိပ်၍မရ။ မျက်စိ ကြောင်ကာ အိပ်ရာပေါ်တွင် တလူးလူး တလိမ့်လိမ့် ဖြစ်လျက်ရှိသည်။ တအိမ်လုံး တိတ်ဆိတ်ငြိမ်သက်လွန်းလှချေသည်။ သူသည် ပြူးကျယ်သော မျက်လုံးအစုံဖြင့် အမှောင်ထဲသို့ ငေးမောလျက်ရှိရာမှ ဂရေစီယာ၏ ကားသံကို နားစွင့်လျက်ရှိသည်။

သူ နေရာ ပြင်လိုက်တိုင်း ကျောအောက်မှ ခုတင်သည် အသံပြုတတ်၏။ ပြတင်းပေါက် မှန်ချပ်များမှနေ၍ နွယ်တက်လျက်ရှိသော ထိကရုံး အကိုင်းအခက် ထိုးထိုးထောင်ထောင်များကို လှမ်းမြင်နေရသည်။ တချက်... တချက်...အပြင်ဘက်မှ အမျိုးအမည်ခွဲခြား၍ မရနိုင်သော အသံဗလံများသည် အခန်းထဲ သို့ ဝင်လာ တတ်သည်။ အောက်ထပ်ခန်းမအတွင်းရှိ တိုင်ကပ်နာရီမှ ဂရေစီယာ ပြန်ရောက်လာခဲ့ သည်ရှိသော်..။ အိမ်ထဲ၌ သူရှိနေလိမ့်မည်။ လှေကားမှ ခြေသံ မကြားအောင် ခြေကို ခပ်ဖွဖွနင်း၍ တက်လာခဲ့ပါမူ... ။ သူ့အတွေးက သူ့ကို ခြောက်လှန့်သဖြင့် တကိုယ်လုံး အေးစက်လာသည်။ သူ့အဖေ၏ ဘဏ္ဍာစိုး အပေါ်တွင် မယုံကြည်သော စိတ်သည် သူ့အား ခြောက်လှန့်လျက်ရှိသည်။

နောက်ဆုံးတွင် သူအိပ်မောကျသွားဟန်တူ၏။ သူအိပ်ရာမှ နိုးတော့ မိုးစင်စင်လင်းနေပြီ။ သူ့အိပ် ရာဘေးမှ စားပွဲပေါ်တွင် နံနက်စာ လင်ဗန်း ရောက်နေပြီ။ မက်ဂ်ဒါလီးနားသည် ပြူတင်းပေါက် တရုတ်ကတ်များကိုပင် ဖွင့်နေပေပြီ။

http://www.shwezinu.com/

' မင်းအတွက် မနက်စာ လာကျွေးတာ '

အခုတော့ဖြင့် သူသည် မက်ဂ်ဒါလီးနား၏ စကားကို ကောင်းစွာ နားလည်နေပြီဖြစ်၏။ သူသည် အိပ်နေရာမှ ထထိုင်ပြီး ပြုံးပြလိုက်သည်။ မက်ဂ်ဒါလီးနားကိုတော့ သူခင်မင်သည်။ အောက်ထပ် မီးဖို ချောင်ထဲ၌ ဂရေစီယာနှင့် ရန်ဖြစ်ပြီး တက်လာသည့် အခါများတွင် မက်ဂ်ဒါလီးနား၏ မျက်နှာသည် သာယာမှု ကင်းမဲ့ နေတတ်သော်လည်း ကျန် အချိန်များတွင် သူသည် ခင်မင် နှစ်လိုစဖွယ် ကောင်း သော အပြုံး ပိုင်ရှင် ဖြစ်ပေသည်။

' ကျွန်တော့် အဖေ ရထားမီရဲ့လား' ဟု နီကိုလတ်စ်က လိမ္မော်ရည်ကို တကျိုက် နှစ်ကျိုက် သောက်နေရင်း က လှမ်းမေးသည်။

'မီတယ် ... မီတယ်'

မက်ဂ်ဒါလီးနားက ခေါင်း တဆတ်ဆတ်ညိတ်သည်။

' မီမှာ သေချာပါတယ် ... မပူပါနဲ့ '

' မော်တော်ကား ပြန်လာသံ ကျွန်တော် မကြားဘူး '

မက်ဂ်ဒါလီးနားက ရုတ်တရက် စကားပြန်မပေး။ ကြမ်းပေါ်၌ ကျနေသည့် အရာတခုကို ကုန်း၍ ကောက် နေသည်။ သူ စကား စပြောသည့် အခါတွင်မူ တမျိုး ဖြစ်နေသည်။ စကားမမှားအောင် ချင့် ချိန်၍ ပြော နေသည့် ဟန်မျိုး ...။

http://www.shwezinu.com/



' မနေ့ညက ဂရေစီယာ ပြန်မလာဘူး၊ အချိန်က သိပ်နောက်ကျနေပြီ၊ ရုံးပိတ်ရက် ဖြစ်နေလို့ ဘာစီ လိုးနားမှာပဲ ညအိပ်နေတယ် ထင်တာပဲ၊ ဟိုမှာက သူ့အပေါင်းဟောင်း အသင်းဟောင်းတွေလဲ ရှိတယ်၊ လုပ်စရာ ကိစ္စလေးတွေလဲ ရှိနေတယ်ထင်ပါရဲ့ '

နီကိုလတ်စ်က မယုံနိုင်သော မျက်နှာထားဖြင့် မက်ဂ်ဒါလီးနားအား စူးစိုက်၍ ကြည့်နေရာမှ တဖြည်း ဖြည်း ချင်း စိတ်သက်သာရာရသလို ဖြစ်လာသည်။

' ငါ ပြောတာ နားလည်တယ် ... နော် '

မက်ဂ်ဒါလီးနားက နီကိုလတ်စ်၏ အရိပ်အခြည်ကို အကဲခတ်သည်။

'စိတ်မပူပါနဲ့ ...၊ ငါတို့ နှစ်ယောက်တည်း နေရလဲ ကြောက်စရာမရှိပါဘူး'

' ဟုတ်ကဲ့ ... ' ဟု နီကိုလတ်စ်က ပြန်ပြောသည်။

' ကဲ ... နေ့လယ်စာ မင်း ဘာစားချင်သလဲ '

' အို ... ကိစ္စမရှိပါဘူး၊ ခင်ဗျား ကောင်းမယ် ထင်တာသာ ချက်ပေးပါ မက်ဂ်ဒါးလီးနား၊ ခင်ဗျားက သိပ်ကို သဘောကောင်းတာပဲ '

' ဒီလိုဆိုရင် မင်းစားလို့ ကောင်းအောင် ကျကျနန ချက်ပေးမယ်'

http://www.shwezinu.com/

မက်ဂ်ဒါးလီးနားက ခေါင်းတဆတ်ဆတ် ညိတ်သည်။ နားကွင်း နစ်ဘက်သည် ယိမ်းကနေကြသည့်နှယ် လှုပ်ခါလျက်ရှိ၏။ သူသည် နီကိုလတ်စ် အား နစ်နစ်ခြိုက်ခြိုက် ပြုံးပြပြီး အခန်းထဲမှ ပြန်ထွက်သွားသည်။

တယောက်တည်း ကျန်ရစ်ခဲ့သော နီကိုလတ်စ်သည် ဂမ်းသာအားရ အသံထွက်၍ ရယ်လိုက်ကာ အိပ်ရာပေါ် လူးလိမ့်လိုက်သည်။ သူ ဂျူစီနှင့် အေးအေးဆေးဆေး လွတ်လွတ်လပ်လပ် စကားပြော ခွင့်ရပေတော့မည်။ အနှောင့် အယှက် ပေးမည့်သူ။ သူတို့နှစ်ယောက် အကြောင်းကို ပြန်၍သတင်း ပို့မည့်သူ တဦးမှ ရှိမည် မဟုတ်။

'မနက်ဖြန်ခါလဲ ဒီအတိုင်းပဲ နေမှာပဲကွ' ဟု သူ့ ခွေးရုပ်အား လှမ်းအော်ပြောသည်။

' ကံကောင်းရင် 'တနင်္လာနေ့ အထိ ပေါ့ကွာ '

သူသည် အိပ်ရာမှလူးလဲထထာ နံနက်စာကို တက်သုတ်ရိုက်၍ စားသည်။ စားသောက်ပြီး၍ အဝတ်အစား လဲနေခိုက်တွင်လည်း သူ့မျက်လုံးများသည် ဂနာမငြိမ်။ ပြူတင်းပေါက်မှ နေ၍ ဂျူစီ အလုပ်လုပ်နေသော ဥယျာဉ် ထဲသို့ လှမ်း၍ လှမ်း၍ ကြည့်သည်။ ထို့နောက် သူ့အတွက် သီးသန့် လုပ်ပေးထားသော စာရေး စားပွဲငယ် ကလေးတွင် ထိုင်ကာ စာတစောင် အမြန်ရေးသည်။

http://www.shwezinu.com/

ဂျူစီ ...

အဖေ မက်ဒရစ်မြို့ကို သွားတယ်။ သုံးရက်လောက်ကြာမယ်။ ဂရေစီယာလဲ အိမ်မှာမရှိဘူး။ ပျော်စရာ မကောင်းဘူးလား၊ ကျွန်တော့်အဖေစကားနားမထောင်နိုင်ဘူး။ ခင်ဗျားနဲ့အတူ အလုပ် မလုပ်ရတာ၊ စကားမပြောရတာကြာပြီ။ ကျွန်တော် ခင်ဗျားဆီလာခဲ့မယ် ...။

ခင်ဗျားရဲ့ အဖော်

## နီကို

ခဏမျှအကြာတွင် နီကိုလတ်စ်သည် ဂျူစီ၏ အနီး၌ ရောက်နေသည်။ တမနက်ခင်းလုံး နှစ်ယောက် သား တပူးတွဲတွဲ...။ ယခုအခါတွင် ကျောက် အားလုံးလိုပင် ရွှေ့ထားပြီး ဖြစ်၏။ ကျောက်တုံးများကို လှလှပပ ဖြစ်အောင် ချထားသည့် အလုပ်နှင့် မြေဖို့သည့်အလုပ်များမှာ သိပ်ပြီး မပင်ပန်းလှပေ။ နီကိုလတ်စ်သည် ဂျူစီတွန်းလှည်းနှင့် မြေသယ်သည့်အခါတိုင်း ထိုင်နေခဲ့သည် မရှိ။ ဘေးမှကပ်၍ စကား တပြေပြောနှင့် လိုက်နေတတ်သည်။ မြေကြီးများကို ကြဲဖြန့်၍ ခင်းနေသည့် အခါတွင်လည်း သူသည် ကျောက်တုံးတုံးပေါ် စိတ်အေးနားအေးထိုင်ကာ စိတ်ဝင်တစား ကြည့်နေတတ်သည်။

တခါတရံတွင် ဂျူစီသည် သူ့အား စကားလှမ်းပြောတော့ မလိုလို နှုတ်ခမ်းများကို တရွရွ လှုပ်ပြီးခါမှ တလုံးမှမပြောပဲ ပါးနှစ်ဘက်ကို ဖောင်းကာ



http://www.shwezinu.com/

ဖူးကနဲ မှတ်ပြတတ်သည်။ ထိုအခါမျိုးတွင် နီကိုလတ်စ် သည် အားရပါးရ ရယ်မောလေ့ရှိ၏။

အချိန်သည် ကုန်မှန်းမသိ ကုန်လာသည်။ ဂျိုစီသည် တစုံတရာကို အလေးအနက်ပြု၍ စဉ်းစားနေ ဟန်ရှိ သည်။ နောက်ဆုံးတွင် သူသည် လက်ထဲမှ ဂေါ်ပြားကို လွှတ်ချလိုက်ပြီး မြေကြီးပေါ်သို့ ခြေပစ် လက်ပစ် ထိုင်ချလိုက်သည်။ အိတ်ကပ်ထဲမှ ခဲတံကိုထုတ်၍ စာရေးသည်။ နီကိုလတ်စ်က သူ့နောက်မှရပ်၍ လိုက်ဖတ် သည်။

'မနက်ဖြန်မနက် ငါးမျှားသွားခဲ့ရင် လိုက်မလား၊ ငါ မက်ဂ်ဒါလီးနားနဲ့ နားလည်မှုယူပြီး စီစဉ်လိုက်မယ် '

နီကိုလတ်စ် အကြီးအကျယ်ဂမ်းသာ နေခိုက်မှာပင် ဂျိုစီသည် ထိုင်ရာမှထ၍ ထွက်သွားသည်။ ချက်ချင်း လိုလိုပင် မက်ဂ်ဒါလီးနားနှင့် ဂျိုစီတို့ စကားပြောနေသံကို ကြားရသည်။ နှစ်ယောက်သား ပြိုင်တူ ရယ်လိုက်သံကိုလည်း ကြားရ၏။ ပြောနေကြပုံမှာ တရင်းတနှီး...။ ဂျိုစီသည် လူတိုင်းနှင့် အဆင်ပြေအောင် ပြောတတ်ဆိုတတ် နေထိုင်တတ်ပေသည်။ လူတိုင်းက ဂျိုစီကို သဘောကျမည့် လက္ခဏာရှိ၏။ ဂျိုစီကို သဘော မကျသူဟူ၍ သူ့အဖေနှင့် ဂရေစီယာတို့ နှစ်ဦးတည်းသာရှိမည် ထင်သည်။

ဂျိုစီသည် မက်ဂ်ဒါလီးနားနှင့် အလွန်တည့်သည်။ တခါတရံ အားလပ်သည့် အခါများတွင်ဂျိုစီသည် မက်ဂ်ဒါလီးနားအား မထောက်မအား

http://www.shwezinu.com/



ကူညီ လုပ်ကိုင်ပေးတတ်သည်။ အထူးသဖြင့် စည်သွတ်ဗူး ဟောင်းများကို စွန့်ပစ်ပေးရသည်ကို ဂျူစီက ဒိုင်ခံလုပ်ပေးသည်။ အမှန်တော့ ထို အလုပ်မှာ ဂရေစီ ယာသာ လုပ်ရမည့် အလုပ်...။ ဂရေစီယာက လုပ်မပေး၍ ဂျူစီက ဝင်လုပ်ပေးနေခြင်းဖြစ်၏။ သူ့အား ကူညီသည့်အတွက် မက်ဂ်ဒါလီးနား ကလည်း တခြားလူတွေ မမြင်အောင် အစားအသောက်များ ပေးတတ် ကျွေးတတ် သည်။ သို့သော်လည်း အခုကိစ္စကျတော့ ပြော၍မှ ရပါ မည်လော...။ နီကိုလတ်စ်သတိထား၍ နားထောင် သည်။ တံခါးပိတ်သံ ကြားလိုက်ရ၏။ ဂျူစီပြန်လာ နေပြီ။ အဆင်ပြေ၏။ ဂျူစီ ပါးစပ်မှ ပြောသံကို စောင့်နေရန် မလို။ သူ့ မျက်နှာပေါ်မှ အရိပ်အရောင် ကို မြင်ရုံမျှဖြင့် သူသိပြီ။

ပျော်စရာကောင်းလိုက်ပါဘိခြင်း။ ယနေ့အဖို့လည်း ပျော်စရာ။ မနက်ဖြန်ကျတော့လည်း ပျော်ရဦး မည်။ နေရောင်သည် လှပသော ပန်းဥယျာဉ်ပေါ်သို့ ဖြာဆင်းလျက်ရှိ၏။ ပျားများသည် ဂေဂေဆာ ဆာပွင့်ဖူး နေကြသည့် ပန်းမျိုးစုံတို့ကြားတွင် ပျံလိုက် ... ဂဲလိုက် ... နားလိုက်။ ဟိုတဘက်တွင် ပြာသော တောင်တန်း ကြီးများ။ ပျော်စရာတွေး၍ ပျော်မိပြီဆိုပြန်တော့လည်း ကလေးပီပီ စိတ်လွတ် ကိုယ်လွတ် အတိုင်း အဆ မသိ နိုင်လောက်အောင်ပင် ပျော်လျက်ရှိလေသည်။

နောက်တနေ့နံနက် ရှစ်နာရီတွင် ကျောက်စရစ်ခဲ လက်တဆုပ်ခန့် နီကိုလတ်စ်၏ အိပ်ခန်းတရုတ် ကတ်များကို လာရောက်ထိမှန်သည်။ ဂျူစီ၏ အချက်ပေးသံပေတည်း။ မေးမေး ... မေးမေးနှင့် အိပ် တဂက် နိုးတဂက်

http://www.shwezinu.com/



ဖြစ်နေသော နီကိုလတ်စ်သည် အိပ်ရာပေါ်မှ ခုန်ထသည်။ ညဦးပိုင်း ကတည်းက ကုလားထိုင်တလုံးပေါ်၌ အသင့်တင်ထားသော အဝတ်အစားများကို လဲ၍ အောက်ထပ်သို့ ဆင်းသည်။ စားပွဲခင်း အဖြူ တထည် အုပ်ထားသော လက်ဆွဲခြင်းတလုံးသည် သူ့အား ဆီးကြိုလျက် ရှိ၏။ မနေ့ညကတည်းက မက်ဂ်ဒါလီးနား ပြင်ဆင်ထည့်ပေးထားသော အစားအစာများပေတည်း။ သူသည် လက်ဆွဲခြင်းကို အသာကောက်ဆွဲကာ ခြေကို ခပ်ဖွဖွနင်း၍ အပြင်သို့ထွက်သည်။ တံခါးဂ မှ ကပ်၍ရပ်နေသော ဂျူစီ၏ လက်များ အတွင်း သို့ မောက်လျက်လဲကျတော့မလို ဖြစ်သွားသည်။

ဂျူစီသည် ငါးမျှားတံအရှည် နှစ်ချောင်းကို ထမ်းလျက်...။ လက်ဖြစ် ကျောပိုးအိတ်တလုံးကို လွယ် လျက်...။ ရေခံပတ္တူအင်္ကျီဟောင်းကြီးကို ဝတ်လျက်။ သူတို့သည် လမ်းမကြီးဘက်သို့ ထွက်ရာ လမ်းကျဉ်း ကလေး အတိုင်း လျှောက်သွားကြသည်။ ဂျူစီက မြန်မြန်လျှောက်မှ ဖြစ်မည်ဟူသော အမူအရာကို ပြသည်။ နှစ်ယောက် သား အပြေးအလွှား လျှောက်ကြသည်။ လမ်းထိပ်အရောက်တွင် တဘက်မှလာနေသော တော်ရစ်ဒို ကျေးလက်သွား ဘတ်စ်ကားသည် သူတို့မြင်ကွင်းထဲသို့ ဝင်လာ လေသည်။

ဂျူစီက လက်ပြ၍တားသည်။ ဘတ်စ်ကားပေါ်ဝယ် ခရီးသည်များဖြင့် ကျပ်တောင့်လျက်ရှိ၏။ သို့ သော်လည်း ကား၏ နောက်ဘက် ခပ်ကျကျတွင် သူတို့နှစ်ယောက် ကျပ်ကျပ်သပ်သပ်ကပ်၍ရနိုင် သော နေရာ တနေရာရသည်။ တနင်္ဂနွေထွက် အထူးယာဉ်ပေါ်တွင် သူတို့နှစ်ယောက်သည်လည်း

http://www.shwezinu.com/



အပျော်ရွှင်ဆုံး စုံတွဲ တတွဲပင် ဖြစ်သည်။ ကားပေါ်ရှိ ခရီးသည်အများစုမှာ တနင်္ဂနွေနေ့ အလည်အပ ပတ်သွား ကြသူများ ဖြစ်သည်။ အားလုံးလိုလိုပင် ဆင်ယင်ထားသည့် အဂတ်အစားများမှာ အရောင် မျိုးစုံ။ အမျိုးသမီးမှန်သမျှ ခေါင်းတွင် ရောင်စုံလက်ကိုင်ပဂါ စည်းထားကြသည်။ အစားအသောက် ခြင်းများ၊ တောင်းများနှင့် အိတ် များသည် သူတို့ဘေး၊ သူတို့ခြေရင်းတွင်နှင့် သူတို့ရင်ခွင်များပေါ် တွင် နေရာယူထားကြ၏။ အချင်းချင်း စကား ပြောသံနှင့် ရယ်မောသံများသည် တကားလုံးညံလျက် ရှိလေသည်။

ယောက်ျားမှန်သမျှ ဂျိုစီကဲ့သို့ပင် ငါးမျှားတံကိုယ်စီ၊ ငါးထည့်အိတ် ကိုယ်စီနှင့် ဖြစ်သည်။ လူပြတ်ရုပ် ပေါက်နေသော ပိန်ပိန်ရှည်ရှည် လူတယောက်သည် ဂက်ပေါင်ခြောက်တခုကို အငမ်းမရ ကိုက်ဂါး လျက် ရှိသည်။ သူကတော့ တခြားလူတွေနှင့်မတူ။ ခပ်တုတ်တုတ် ပြောင်းရှည် သေနက်ကြီးတလက် လွယ်ထား သည်။ ဆိတ်သားရေ ပိုင်အိတ်ကြီး လွယ်လာသော အဘိုးအိုတယောက်မှာမူ သူ တယောက် တည်း သောက်ပွဲ ကျင်းပလျက်ရှိလေပြီ။

ချက်ချင်းလိုလိုပင် ဂျိုစီကို မှတ်မိသူတွေ များသည်။ သူ့ကို ပိုင်းအုံ၍ နှုတ်ဆက်သူတွေ စကားပြော သူတွေ၊ များလာသည်။ နောက်တကြိမ် ပြုလုပ်တော့မည့် ပီလိုတာဘောလုံးပွဲ အခြေအနေနှင့် အလားအလာကို မေးကြမြန်းကြ ဆွေးနွေးဂေဖန်ကြသည်။ တချို့က ဂျိုစီ၏ တွဲဖက်ဖြစ်သော

http://www.shwezinu.com/



ဂျေမီ ၏နေရာတွင် လူစားထိုး သင့်ကြောင်း အကြံပြုကြသည်။ ဂျိုစီက သူတို့စကားကို လက်မခံ။ သူ့တွဲ ဘက်ဂျေမီဘက်မှ ခုခံပြောသည်။

ထို့နောက် အဘိုးအို၏ လက်ထဲမှ ပိုင်အရက်အိတ်သည် တယောက်မှ တယောက်သို့ လက်ဆင့် ကမ်းကြသည်။ အရက်အိတ် လက်ထဲ ရောက်လာသည့်အခါ အိတ်နှုတ်ခမ်းကို ပါးစပ်တွင်တေ့၍ မော့ကြ သည်။ အိတ်ထဲမှ အနီရောင်ပိုင်အရက်သည် လူတယောက်ချင်းစီ၏ လည်ချောင်း အတွင်းသို့ စီးဆင်း ဝင်ရောက် သည်။ ထိုအခါ ရယ်သံများသည် ပို၍ ကျယ်လာသည်။ ရယ်စရာ ပြက်လုံးများကို ပို၍ ပြောလာ ကြသည်။ တဦးနှင့် တဦး ပြောင်ကြ လှောင်ကြသည်။ အထူး သဖြင့် သေနတ်ပြောင်းရှည်ကြီး လွယ်ထား သော နှာခေါင်းရှည်ရှည်နှင့်လူမှာ ကားပေါ်ရှိ လူအများ၏ အပြောင်အနောက်ကို အခံရဆုံး။ သို့သော်လည်း တယောက်နှင့်တယောက် စိတ်ဆိုး ခြင်းမရှိ။ ' လက်လုပ်လက်စား ဆင်းရဲသားများ ' နှင့် ဘယ်တုန်းကမှ ရောခွင့် မရခဲ့ရှာသော နီကို လတ်စ်မှာ အထင်နှင့်အမြင် များစွာ ကွာခြားနေသဖြင့် တအံ့တ သြ ဖြစ်လျက် ရှိ၏။ သူတို့လူစု၏ နေပုံ ထိုင်ပုံနှင့် ပြောဆိုဆက်ဆံပုံများမှာ ပျော်စရာကောင်းသည်။ လွတ်လပ်သည်။ ဤလူအုပ်ကြား သို့ သူ့အဖေ ရောက်လာပါက မည်ကဲ့သို့ ပြောလိမ့်မည်နည်း။ ဟန်ကြီး ပန်ကြီး မလုပ်ပဲ တရင်းတနီး ပြောဆိုနေကြသည်များကို မြင်လျှင် အလန့်တကြား ဖြစ်နေလိမ့်မည်ဟု သူ ထင်မိ လေသည်။

http://www.shwezinu.com/



ထိုအချိန်တွင် ဘတ်စ်ကားသည် သဲမြေထူထပ်သော စပျစ်ခြံများနှင့် သံလွင်ပင်များ အစုလိုက် အပြုံ လိုက်ပေါက်ရာ တောအုပ်ကလေးများကို ကျော်ဖြတ်လာသည်။ တောင်ကုန်းတောင်စွယ်များ ကြားသို့ မသိ မသာ ဝင်ရောက်စ ပြုလာသည်။ ထို့နောက် ဘတ်စ်ကားသည် မတ်စော်သော တောင်ပေါ် လမ်းများကို ကွေ့ပတ်၍ တက်သည်။ တခါတရံတွင် ခြုံသံတရှင်ရှင်ဖြင့် နေးကွေးလေး လံစွာ သွားလျက် ရှိနေကြသော မြည်းများကို မြင်ရသည်။ ဒီဘက်ပိုင်းကျတော့ ဘတ်စ်ကားသည် ခရီးသည်များ ဆင်းရန်အတွက် လမ်းဘေး မှတ်တိုင် နှင့် လယ်တဲများရှေ့တွင် မကြာမကြာ ရပ်ပေး သည်။

နီကိုလတ်စ် အဖို့တော့ မြင်မြင်သမျှ အရာရာတိုင်းသည် အထူးအဆန်းချည်း ဖြစ်နေသည်။ တဖြည်း ဖြည်းနှင့် တောင်တန်းများ၏ အမြင့်ဆုံးအပိုင်းသို့ ရောက်လာသည်။ ဒီဘက်ကျလေ... နီကိုလတ်စ် အဖို့ ကြည့်စရာတွေက များလာလေ...။ သူသည် ဘတ်စ်ကား မှန်ပြတင်းမှနေ၍ အပြင် ရှုခင်းများ ကို တအံ့တသြ ငေးမော၍ လိုက်ပါလာသည်။ ကားထဲတွင် ခရီးသည် များများစားစားမရှိတော့။ သူတို့နှစ်ယောက်အပြင် ခရီးသည် ဒါဇင်ဝက်ခန့်သာ ကျန်တော့သည်။ နီကိုလတ်စ်၏ ရင်ထဲတွင် စိုးရိမ်စိတ်တခု ဝင်လာသည်။ ခရီးသည် အားလုံးလိုလိုပင် ငါးမျှားတံများ ပါလာကြ၏။ သို့ဆိုလျှင် သူတို့ နှစ်ယောက်အတွက် ငါးမျှားစရာ နေရာ ကောင်းကောင်းမှ ရပါဦးမည်လော...။

http://www.shwezinu.com/



သူ့မျက်လုံးများသည် ဂျိုစီထံသို့ ရောက်သွားသည်။ သူ့အကြည့်ကို နားလည်လိုက်သော ဂျိုစီက စိတ်ပူစရာ မလိုပါဟူသော သဘောဖြင့် ခေါင်းယမ်းပြသည်။ နောက်တစ္ဆာအရောက်တွင် ဘတ်စ်ကား သည် လမ်းဘေး ထမင်းဆိုင် တဆိုင်၏ မျက်နှာချင်းဆိုင်ဘက်၌ရပ်သည်။ ကျန်နေသော ခရီးသည် အားလုံးသည် သူနှင့် ဂျိုစီအား ဖက်လှဲတကင်း နှုတ်ဆက်ကာ ဆင်းသွားကြသည်။ ကားပေါ်တွင် ခရီးသည်ဆို၍ သူတို့သာ ကျန်ခဲ့ လေ၏။

ဘတ်စ်ကား ဆက်ထွက်သောအခါ ဂျိုစီက သူ့အား လှမ်းကြည့်သည်။

' ဟော့ ... နီကို၊ ငါ မင်းကို စကား မပြောလို့ မဖြစ်တော့ဘူးကွ ' ဟု ဆိုသည်။

' ငါတို့အခု မြစ်ရှိရာကို သွားကြမှာ၊ မင်း ဘယ်လို နေရ ထိုင်ရ၊ လုပ်ရ ကိုင်ရမယ် ဆိုတာကို ကြိုတင်ပြီး ပြောမထားလို့ မဖြစ်တော့ဘူး၊ ငါ မင်းကို မြစ်ထဲ လိမ့်ကျမှာ စိုးတယ်၊ အဲသလိုသာဖြစ်ရင် ငါ့အဖို့ မလွယ်ဘူး၊ အဲဒီတော့ ငါက မင်းကို စကား စပြောရတော့မှာပဲ၊ မင်းကတော့ မင်းအဖေကို ပေးထားရတဲ့ ကတိအတိုင်း ငါ့ကို စကားပြန်မပြော ချင်လဲ နေနိုင်ပါတယ် '

နီကိုလတ်စ်က ဂျိုစီအား မျက်လုံးပြူး၍ ကြည့်သည်။ ရုတ်တရက် ဖြစ်ပေါ်လာသည်။ ရယ်ချင်စိတ် ကို မတားနိုင်။

' ကျွန်တော်လဲ စကားပြောရမှာ ပေါ့ဗျ ဂျိုစီ...ရ၊ ခင်ဗျားက ပြောရင် ကျွန်တော်ကလည်း ပြန်ပြော ရမှာပေါ့ '



http://www.shwezinu.com/

ဂျိုစီက ပြုံးသည်။

' ဒါပေ့ါကွ...၊ ငါတို့ဟာ ယောက်ျားတွေပဲ၊ ယောက်ျားပီပီပဲ လုပ်ရမှာပေ့ါ၊ ရှက်တတ် ကြောက်တတ်တဲ့ ကလေးလေးတွေလို တွန့်ဆုတ်တွန့်ဆုတ် လုပ်နေလို့ ဘယ်ဖြစ်မလဲ၊ အခုလို ဒီဘက်ပိုင်း ရောက်တုန်းမှာ ပျော်ပျော်ပဲ နေကြရမှာပဲ၊ မဟုတ်ဘူးလား၊ ကဲ...လာ...၊ ငါတို့ ဆင်းရမယ့် မှတ်တိုင် ရောက်ပြီ '

ဂျိုစီက ပြောပြောဆိုဆို သူ့ ငါးမျှားတံ နစ်ချောင်းကို ကောက်ထမ်းပြီး ကျောပိုးအိတ်ကို ပြန်လွယ် သည်။ နီကိုလတ်စ်ကို လဲကျမသွားအောင် လက်တဘက်နှင့် ထိန်းကာ ဘတ်စ်ကားရှေ့ပိုင်းသို့ ခေါ်လာသည်။ ကားရပ်သည်နှင့် တပြိုင်နက် သူ အလျင်စုန်ဆင်းသည်။ ပြီးတော့ နီကိုလတ်စ်ကို ချ ပေးသည်။ ကားပြတင်း ပေါက်မှ ခေါင်းပြူ၍ ကြည့်နေသော ယာဉ်မောင်း အား လက်ပြ၍ နှုတ်ဆက် ကြသည်။

' ကံကောင်း ကြပါစေကွာ ' ဟု ယာဉ်မောင်းက အော်ပြောသည်။ ဘတ်စ်ကားသည် ဖြည်းဖြည်းချင်း ထွက်သွားသည်။ ကားနောက် တွင် ဖုန်လုံးကြီးများသည် အလိပ်လိပ်ထ၍ ကျန်ရစ် ခဲ့လေ၏။

နေသည် ကျဲကျဲတောက် ပူပြင်းလျက် ရှိသော်လည်း လေကတော့ အေးမြ လန်းဆတ်သည်။ သူတို့ ရှေ့တည့်တည့်တွင် တောင်ထွတ်

http://www.shwezinu.com/


တောင်စွန်းများ...။ စောစောကတော့ သူတို့ မော့်ကြည့်ခဲ့ရသည်။ အခုတော့ သူတို့နှင့် တပြေးတည်း ဖြစ်နေပြီ။

နေရောင်သည် မျက်စိများကို ကျိန်းစပ်သွားလောက်အောင်ပင် ပြိုးပြိုးပြက်ပြက် တောက်ပနေသည်။ နီကိုလတ်စ်သည် လာလမ်းဘက်သို့ ပြန်မျှော်ကြည့်သည်။ တောင်နှာမောင်း တခု၏ ဗယ်ဘက်တွင် ရွာလေး တရွာ။ ထိုရွာ၏ တဘက်ရှိ အောက်ခြေအနိမ့်ပိုင်းတွင်မူ လယ်ကွက် များနှင့် စပျစ်ခြံများ...။ ထိုခြံများ ၏ တဘက်တွင်မူ မှုန်မှုန်ရီဝေနေသော ပင်လယ်ပြင်။ အားလုံးသည် သူ့မျက်စိအောက်၌ ရောက်နေသည်။ သူသည် ကမ္ဘာလောကကြီး၏ ထိပ် အမြင့်ဆုံးပိုင်း၌ ရပ်နေရသည့်နှယ် ခံစားနေရ၏။ သူသည် သန့်စင်လတ်ဆတ်သော လေကို အားရ ပါးရ ရှုရှိုက်လိုက်သည်။

' ကျွန်တော့် အဖို့တော့ ကနေ့ဟာ အထူးခြားဆုံးနဲ့ အံ့သြစရာ အကောင်းဆုံးနေ့တနေ့ပဲ ဂျိုစီ '

' ဟုတ်တာပေ့ါကွာ ' ဟု ဂျိုစီက ပြန်ပြောသည်။

' နေက သိပ်ပူတယ်ကွ '၊ ငါးမျှားလို့မှ ရပ့်ါမလား မသိဘူး၊ အေးလေ... ကြည့်သေးတာပေ့ါ '

သူတို့နှစ်ယောက်သည် တောအုပ်တခုကြားမှဖြတ်၍ တောင်စောင်း ဆင်ခြေလျှောအတိုင်း ဆင်းခဲ့ကြ သည်။ မြက်ခင်း ပြင်ပေါ်မှ ဆိတ်များသည် သူတို့အား အကြောက်အလန့်မရှိပဲ လှမ်းကြည့်နေကြ သည်။ ရုတ်တရက်



http://www.shwezinu.com/

စိမ်းလန်းစိုပြည်သော တောင်ကြားလွင်ပြင်တခုသည် သူတို့ရှေ့မှောက်တွင် ဘွားခနဲ ပေါ်လာသည်။ လွင်ပြင်ပေါ်ဂယ် ကွေ့ကာပတ်ကာ စီးဆင်းသောမြစ်။ မြစ်သည် ဤနေရာ တွင် ရေအားဖြင့် လည်သော ဂျုံစက်ဟောင်း တလုံးရှေ့မှ ဖြတ်ကာရေကာတာကို ကျော်ပြီးတဘက် သို့ ဆင်းသွား သဖြင့် ရေကန်ကြီး တခု ဖြစ်လျက်ရှိ၏ ။

'ဒီနေရာပဲကွ'ဟု ဂျိုစီကရေရွတ်သည်။

'ဒီနေရာဟာ အကောင်းဆုံးနေရာပဲ၊ တခြားလူတွေ ဘာကြောင့် မလာကြတာလဲ .... ဂျိုစီ'

'ထမင်းဆိုင်နဲ့ဝေးလို့ကွ' ဟု ပြောကာ ဂျိုစီကရယ်သည်။

'သူတို့ကငါးလဲမျှားချင်တယ်၊ အရက်လဲ သောက်ချင်တယ်၊ အလုပ်နှစ်ခုကို တပြိုင်တည်း လုပ်ချင်ကြ တာကိုး ကွ'

ဂျိုစီသည် စက်ရုံရှေ့သို့ရောက်လာသည့် လူသွားလမ်း အတိုင်း လိုက်သည်။ နီကိုလတ်စ်က ဘေးမှ ကပ်၍ ခြေဖျား ထောက်လျှောက်သည်။ တောင်ကြားတလျှောက်တွင် နွေးနွေးထွေးထွေး ရှိလှပေ သည်။ အပြာရောင် အိုင်းရစ်ပန်းများသည် ဖူးပွင့်ဝေဆာလျက် ရှိကြသည်။ စက်ရုံအဟောင်းအပျက် ကြီးဖြစ်သည်။ ခေါင်းမိုးပင် မရှိတော့။ ရေညှိများထူထပ်စွာ တက်နေသော ဘီးကြီးများမလည်မပတ် ရသည်မှာ နှစ်များမှာ ကြာခဲ့ပြီ ထင်၏ ။

http://www.shwezinu.com/



စက်ရုံအဝင်တွင် မြစ်ဘက်ကို မျက်နှာပြုလျက်ရှိသော ကျောက်လှေကား တခုရှိသည်။ ဂျိုစီသည် သူ့ပစ္စည်း ကိရိယာ တန်ဆာပလာများကို ထိုကျောက်လှေကား၌ချသည်။ သူသည်တလုံးစီ၏ ထိပ်ဘက် အပေါက်မှာ နေ၍ ငါးမျှားတံကို ထိုးသွင်းသည်။ ဈေးအပေါ်ဆုံး ငါးမျှားတံများဖြစ်သော်လည်း ဂျိုစီသည် တယုတယနှင့် တရို တသေကိုင်သည်။

'ခင်ဗျားငါးမျှားရတာကို သိပ်သဘောကျသလား... ဂျိုစီ'ဟု နီကိုလတ်စ်က မေးသည်။

'ငါ့အကြိုက်ဆုံးအလုပ်တခုပဲကွ'ဟု ဂျိုစီကဖြေသည်။ 'မင်းကော ဝါသနာမပါဘူးလား'

'ကျွန်တော်လဲဝါသနာပါပါတယ်၊ ဒါပေမဲ့ဗျာ၊ ငါးမျှားခွင့်တခါမှ မရခဲ့ဘူးဗျ'

'အခု မင်းမျှားရတော့မှာပဲကွ'

ဂျိုစီကပြုံးသည်။

'မင်းငါးမျှားယင်တော့ ငါးစာနဲ့ပဲ မျှားမှဖြစ်မယ်ကွ၊ မင်းက ငယ်သေးတော့ ကြိုးကိုအဝေးကြီးပစ်ပြီး မျှားလို့မဖြစ်သေးဘူး၊ ဟောဒီမှာလာကြည့်၊ ငါပြမယ်၊ မြစ်ငါးတွေ အရှုံး အမှုး ဖြစ်အောင် ကြိုက်တဲ့အစာ'



http://www.shwezinu.com/

ဂျိုစီသည် ကျောပိုးအိတ်အတွင်းမှ သံဗူးပိုင်းလေးတလုံးကိုထုတ်၍ အဖုံးကိုဖွင့်ကာ သူ့လက်ဖဝါးပေါ်သို့ မှောက်ချ လိုက်၏ ပိုးတုံးလုံး အသေတကောင်...။ သူသည် ပိုးတုံးလုံးကောင်ကို ငါးမျှားချိတ်တွင် တပ်လိုက်ပြီး နီကိုလတ်စ်၏ လက်မောင်းကိုဆွဲကာ ကျောက်လုံးကြီးများဖြင့် ပြုလုပ်ထားကာ ရေကာတာ တနေရာ တွင် ခြေထောက်နှစ်ဖက်ကို တွဲလောင်းချ၍ ထိုင်ခိုင်းသည်။ ငါးမျှားတံကြီးကို ရေထဲသို့ပစ်ချလိုက်ပြီး ငါးမျှားတံ ကို နီကိုလတ်စ်၏လက်ထဲသို့ ထည့်ပေးလေသည်။

'အစာကို ငါးဟပ်ထင်တအားဆောင့်ဆွဲလိုက် ဟုတ်လား'

'ခင်ဗျားက ကျွန်တော်နဲ့ အဝေးကြီးသွားနေမှာလား'

'မသွားပါဘူးကွာ၊ စိတ်ချပါ'

ဂျိုစီက ရေကာတာ၏အမြင့်ပိုင်းရှိ တနေရာကိုညွှန်ပြသည်။

'အဲဒီနေရာမှာ ငါ နေမယ်'

ပထမတော့ နီကိုလတ်စ်သည် ကောင်းကောင်းမထိုင်တတ်။ ငါးမျှားတံကို လက်နှစ်ဘက်ဖြင့် တင်းကျပ်စွာ ဆုပ်ကိုင်ပြီး တောင့်တောင့်မတ်မတ်ကြီး ထိုင်နေမိသည်။ တဝေါဝေါကျဆင်းလျက်ရှိသော ရေလုံးကြီးများ ကိုကြည့်ကာ ခေါင်းမူးချင်သလိုလိုပင်ဖြစ်သည်။ ရေကန်ထဲသို့ လိမ့်ကျသွား မည်ကို စိုးရိမ်သော စိတ်ကလည်း ဖိစီးနေသဖြင့် လိုအပ်သည်ထက်ပိုပြီး

http://www.shwezinu.com/



သတိထားနေမိသည်။ ကြာလာတော့လည်း တဖြည်း ဖြည်း နှင့် သူ့ကိုယ်သူယုံကြည်မှုဂင်လာကာ ကြောက်စိတ်ပျောက် သွားသည်။

ဂျိုစီဆက်ဆံပုံမှာ သူ့အား မကျန်းမမာဖြစ်နေသော ကလေးသူငယ် တယောက်ကို ဆက်ဆံပုံမျိုး မဟုတ်။ ကျန်းမာ သန်စွမ်းသော လူငယ်တယောက်ကို ဆက်ဆံသည့်အနေအထားဖြစ်သည်။ ဤဆက်ဆံမှု ကြောင့် သူ့မှာ များစွာဂမ်းသာအားတက်ရသည်။ ပီတိဖြစ်ရ၏ သူသည် အောက်သို့ ကျမသွားစေရန် သတိကြီးစွာ ထားပြီး ဂျိုစီဘက် လှည့်ကြည့်သည်။ ဂျိုစီသည် ရေစီးထဲတွင် ရပ်နေ သည်။ သူ့လက်ထဲမှ ငါးမျှားတံကြီးကို မြှောက်၍ ပစ်လိုက်၊ ပြန်သိမ်းလိုက်၊ ပြန်ပစ်လိုက်နှင့် အလုပ်ရှုပ်လျက်ရှိသည်။ တကြိမ်တွင် ရေစီးထဲမှ ငါးတကောင် ခုန်ထွက်လာသည်ကို သူမြင်လိုက်မိ သည်ထင်၏ ။ သို့သော်လည်း အထင်မျှသာဖြစ်၏ ။ အတိအကျ မပြောနိုင်။ သူ့ဖင်အောက် ကျောက်တုံးကြီးများသည် နွေးနွေးထွေးထွေးရှိလှပေသည်။

ရုတ်တရက် သူ့ငါးမျှားတံသည် အသက်ဂင်လာသည်။ ငါးမျှားတံ၏ ထိပ်ပိုင်းသည် ရှေ့သို့ ကွေးကျ သွားလိုက် ပြန်တက်လာလိုက်နှင့် တယိမ်းယိမ်းတန္ဒဲ့န္ဒဲ့ ဖြစ်လာနေသည်။ ရေပြင်အောက် တနေရာ မှ လှုပ်ရှားမှု တခုနှင့် အလေးအပင်တခု။

http://www.shwezinu.com/



'ငါးဟပ်ပြီကွ' ဟု စိတ်ထဲက ကျိတ်၍အော်လိုက်မိသည်။ ကြောက်လန့်တကြားဖြစ်ကာ ဂျိုစီအား လှည့် ကြည့် မိသည်။ ဂျိုစီကတော့ သူ့ကိုမမြင်။ သူနှင့်ဂိုက်တရာခန့်အကွာတွင် သူ့အားကျောပေး ၍ ရပ်နေသည်။ အော်ခေါ်ရန် စိတ်ကူးပေါ်လာသေးသည်။ သို့သော်လည်း တဝေါဝေါကျနေသော ရေသံများကြောင့် ကြားမည်မထင်။ သူ့ဘာသာသူ လုပ်ရမည့်အလုပ်...။ ဖြစ်အောင်လုပ်မည်ဟူသော မာနစိတ်ကလေး ဝင်လာသည်။

သူသည် ငါးမျှားတံကြိုးရစ်ဘီးကို ကသောကမျောရစ်သည်။ ငါးမျှားတံအနောင့်သည် သူ့ရင်ဘတ်ကို မကြာခဏ ထိုးမိသော်လည်း သူသတိမထားနိုင်။ ငါးမျှားချိတ်တွင် ချိန်မိနေပြီဖြစ် သော ငါးသည် အကြိတ်အနယ် ရုန်းကန်တိုက်ခိုက်လျက်ရှိသည်။ သူကလည်း ပြန်လွတ်သွားမည်ကို စိုးရိတ်သောစိတ်ဖြင့် ရစ်ဘီးကို တရကြမ်း ရစ်သည်။ ငါးသည် ရေထဲမှခုန်ပျံ၍ပါလာပြီး သူ့ရင်ဘတ်ကို လာရိုက်မိသည်။ ဂမ်းသာ လွန်းသော အရှိန်ဖြင့် နီကိုလတ်စ်၏ နလုံးသားကို တဆတ်ဆတ်ခုန်လျက်ရှိလေသည်။

'အကြီး....အကြီးပဲ၊ အကြီး...ကြီးပဲ၊ လှလိုက်တဲ့ ငါး...ကြီး' သူသည် အမောတကောနှင့် အသက်ကို ပင် မှန်မှန် မရှူနိုင်။ 'ပြန်များလွတ်သွားမလား၊ ပြန်လွတ်သွားမှဖြင့်....'

http://www.shwezinu.com/



နီကိုလတ်စ်သည် သတိကြီးစွာထား၍ ကြိုးကိုရစ်သည်။ အခုတော့လည်း ငါးသည် မောဟိုက်လျက် ရှိလေပြီ။ သူဆွဲရာနောက်သို့ တကောက်ကောက် လိုက်ပါလာသည်။ ရေစပ်နားရောက်လုလုတွင် သူသည် ငါးမျှားတံကို အသာချပစ်ခဲ့ပြီ ရေစပ်အထိဆင်း၍ ကြိုးကိုဆွဲတင်သည်။

သူ ငါးတကောင်ရပြီ။ မည်သူ့အကူအညီမှမပါဘဲ သူကိုယ်တိုင် ဖမ်းမိသောငါး။ ပထမတော့ ဂျိုစီထံ အပြေး အလွှား သွား၍ ပြလိုက်မည်ဟု ကြံမိသေးသည်။ ပြီးတော့မှ စိတ်တမျိုးပြောင်းသွားသည်။ အခုမပြသေး။ သူသည် ငါးကို ငါးမျှားချိတ်မှ ဖြုတ်ယူလိုက်ပြီး ကျောက်ခဲတလုံးကို ခေါင်းကိုတချက် ထုလိုက်သည်။ ထို့နောက် မလှမ်းမကမ်းရှိ ဒရင်ကောက်ပင်များကြားသို့ ထိုးသွင်းထားလိုက်သည်။ ခဏမျှအကြာတွင် နီကိုလတ်စ် သည် စောစောကနေရာတွင် အကျအနထိုင်ကာ နောက်တကြိမ် ငါးထပ်အဟပ်ကို မျှော်လင့် စောင့်စားလျက် ရှိလေ၏ ။

ဂျိုစီရောက်လာသောအခါ နေ့ခင်းတနာရီ ထိုးနေလေပြီ။ ထိုအချိန်တွင် နီကိုလတ်စ်မှာ ငါးနှစ်ကောင် ထပ်မိ ထားပြီ။ ပထမဆုံးရသည့် အကောင်လောက်တော့ မကြီး။ သို့သော်လည်း သုံးကောင်ဆို တော့ အားတက် စရာ ဖြစ်သည်။

'ကံကောင်းရဲ့လားကွ'ဟု ဂျိုစီကမေးသည်။

http://www.shwezinu.com/



ရင်ထဲတွင် အောင့်အည်းမျိုသိပ်ထားရသမျှသည် အခုမှပင် ပွင့်ထွက်လာသည်။ နီကိုလတ်စ်သည် ဂျူစီထံ အပြေး အလွှား သွားကာ လက်မောင်းကို ဖမ်းဆွဲပြီး သူ့ငါးများထားရာ နေရာသို့ခေါ်လာသည်။

'ဒီမှာဗျ၊ ဒီမှာကြည့်ပါဦး၊ အကြီးကြီးတွေပဲ၊ သိပ်လှတဲ့ အကောင်ကြီးတွေဗျ၊ ပထမဆုံး မိတဲ့ကောင်က အကြီးဆုံး ပဲသိလား၊ ကျွန်တော် သူ့ကိုစပြီးမိတော့ အသက်တောင်မရှူနိုင်ဘူး၊ တကယ်ပဲ၊ ပျောက်လိုက်တာလဲ အလွန်ပဲ၊ ဒါပေမယ့်ရအောင် ဆွဲယူပြီးဖြုတ်ယူနိုင်တယ်၊ ကျွန်တော်တခါမှ ငါးမမျှားဖူးဘူး...ဂျူစီ၊ သိလား၊ သိပ်ပျော်စရာ ကောင်းတာပဲ၊ ပြီးတော့...၊ ဟာ...ကျွန်တော်မေ့သွား တယ်၊ ခင်ဗျားကော ရတယ် မဟုတ်လား၊ ဘယ်နှစ်ကောင်ရလဲဟင်'

ဂျူစီ၏ ကျောပိုးအိတ်ထဲဝယ် ငါးလေးကောင်....၊ သို့သော်လည်း သူဖမ်းမိသည့် ငါးများအတွက် အရေးလုပ်၍ စကားမပြော။ နီကိုလတ်စ် ငါးသုံးကောင်အထိ ရသည့်အတွက် ကျေနပ်အားရလျက် ရှိသည်။ သူ၏ ဘောင်းဘီ အောက်ပိုင်းမှာ စိုရွှဲလျက်ရှိ၏ နေပူကျဲတဲအောက်တွင် ရပ်နေခဲ့ရခြင်းဖြစ်၍ သူ့မျက်နှာမှာ ချွေးသီး ချွေးပေါက် များဖြင့် စိုရွှဲလျက် ရှိလေသည်။

'ကဲငါတို့ နေ့လယ်စာစားကြမယ်၊ ငါတော့ ဆာလှပြီ၊ မင်းကော ဆာရောပေါ့'

http://www.shwezinu.com/


သူသည် လေ့ကားထစ်ပေါ်တွင် ထိုင်ချလိုက်ပြီး သတင်းစာ စက္ကူတရွက်ဖြင့် ပတ်ထားသည့် ပေါင်မုန့်ကြမ်း တလုံး နှင့် ဒိန်ခဲတုံးကို ထုတ်သည်။ ကျောပိုးအိတ်ထဲမှ ကြက်သွန်နီတလုံးကိုပါ ထုတ်သည်။ ထို့နောက် ခါးကြားမှ ဓားဖြင့် ကြက်သွန်ကို အခွံနွာသည်။ ထိုအခါကျမှပင် နီကိုလတ်စ် သည် သူနံနက်စာ မစားခဲ့ရ သေးသည့် အဖြစ်ကို သတိရကာ အပြင်းအထန် ဂမ်းဟာလာလေသည်။ သူသည် ဂျိုစီ၏ဘေးတွင် ပယ်ပယ် နယ်နယ် ထိုင်ချလိုက်ကာ မက်ဂ်ဒါလီးနား ထည့်ပေးလိုက်သော ခြင်းကို ဖွင့်သည်။

အထဲတွင် ကြက်ဥပြုတ်များ၊ ကြက်ကြော်တကောင်၊ ပေါင်မုန့်ချပ်များနှင့် ထောပတ်၊ သစ်သီး လတ်လတ် ဆတ်ဆတ် များ၊ စုံနေအောင် ထည့်ပေးထားသည်ကို တွေ့ရသည်။ သူတယောက်တည်း ကုန်အောင် စားနိုင်မည် မဟုတ်၊ သူ့မိတ်ဆွေ ဂျိုစီ ကိုပါ ခွဲဝေမျှတ ကျွေးနိုင်မည် ဖြစ်သည်။

ပထမတော့ ဂျိုစီကသူပေးသည်ကို မယူ။ သူကျွေးသည်ကိုမစား။ နူးညံ့သော အစားအစာများမှာ သူ စားနေကျ မဟုတ်၍ မစားချင်ဟုငြင်းသည်။ မျက်စိမျက်နှာပျက်က စိတ်မကောင်း ဖြစ်နေပုံရသော နီကိုလတ်စ် ၏ အဖြစ်ကို မြင်သော အခါကျမှ ရယ်ရယ်မောမောနှင့် တယောက်တဂက်စီ အညီအမျှ ခွဲစားမည် ဟု ဆိုသည်။

http://www.shwezinu.com/



ပူနွေးသောနေရောင်ခြည်အောက်တွင် မြေကြီးပေါ်ထိုင်၍ မြစ်ရေစီးသံကို နားထောင်၍ စားရသည့် အစားအစာမှာ မြိန်လှပါဘိခြင်း...။ နီကိုလတ်စ်သည် ဂျူစီ ခွဲဝေပေးသည့် ပေါင်မုန့်ကြမ်းနှင့်ကြက်သွန်ကို တကြိမ် တခါ မှ စားဖူးခဲ့သူ မဟုတ်။ သူ့စိတ်က အရသာရှိလိမ့်မည် မဟုတ်ဘူး ထင်ခဲ့၏ အခု လက်တွေ့ စားကြည့်တော့ ထူးထူးခြားခြားအရသာရှိနေသည်ကို တွေ့ရ သည်။ ဂျူစီကလည်း သူခွဲပေးသည့် ကြက်သား ကို ကြိုက်ပုံပေါ်၏။

သူသည် အစား စားနေယင်းက ဒရင်ကောက်ပင်များကြားတွင် ချထားသည့် သူ့ငါးများကို စိတ်မချ သည့်နှယ် မကြာ...မကြာလှည့် ကြည့်သည်။ နှစ်ယောက်သား ငါးမျှားခြင်းအကြောင်းကို စိတ်ဝင်တစား ပြောမိကြသည်။ ဂျူစီက ရာသီအလိုက် ရေချိုငါးများ နေရာပြောင်းရွှေ့ ကျက်စားတတ်ပုံနှင့် အလျင့် အလျင် က ငါးမျှားယင်းကြုံ ခဲ့ရသည့် သူ့အတွေ့အကြုံများကို ပြောပြနေသည်။

နီကိုလတ်စ်အဖို့တော့ ဂျူစီ ပြောသမျှသည် အထူးအဆန်း အံ့သြဖွယ်ရာတွေ ချည်းဖြစ်သည်။ ဘယ်လောက် ကြာကြာ ပြောပြော ငြီးငွေ့မသွား။ နားထောင်မည်သာဖြစ်၏ သို့သော်လည်း နီကိုလတ်စ် မျက်နှာ ပေါ်တွင်ပေါ်နေသည့် ပင်ပန်းနွမ်းနယ်မှုကို ဂျူစီက သတိထားမိသဖြင့် စကားကို ဖြတ်ကာ ထိုင်ရာမှ ထရပ် လိုက်သည်။

http://www.shwezinu.com/



'မင်း ကနေ့အိပ်ရာကအစောကြီး ထခဲ့ရတာကွ၊ မင်းတရေးတမော အိပ်ဦးမှဖြစ်မယ်'

ဂျူစီသည် သူ့ဓားဖြင့် ကျောက်ခက်ပင်ကိုင်းများကို ခုတ်ကာ စက်ရုံ၏အရိပ်အောက်တွင် ဖြန့်ခင်းပြီး သူ့အင်္ကျီ ဖြင့် အပေါ်မှအုပ်လိုက်သည်။

'ကဲ…အိပ်ယာခင်းပြီးပြီ၊ မင်းခဏတဖြုတ်အိပ်လိုက်ဦး'

နီကိုလတ်စ်က ဂျူစီ၏စကားကို နားထောင်သည်။ သူသည် ခြေပစ်လက်ပစ် လှဲချလိုက်၏ သူ့လက်နှစ်ဘက် ကို ခေါင်းအောက်သို့ သွင်းလိုက်ပြီး မြစ်ဘက်သို့ ပြန်လျှောက်သွားသော ဂျူစီကို လှမ်းကြည့်သည်။ ဂျူစီသည် ပန်းကန်များကို ဆေးကြောကာ မက်ဂ်ဒါလီးနား၏ လက်ဆွဲခြင်းထဲသို့ ပြန်ထည့်နေသည်။ ဖက်ရွက် များ ခူးကာ ငါးများကို ထုပ်နေသည်။ နေပူရှိန်သည် တက်လာလျက် ရှိ၏ ။ တိတ်ဆိတ် ငြိမ်သက်ခြင်း သည် တောင်ကြားလွင်ပြင်တခုလုံးကို လွှမ်းခြုံထားသည်။ မြစ်ရေစီးဆင်းသံ သဲ့သဲ့သည် တခါတရံ သူ့နားဆီသို့ ရောက်လာသည်။ ပျင်းရိငြီးငွေ့စွာ တွန်ကျူး လျက်ရှိသော ငှက်တကောင်၏အသံ…။ ငှက်သံရော ခြောက်ခြောက် သွေ့သွေ့ နိုင်လွန်းလှ ချေသည်။ ထို့နောက် မျက်စိများမှတ်သွားလေသည်။

ဂျူစီပြန်လာသောအခါ နီကိုလတ်စ်တယောက် နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်လျက်ရှိလေပြီ။ ပထမတော့ ဂျူစီ သည် သူ့နေရာပြန်ပြီး ငါးထပ်မျှားရန် စိတ်ကူးသည် သို့သော်လည်း မောမောပန်းပန်းနှင့် ပိုးလိုး

http://www.shwezinu.com/



ပက်လက်လန်၍ အိပ်နေရှာသော နီကိုလတ်စ်ကို ကြည့်လိုက်မိသောအခါ စိတ်ပြောင်း သွားသည်။ သူသည် နီကိုလတ်စ် ဘေးတွင် အသာဝင်၍ လှဲလိုက်ကာ အပြစ်ကင်းစင်သော နီကိုလတ်စ်၏ မျက်နှာကို ငေးစိုက် ကြည့်နေမိ၏ ဘာကြောင့်ရယ်မသိ။ ဤသူငယ်အပေါ်တွင် ခင်မင်သော စိတ်နှင့် သနားကြင်နာသော စိတ် တို့သည် ဖြစ်ပေါ်လျက်ရှိသည်။ နူးညံ့သောပါးပြင်နှစ်ဘက်ပေါ်သို့ ရှည်လျားသော မျက်တောင်ကော့ များ၏ အရိပ်သည် ကျလျက်ရှိ၏ နီ့နှစ်ရောင်ပေါက်နေသော သွားများသည် ညီညာ လှပလှပေ၏။

ဂျိုစီအနေဖြင့် နီကိုလတ်စ်နှင့်မတူသည့် သူ့အဖြစ်ကို ပြန်သတိရ နေမိသည်။ ဂျိုစီ မွေးဖွားကြီးပြင်း ခဲ့ရသည့် ဘဝမှာ ခက်ခဲကြမ်းတမ်း လှချေသည်။ သူ့အဖေ သေသောအခါ သူ့အသက်မှာ ဆယ့်နှစ်နှစ်မျှသာ ရှိသေးသည်။ နောက်လအနည်းငယ်မျှ ကြာသောအခါ သူ့အား ကျောင်းမှ နုတ်ကာ လယ်ထဲသို့လွှတ်၍ အလုပ် လုပ်ခိုင်းသည်။ သူသည် ဆင်းရဲခြင်းဒုက္ခကို လည်းကောင်း၊ အလုပ်အပေါ်မှ ခေါင်းပုံဖြတ်ခြင်းနှင့် မိသားစု တစုကို ရှာဖွေကျွေးမွေးနေရသူတစ်ဦးအပေါ် အပြင်းအထန် ဖိစီးနိပ်စက်နေတတ်သည့် သောက၏ အကြောင်း တို့ကိုလည်းကောင်း အရွယ် မရောက် လူလားမမြောက်မီကတည်းက နားလည် သဘောပေါက် ခဲ့ရသူ ဖြစ်၏ ။

http://www.shwezinu.com/


သူသည် အကျိုးမရှိ အရာမထင်သော စိတ်ကူးယဉ်မှုများနှင့် ပေါ့တန်သော စိတ်သာယာမှုများကို အရသာ ခံနိုင်ခဲ့သူ တဦး မဟုတ်ပေ။ ဆင်းရဲခြင်း ဒဏ်ကို ခါးစည်း၍ခံခဲ့ရသဖြင့် ကြံ့ခိုင်သော စိတ်မဆုတ်မနစ်သော ဇွဲ၊ မိမိကိုယ် ကိုသာ အားကိုးလိုသော သတ္တိများကို စောစောစီးစီး ရရှိခဲ့သူဖြစ်သည်။

သူ၏ဂါသနာ၊ သူ၏စိတ်ပါဝင်စားမှုနှင့် ကျွမ်းကျင်မှုတို့ကြောင့် ပီလိုတာဘောလုံး အားကစားတွင် ထူးချွန် ထင်ရှားခဲ့၏ ။ ဤထူးချွန်မှုကြောင့် သူ့မှာ ခင်မင်ရင်းနှီးသူ အသိမိတ်ဆွေများ တိုးခဲ့ရ၏ ပြီးတော့ သူ့မှာအမေ၊ ညီမလေးငါးယောက်နှင့် အဘိုးပက်ဒရိုတို့ရှိသည်။ သူတို့အားလုံးသည် သူချစ်ရမည့် လူများ ဖြစ်သည်။ ထိုလူစုမှလွဲလျှင် သူ့မှာ သံယောဇဉ်တွယ်စရာ လူသည် ရှိနိုင်စရာ အကြောင်းမရှိ။

သို့သော်လည်း အခုသူ့မျက်စိရှေ့မှောက်၌ ဤသူငယ်သည် ဘယ်က ဘယ်လိုလုပ်ပြီး ပေါ်ပေါက် လာလေ သည်မသိ။

သံယောဇဉ်ဖြစ်စရာ၊ ချစ်ခင်တွယ်တာစရာ လူသားတဦးအဖြစ်နှင့် ရောက်လာခဲ့၏။ ဤသူငယ်အား သနားသော စိတ်၊ အကာအကွယ် ပေးလိုသော စိတ်များသည် သူ့ရင်၌ ကိန်းအောင်းလာခဲ့ရ၏ ဘာကြောင့် ထိုကဲ့သို့ဖြစ်ရပါသနည်း။ ဒါကိုတော့ သူလုံးဝမသိ။ သူသိနေသည်မှာ

http://www.shwezinu.com/



တခုတည်းသာရှိ၏ ။ ဤသူငယ်နှင့် ခင်မင် ရင်းနှီးခွင့် ရသည့်အတွက် သူ့မှာ အတိုင်းအဆ မသိနိုင်လောက်အောင် ကြည်နူးဂမ်းမြောက် နေခြင်း ပေတည်း။

ဂျူစီသည် သူ၏အသိဉာဏ်နှင့် အတွေ့အကြုံများကို ပေါင်းစပ်၍ ဉာဏ်မီသရွေ့ စဉ်းစားဆင်ခြင် ကြည့်မိသည်။ သူ တဦးတည်းသာ ချစ်ခင်လိုသော ကောင်စစ်ဂန်၏မေတ္တာသည် နီကိုလတ်စ်အား သူ့ ပတ်ဂန်းကျင် လောကနှင့် ကင်းကွာသွားစေမည့် တံတိုင်းကြီး ဖြစ်စ ပြုနေလေပြီ။ မကြာခဏ ဖျားတတ် နာတတ်သော သူ၏ ကျန်းမာရေး ချို့တဲ့မှုသည် နီကိုလတ်စ်အား ကာယ မသန်စွမ်းမှုကို ဖြစ်ပေါ်လာအောင် ဖန်တီးပေးလျက် ရှိ၏။ သူ့အဖေ၏ မနာလိုဂန်တိုစိတ်သည် နီကိုလတ်စ်၏ ငယ်ရွယ်နုနယ်၍ သစ်လွင်လန်းဆန်းသော စိတ်ကို ဖျက်ဆီးနှင်းချေစ ပြုလျက် ရှိလေပြီ။

ကောင်စစ်ဂန်၏ ဆင်ခြင်တုံတရား ကင်းမဲ့လွန်းလှသော အယူသည်းမှု၊ ပြင်းထန် လွန်းလှသော အတွေးအခေါ် အယူအဆနှင့် စိတ်နေစိတ်ထား၊ မိုက်မဲလွန်းလှသော မာန်မာန၊ ဤအရာ အားလုံး ကိုပေါင်းစပ် ကြည့်လိုက်သည့်အခါ ဂျူစီ၏ ရင်သည် ပူလောင်လာသည်။ ဤအရာ အားလုံး၏ ဒဏ်ကို ခံရမည့် သားကောင် သည် နီကိုလတ်စ်ပင် ဖြစ်ပေတော့မည်။ နီကိုလတ်စ်အား ဤဘဂမှ လွတ်မြောက် စေချင် လှပါ၏။ အပြင်းအထန် ဖိနှိပ်ချုပ်ချယ်၍ ထားသော ပတ်ဂန်းကျင်မှ သူ့သဘာဂအတိုင်း ရိုးရိုး အေးအေး ကလေး နေရသော ဘဂသို့ သူ ပို့ပေးချင်လှပါ၏။

http://www.shwezinu.com/



နီကိုလတ်စ် နိုးလာချိန်တွင် နေစွယ်အတော်ကျိုးနေပေပြီ။ သူသည် မျက်လုံးများကိုဖွင့်ကာ ပတ်ဂန်းကျင် ကိုပြုံးတူးပြုံတဲ့နှင့်ကြည့်သည်။

' ကျွန်တော်တို့ ငါးထပ်မျှားဦးမှာလား '

ဂျိုစီက မိုးကောင်းကင် ထက်ရှိ နေကို မေးငေါ့ပြသည်။ ပတ်ဂန်းကျင်မှာ အအေးဓာတ် မသိမသာ ဂင်စ ပြုနေပြီ။

' ငါတို့ ပြန်ကြဖို့ အချိန်တော်ပြီထင်တယ်ကွ ...'

' ဟာ...ဂျိုစီကလဲ ဗျာ...'

ဂျိုစီကပြုံး၍ ခေါင်းခါသည်။ သူ့လက်တဘက်ကို နီကိုလတ်စ်၏ ပခုံးပေါ် လှမ်းတင်လိုက်၏။

' တို့သွားမှဖြစ်မယ်ကွ၊ ဘတ်စ်ကားမမီပဲ နေလိမ့်မယ်...၊ ဒါပေမယ့် မပူပါနဲ့ကွာ၊ ငါတို့နှစ်ယောက် နောက်တခေါက် လာကြသေးတာပေါ့'

နောက်တခေါက် ဤနေရာသို့ ထပ်၍ လာကြဦးမည်။ နီကိုလတ်စ်သည် ဤစကားကိုကြားရသော အခါ ကျေနပ် သွားသည်။ သူသည် ခုန်ထလာပြီး ဂမ်းသာအားရ တချက်အော်လိုက်လေသည်။

နှစ်ယောက်သား ငါးမျှားတံများသိမ်းကြသည်။ အမှိုက်သရိုက်များကို စွန့်ပစ်ကြသည်။ အတိုအထွာ ပစ္စည်းများကို သိမ်းဆည်းပြီး ပြန်ထည့်ကြသည်။

http://www.shwezinu.com/



အလာတုန်းကလိုမဟုတ်။ နီကိုလတ်စ်က သူ့ ပစ္စည်းများကို သူ့ဘာသာသူ သယ်မည်ဟု ဆိုသည်။ ထို့နောက် နှစ်ယောက်သားအတူတူတွဲ၍ တောင်ကုန်းပေါ်သို့ တက်လာ ခဲ့ကြလေ၏။

***************

http://www.shwezinu.com/

## အခန်း (၁၀)

ကာဆာဘရီဇာ အိမ်ကြီးဆီသို့ နီကိုလတ်စ် ပြန်လျှောက်လာနေသည့် အခါတွင် အချိန်အတော်ကြီး နောက်ကျနေပေပြီ။ ည ကိုးနာရီပင် ထိုးလုနီးနေပြီဖြစ်၏။ သို့သော်လည်း တနေ့လုံးလွတ်လပ်စွာ ပျော်ခဲ့ရသော နီကိုလတ်စ်မှာ အခုအချိန်ထိ သူ့ကိုယ်သူ အရှိန်မသတ်နိုင်သေး။ ပျော်တုန်း ပျော်ဆဲပင်ဖြစ်၏။ စိတ်ဓာတ် တက်ကြွနေသဖြင့် သူ့ပတ်ဂန်းကျင်ရှိ အမှောင်ထုကိုပင် ကြောက်ရ လန့်ရ မှန်းမသိ။

တကယ်တော့ သူ၏ အပြန်ခရီးမှာလည်း ပျော်စရာ အလွန်ကောင်းခဲ့၏။ ဘတ်စ်ကားတစီးလုံး ရယ်ကြ မောကြ သီချင်းသံပြိုင်ဆိုကြနှင့် သောသော အုတ်တုန်ရှိခဲ့သည်။ သီချင်းမှာ ကက်တလန် စပိန် သီချင်း ဖြစ်၏။ မြူးကြွ သွက်လက်သော သီချင်းမျိုးဖြစ်၍ ကြားရသူတိုင်း ဂင်၍မဆိုပဲ မနေနိုင်။ သူကိုယ်တိုင် ပင်လျှင် အများနှင့်ရောာ၍ သီဆိုမိခဲ့သေးသည်။ သူဖမ်းမိလာသော ငါးများကိုကြည့်၍ ခရီးသည် အများစုက သူ့အား ချီးကျူးကြသည်။

အထူးသဖြင့် သေနတ်ကြီး လွယ်ထားသော နာခေါင်းရှည်ရှည်နှင့် လူကြီးက သူ့အား ပို၍ ချီးမွမ်း စကား ပြောခဲ့သည်။ ထိုလူကြီး ခမျာ သေနတ်ကြီး လွယ်လာရသော်လည်း ဘာသားကောင်မှ ပစ်မရခဲ့ပဲ လက်ချည်းသက်သက် ပြန်လာ ခဲ့ရ၏။ အများက ပိုင်း၍ ချီးမွမ်းစကား

http://www.shwezinu.com/



ပြောကြသည့်အခါ နီကိုလတ်စ် ရှက်သည်။ သို့သော်လည်း သူ့အောင်မြင်မှု အတွက် စိတ်ဓာတ်တော့ တက်ကြွလာခဲ့သည်။ ထို့ကြောင့်လည်း ဘတ်စ်ကားပေါ်မှ အဆင်းတွင် ဂျူစီက သူ့အား အိမ်ဂင်းဂထိ လိုက်ပို့မည်ဟု ပြောနေသည်ကို လက်မခံပဲ ဖွတ်ငြင်းခဲ့ ခြင်းဖြစ်လေသည်။

အခုဆိုလျှင် သူတယောက်တည်း မှောင်ထဲ၌ လျှောက်လာခဲ့ခြင်း ဖြစ်သည်။ သူ့စိတ်ကူးမှာ အိမ်ရောက်လျှင် ရောက်ချင်း ပထမဆုံး မီးဖိုထဲ သွား၍ သူမိလာသည့် ငါးများကို မက်ဂ်ဒါလီးနားအား ပြမည်။ မနက်ဖြန် မနက်စာ အတွက် သူ့အား ချက်ပေးပါဟုမှာမည်။

သူသည် အိမ်ရှေ့ တံခါးမကြီးကို အသာတွန်းဖွင့်ကာ အထဲသို့ဂင်သည်။ ခန်းမကြီးမှာ မှောင်မည်း လျက်ရှိသည်။ အလွန်ကြီးမားသော ကျောက်ဂူကြီး တခုနှင့် တူလှချေသည်။ မက်ဂ်ဒါလီးနားသည် ထွန်းနေကျ မှန်အိမ်ကို ထွန်းဖို့ မေ့နေဟန်တူ၏။ သူသည် တံခါးမကြီးကို ပြန်မပိတ်။ အပြင်မှ ဂင်လာ နေသည့် အလင်းရောင် ပိုးတဂါးကို အားပြုကာ စမ်းတဂါးဂါး လျှောက်၍ ဂင်လာခဲ့သည်။ ရုတ်တရက် သူ့တကိုယ်လုံး အေးစက်သွားသည်။ ခန်းမကြီး၏ ဗယ်ဘက်ရှိ ဗယ်ဘက်ရှိ စတိုခန်းအတွင်းမှ အငြင်းခုံ ဖြစ်နေ ကြသော အသံများ ထွက်လာနေသည်။ ယောက်ျားသံမှာ ဒေါသတကြီး။ မိန်းမ၏ အသံမှာ စူးစူးရှရှ။ ကြောက်ရွံ့ ထိတ်လန့်နေသည့် အငွေ့အသက်ပါသည်။ ဂရေစီယာနှင့် မက်ဂ်ဒါလီးနားတို့ လင်မယား ပေတည်း။

http://www.shwezinu.com/



ဂရေစီယာ ပြန်ရောက်နေလိမ့်မည်ဟု သူ မထင်ခဲ့မိပေ။ အခုတော့ဖြင့် ပြန်ရောက်နေလေပြီ။ သူ့တကိုယ်လုံးတွင် လှုပ်ရှား သွားလာနေကြသော သွေးများသည် ရပ်သွားပြီဟု ထင်လိုက်မိ၏။ ရှင်လန်း အားတက်မှုဟူသမျှ ပျောက်ပြယ်သွားကြလေပြီ။ သူသည် အသံမထွက်စေရန် ခြေဖျား ထောက်၍ အသာကလေး လျှောက်သည်။ ထိုအခိုက်တွင် ပင်လယ်ဘက်မှ ပေ့ယမ်းတိုက်ခတ် လာသော လေပြင်းတချက် သည် သူ ဖွင့်ထားခဲ့မိသော တံခါး တချပ်ကို အရှိန်ပြင်းစွာ ဂင်ဆောင့် သည်။ ပုန်းကန် မြည်ဟည်းကာ ပိတ်သွား လေ၏။

အရှိန်က ပြင်းသဖြင့် ခန်းမကြီး တခုလုံး လှုပ်သွားသည။ တပြိုင်တည်း လိုလိုပင်စတိုခန်းဘက်မှ မီးရောင်သည် နီကိုလတ်စ်၏ မျက်လုံးများပေါ် ထိုးကျလာသည်။ အခန်းထဲမှ မှန်အိမ်ကိုမြှောက်ကိုင်၍ ထွက်လာ သော ဂရေစီယာ...။

ကလေး တယောက်မျှသာဖြစ်သော နီကိုလတ်စ်အဖို့ ဒယီးဒယိုင်နှင့် သိုင်းကွက်နင်း၍ လျှောက်လာနေသော ဂရေစီယာသည် ယခင် အချိန်များ ကထက် ပို၍ ကြောက်စရာ ကောင်းနေသည်။ သူသည် ရုန်းကန် လှုပ်ရှား ဖို့ပင် အချိန်မရလိုက်။ ဂရေစီယာ၏ လက်တဘက်သည် သူ့ လက်မောင်းကို လာ၍ ဆုပ်ကိုင်ပြီး စတိုခန်းတွင်း သို့ ဆွဲခေါ်သွားခြင်းကို ခံလိုက်ရသည်။ အထဲတွင် ကုလားထိုင် တလုံးနှင့် ထိုင်နေသော မက်ဂ်ဒါလီးနား...။

http://www.shwezinu.com/



မက်ဂ်ဒါလီးနား၏ မျက်နှာသည် ရွှင်ရွှင်ပျပျမရှိ။ မျက်လုံးများမှာ နီရဲရောင်ကိုင်း နေသည်။ ဝိုထားဟန်တူ၏။ သူ့ရှေ့မှ စားပွဲပေါ်တွင် အစားအသောက် ပန်းကန်များနှင့် အရက်ပုလင်းတင်ထားသည်။ ပုလင်းထဲရှိ အရက် မှာ ကုန်လုနီးပါး ဖြစ်နေပြီ။

'ဟောဒီမှာ သခင်ပေါက်စကလေး ပြန်လာပြီ။ '

ဂရေဟီယာက သရော်လှောင်ပြောင်သံဖြင့် ပြောသည်။ သူ့ အသံတွေ စိုးရိမ် ကြောင့်ကြသံ မသိမသာ ရောယှက်နေသည်။ သူ့မျက်နှာမှာ ဖြူဖပ်ဖြူရော်..။

'သခင်ကလေး ဘယ်ရောက်ခဲ့ပါသလဲ… ခင်ဗျာ '

နီကိုလတ်စ် အသံမထွက်နိုင်။ လှောင်ချင် ပြောင်ချင်သည့် မျက်နှာပေးဖြင့် ကြည့်နေသော ဂရေစီယာကို ကြောက်လန့်သောစိတ်ဖြင့် နှုတ်အာသလို ဖြစ်နေသည်။ နောက်ဆုံးကျမှ စကားတခွန်းထွက်လာသည်။

' ငါးမျှားသွားတာ '

'ဩော် … ငါးမျှားသွားတာကိုး ' ဟု ဂရေစီယာက နှုတ်ခမ်းကို မဲ့၍ရေရွတ်သည်။

' ဒီလိုဆို ငါးတွေ ဘယ်မှာလဲ…၊ ပြစမ်းပါဦး '

http://www.shwezinu.com/


နီကိုလတ်စ်က နှုတ်မှမဖြေ။ ကြောက်စိတ်ဖြင့် တဆတ်ဆတ် တုန်နေသော လက်ထဲမှ ခြင်းကိုရှေ့သို့ ထိုးပြသည်။ ဂရေစီယာက ခြင်းကို အသာအယာဆွဲယူပြီး စားပွဲပေါ်သို့ သွန်ချလိုက်သည်။ အထဲမှ ငါးနှစ်ကောင် ထွက်ကျလာသော်လည်း အသေးဆုံးတကောင်မှာ လက်ဆွဲခြင်းဖင်တွင် ကပ်နေခဲ့သည်။

' ဟား... '

ဂရေစီယာက နှာခေါင်းကို ရှုံ့လိုက်သည်။

' ငါးယူလာပုံ ယူလာနည်းက မမှန်ဘူး...၊ ရေလဲ ဆေးမလာဘူး၊ ကိုင်လဲ မကိုင်ရသေးဘူး '

နီကိုလတ်စ်ကတော့ မတုန်မလှုပ်ရပ်ကာ ကြည့်နေသည်။ ဂရေစီယာသည် ပေါင်မုန့်လှီးဓားကို လှမ်းယူပြီး ငါးတကောင်၏ ခေါင်းကို တချက်တည်းနှင့် ပြတ်သွားအောင် လှီးချလိုက်သည်။ ဖြူဖွေး သော စားပွဲပေါ်တွင် သွေးများ စီးဆင်းကျလာသည်။ စားပွဲတခုလုံး နီရဲ သွားလေသည်။

' ငါ့ကို မီးဖိုချောင်ထဲက ထမင်းချက် အစေခံ တယောက်လို ဆက်ဆံတာ ငါ မကြိုက်ဘူးကွ သိလား' ဟု ထအော်ပြီး နီကိုလတ်စ်အား စူးစူးဝါးဝါးကြည့်သည်။

http://www.shwezinu.com/



' မင်း ငါ ပြောတာနားလည်ရဲ့လား'

' ဟုတ် ... ဟုတ် ... ဟုတ်ကဲ့ '

နီကိုလတ်စ်က အထစ်ထစ်အငေါ့ငေါ့ဖြင့် ပြောသည်။

ဂရေစီယာ ကပြုံးသည်။ သူ့အပြုံးမှာ အသက်ပါသော အပြုံးမျိုးမဟုတ်။

'သခင်ကလေး ဘာကြောင့် တကိုယ်လုံး တုန်နေတာပါလဲ ခင်ဗျာ၊ သြော် ... သိပြီ၊ ကျွန်တော် ပြန်ရောက် နေတာ တွေ့လို့ မဟုတ်လား၊ ဟေ့ ဒီမှာ ငါသွားချင်တဲ့ အချိန် သွားပြီး ပြန်ချင်တဲ့အချိန် ပြန်မယ်ဆိုတာ မင်း မသိဘူးလား...ဟင် '

' ကျွန်တော် ... သိ ... သိပါတယ် ' ဟု နီကိုလတ်စ်က တီးတိုးလေသံဖြင့် ဖြေသည်။

' အခု ... မင်း သဘောပေါက်ပြီ မဟုတ်လား '

ဂရေစီယာက ကိုယ်ကို မတ်လိုက်သည်။

' ငါ့ကို ဆန့်ကျင်တဲ့ လူ မှန်သမျှ ငါက ပိုးကောင်လေးတကောင် နင်းချေပြီး ပစ်သလို နင်းချေပစ်မယ် သိလား'

ဂရေစီယာကိုကြည့်ပြီး ခေါင်းတယမ်းယမ်း လုပ်နေသော မက်ဂ်ဒါလီးနားက စိတ်ပျက် လက်ပျက် ဖြင့် ညည်းညူ စပြုသည်။

http://www.shwezinu.com/



' ငြိမ်ငြိမ်နေစမ်း ... အမျိုးသမီး၊ ငြိမ်ငြိမ်ကလေးနေစမ်း၊ ကျေးဇူးပြုပြီး ငြိမ်ငြိမ်ဆိတ်ဆိတ်ကလေး နေလိုက် စမ်း '

ဂရေစီယာသည် မက်ဂ်ဒါလီးနားအား လုံးဝ ဂရုမစိုက်။ သူသည် အခု အချိန်အထိ ဓားကို လက်ထဲမှ မချသေး။ နီကိုလတ်စ်ခများ တုန်လှုပ် ချောက်ချားခြင်းဖြင့် မျက်စိပျက် မျက်နှာပျက် ဖြစ်လျက် ရှိသည်။ အဆီပြန် နေသော ဂရေစီယာ၏ မျက်နှာကို သဲသဲကွဲကွဲ မမြင်ရ။

' ပိုးကောင်လေးတကောင် နင်းချေပစ်သလို နင်းချေပစ်မယ်၊ တနေ့ကျမှ ငါလုပ်ခဲ့သမျှအကြောင်း တွေ မင်းကို ပြောပြဦးမယ်၊ ငါ အလျင်တခါတုန်းက မင်းကိုတောင် ပြောခဲ့ဖူးသေးတယ်လေကွာ၊ မင်း မှတ်မိဦး မှာပါ၊ မမှတ်မိလဲ အကြောင်းတော့ မဟုတ်ပါဘူး၊ ငါဟာ ပြောတဲ့အတိုင်း လုပ်တတ်တဲ့ အကောင်ဆိုတာ မင်း တနေ့ကျ သိလာရမှာပေါ့၊ မဆန့်ကျင်နဲ့၊ ငါ့အကြောင်းကို မစုံစမ်းနဲ့၊ ငါ့ကို စပိုင်မလုပ်နဲ့၊ ငါ ဘာလုပ် နေနေ မနှောင့်ယှက်နဲ့၊ ဒါပဲ၊ သိတယ်မဟုတ်လား၊ ငါဟာ ဘယ်တော့မှ အိပ်တဲ့ကောင် မဟုတ်ဘူး၊ ငါဟာ အမြဲတမ်း မင်းအခန်းကို စောင့်ကြည့်နေတာ...၊ နားလည်လား'

' မလုပ်ဘူး ... မလုပ်ဘူး၊ ကျွန်တော် ခင်ဗျားကိုဘာမှ မလုပ်ဘူး '

နီကိုလတ်စ်က ကြောက်လန့်တကြား အော်ပြောသည်။

ဂရေစီယာက ပြုံးပြန်သည်။ မုန်းစရာ ရွံ့စရာကောင်းသည့် အပြုံး။ သူသည် နီကိုလတ်စ်အနီးသို့ တိုးကပ်လာသည်။ ရှုးကြောင်ကြောင်နှင့်

http://www.shwezinu.com/

အရက်ခိုးထနေသော နီရဲရဲ မျက်လုံးများ။ နီကိုလတ်စ်ကတော့ ထိုမျက်လုံးများကို စက်ဆုပ်သည်။ ကြောက်လည်း ကြောက်သည်။ နောက်ဆုတ်ဖို့ ကြိုးစား သည်။ မရ။

' မင်းဟာ အလကား ကောင်လေးပါ။ ဘာမှ မသိတဲ့ ကောင်စားလေးပဲ၊ ဒါပေမယ့် မင်းကို ငါ သင် ပေးနိုင်တာ အများကြီး ရှိတယ်၊ အများကြီး ... အများကြီး '

' နင့်ပါးစပ်ကြီးကို ပိတ်ထားစမ်း ' ဟု မက်ဂ်ဒါလီးနားက ထအော်သည်။

' ငမူးကောင်၊ ဂျက်ကောင်၊ အရူး၊ နင်ဟာ ... '

ဂရေစီယာက နောက်ပြန်လှည့်ကြည့်သည်။ ထိုင်ရာမှ ထဟန်ပြင်နေသော မက်ဂ်ဒါလီးနား၏ ပါးကို သူ့ဗယ်ဘက်လက်ဖြင့် ဖြတ်ရိုက်လိုက်သည်။

ရိုက်ချက်က ပြင်းထန်သည်မဟုတ်။ သို့သော်လည်း အကြောက်လွန်နေပြီ ဖြစ်သော နီကိုလတ်စ်သည် ကိုယ်ထိ လက်ရောက် ရိုက်လိုက်သည်ကို မြင် သောအခါ နောက်သို့လှည့်၍ တဟုန်ထိုး ထွက်ပြေးသည်။ မက်ဂ်ဒါလီးနား၏ စူးစူးရှရှ အော်သံကို သူကြားသော်လည်း ပြန်မကြည့်ရဲ။ ရှေ့သို့ တအားစွပ်၍ပြေးသည်။ လှေကားထစ် များကို ကျော်လွှား၍ တက်သည်။ တကြိမ်နှစ်ကြိမ် ချော်လဲသေးသော်လည်း ချက်ချင်း ပြန်၍ ကျုံးထသည်။ နာရ ကျင်ရမှန်းလည်းမသိ။ ခိုက်မိ တိုက်မိသည်ကိုလည်း မကြောက်။


http://www.shwezinu.com/

ဂရေစီယ၏ လက်ထဲမှ လွတ် မြောက်ဖို့ တခုတည်းသာတွေးသည်။

နောက်ဆုံးကျတော့ သူ့အခန်းထဲ ရောက်လာသည်။ တံခါးကို တရကြမ်းပြန်ပိတ်ပြီး အတွင်းမှ သော့ခတ်လိုက်သည်။ သူ့အဖေ အိပ်ခန်းနှင့် ဆက်နေသော တံခါးပေါက်ကိုလည်း ပြေးပိတ်သည်။ အတွင်းမှ ဂျလက် ချထားလိုက်သည်။ တရုတ်ကတ်များကတော့ စောစောကတည်းက ပိတ်ထားပြီး ဖြစ်၏။ သူ့တကိုယ်လုံးမှာ ဆောက်တည်ရာ မရနိုင် လောက်အောင် ဆိုးဆိုးဆတ်ဆတ် တုန်လျက် ရှိသည်။ သူသည် အခန်း အလယ် အမှောင်ထု ထဲတွင် ကယောင်ကတမ်းနှင့် ရပ်နေမိသည်။

မှန်အိမ်ကို ထွန်းလိုသော်လည်း မထွန်းရဲ။ ဂရေစီယာ မတွေ့နိုင်သည့် နေရာတွင် ပုန်းနေချင် သည်။ သူသည် ခြေထောက်မှ ဖိနပ်များကို ကန်ကျောက် ၍ ချွတ်ပစ်လိုက်ပြီး အိပ်ရာပေါ်သို့ အသာ ကလေး တက်ကာ စောင်ခြုံ အောက်သို့ဝင်သည်။ စောင်ခြုံထဲရောက်သည်အထိ ဂရေစီယာ သည် သူ့အား လိုက်လံ ၍ ခြောက်လှန့်နေဆဲ။ မျက်လုံးပြူးပြူးနှင့် မူးရှူးနေသော ဂရေစီယာသည် သူ့ထံသို့ လာနေသည်။

ဂရေစီယာသည် သူ့ကိုယ်သူ ယုံကြည်စိတ်ချမှုကလေး ကိန်းအောင်းစ ပြုနေသော ကလေးသူငယ် တစ်ဦး၏ ဘဝလုံခြုံမှုကလေးကို ဖျက်ဆီးပစ်ခဲ့လေပြီ။ ကြောက်ခြင်း၊ ရှက်ခြင်းနှင့် ဂမ်းနည်းခြင်းတို့ သည် နုနယ်သော နီကိုလတ်စ်၏ စိတ်ကို ချုပ်ကိုင်ထားသည်။ သူသည် အခုလို

http://www.shwezinu.com/



အားကိုးအားထား မဲ့ချိန်တွင် ဂျိုစီကို သတိရ သည်။ ဂျိုစီသာ အနားမှာရှိလျှင် သူ့အား အကာအကွယ်ပေးပေလိမ့်မည်။ သူသည် ဂျိုစီကို သတိရ မိသည်နှင့် တပြိုင်နက် ဖလမ်းနည်းပက်လက်နှင့် ရှိုက်ကြီးတငင် ငိုကြွေးလေသည်။

သူ့ဘဝတသက်တာတွင် ထိုညကိုတော့ဖြင့် မေ့နိုင်လိမ့်မည် မထင်။ ထိုညသည် အလွန်ရှည်လျားသော ညတညဖြစ်၏။ မက်ဂ်ဒါလီးနား၏ ဖလမ်းနည်းပက်လက် ငိုကြွေးသံများသည် အပေါ်ထပ် သူ့အခန်း ဆီသို့ တောက်လျှောက် တက်လာနေသည်။ ပြီးတော့ ... အော်သံ၊ ရန်ဖြစ်သံ၊ ပုလင်းကွဲသံ၊ ကျယ်လောင် လွန်းလှသော အော်ဟစ်ရယ်မောသံ၊ ထိုးသံကြိတ်သံ၊ ရိုက်နှက်သံများ...။ ထို့နောက် အားလုံး ငြိမ်တိတ် သွားသည်။ ကြောက်မက်ဖွယ်ကောင်းသည့် ငြိမ်တိတ်ဆိတ်ခြင်း။

ဘာတွေများ ဆက်ဖြစ်ကြဦးမှာပါလိမ့်။ ဘာတွေများ ထပ်ဖြစ်ကြဦး မှာပါလိမ့်။ ရင်တထိတ်ထိတ်ဖြင့် စောင့်၍ နားထောင်ရသည်မှာ ရင်မော လှပါဘိ၏။ သူ အိပ်မက်မက်နေခြင်းလား။ သူ့တံခါးကို သေချာစွာ ပိတ်မိခဲ့ ပါ၏လော။ သို့သော်လည်း သူသည် စောင်ခြုံအောက်မှ မထွက်ပံ့၊ ကြောက်စိတ်ဖြင့် တကိုယ်လုံး ချွေးပြန် လျက်ရှိ၏။ စောင်ခြုံအောက်မှနေ၍ လှုပ်လည်း မလှုပ်ပံ့။ အိပ်၍လည်း မရ။ တခေါင်းလုံး မူးဝေ နောက်ကျိ လျက် ရှိရလေသည်။

http://www.shwezinu.com/



နောက်ဆုံး မျှော်လင့်ချက်ဟူသမျှ ကုန်ဆုံးပြီဟူသော အသိဝင်လာသည့်အခါ တရုတ်ကတ်များကြား မှ အလင်းရောင် ခပ်ဖျော့ဖျော့ တိုးဝင်လာသည်။ သူ့ ခဏတဖြုတ် ငိုက်မြည်း သွားသည်ထင်၏။ သူသည် ခေါင်းထောင်ပြီး နားစွင့်သည်။ ဘာသံမှ မကြားရ။ လူသွားလူလာ ရှိပုံလည်းမပေါ်။ သူသည် အိပ်ရာပေါ်မှ အရဲစွန့်၍ ထကာ တရုတ်ကတ် တခုကိုဖွင့်၍ အပြင်သို့ ချောင်း ကြည့်သည်။ ဥယျာဉ်ထဲတွင် ဂျူစီ ရောက်နေလေပြီ။ ဂျူစီသည် သူ့လက်တွန်းလှည်း မစုတ်ကလေးနှင့် အလုပ်ခွင်ဝင်လျက်ရှိ၏။

အဝတ်အစားလဲနေရန်မလို။ သူသည် တံခါးကို ဖွင့်၍ အောက်ထပ်သို့ ကသောကမျော ဆင်းပြေး သည်။ ခန်းမ ထဲကျတော့လည်း ရပ်နားခြင်းမရှိ။ ဂျူစီထံ မရောက်မချင်း ကဆုန်စိုင်း၍ ပြေးသည်။

' ဂျူစီ ... ဂျူစီ ... '

ဂျူစီ၏ နာမည်ကို အခုလို အငမ်းမရ မခေါ်ခဲ့ဖူး။ သူသည် အမောတကောနှင့် ဂျူစီအနီးတွင် ရပ်သည်။ ညကအဖြစ်ကို ပြန်ပြောင်းပြောပြသည်။

ဂျူစီက သူ့လက်တွန်းလှည်းပေါ်မှ ထိုင်၍ နားထောင်သည်။ နီကိုလတ်စ်၏ မျက်နှာကိုလည်းမကြည့်။ စကား တခွန်း မျှလည်း ပြန်မပြော။ နီကိုလတ်စ်၏ စကားဆုံးသွားသည့်အခါ တစုံတခု အလေးအနက်ထား၍

http://www.shwezinu.com/


စဉ်းစား နေဟန်ရှိသည်။ အတန်ကြာမျှ ငြိမ်ဆိတ်နေလေသည်။ ထို့နောက် မတ်တတ်ထရပ်ပြီး နီကိုလတ်စ် အား ပြုံးရွှင်သော မျက်နှာထား ဖြင့် လှမ်းကြည့်သည်။

'မင်း တခုခုတော့ စားဦးမှပေါ့ကွာ၊ မင်း ဒီမှာ ထိုင်စောင့်၊ ငါ သွားကြည့်လိုက်ဦးမယ် '

ဂျိုစီသည် နောက်ဖေး မီးဖိုချောင်ဘက်သို့ လျှောက်သွားသည်။ ခဏနေတော့ ပြန်ရောက်လာသည်။

'မက်ဂ်ဒါလီးနားက မင်းအတွက် မနက်စာလုပ်နေတယ်၊ ဂရေစီယာကို ကြောက်စရာမလိုပါဘူးကွာ၊ သူ အခု ထက်ထိ အိပ်ပျော်နေတုန်းပါ၊ ငါလဲ အခုရှိနေပြီပဲဟာ၊ သွားစားပါ '

နီကိုလတ်စ်သည် တခြားသူတစ်ယောက်ကသာ တိုက်တွန်းလျှင် အိမ်ဘက်သို့ ပြန်သွားလိမ့်မည် မဟုတ်။ ဂျိုစီ စကားကျတော့ သူချက်ချင်း လိုက်နာသည်။ မက်ဂ်ဒါလီးနားက သူ့အတွက် နံနက်စာ ကို ထမင်းစား ခန်း ထဲမှာပင် ပြင်ဆင်၍ ကျွေးသည်။ သူ စားနေကျ အစားများပင်ဖြစ်၏။

တခုတော့ ထူးခြား၏။ ပေါင်မုန့်မီးကင်မှာ ကျွမ်းနေသည်။ မက်ဂ်ဒါလီးနား လုပ်ကိုင်နေပုံမှာ တက်ကြွ ဖျတ်လတ်ခြင်းမရှိ။ ထိုင်းမှိုင်းလေးလံလျက်ရှိသည်။ သူ့အလုပ်အပေါ်တွင် စိတ်ဝင်စားသည့်ဟန် မရှိ။ သူ့ခေါင်းမှ ဆံပင်သည် ပွတီးပွယောင်း။ မျက်နှာကလည်း

http://www.shwezinu.com/

ဖောင်းတောင်းတောင်း ပွတတ။ ဘရန်ဒီအနံ့ကလည်း အခု အချိန်ထိ မပျောက်သေး။ သူ စားသောက်နေသည့် တချိန်လုံးအချိန်လုံး လိုလိုပင် မက်ဂ်ဒါလီးနားသည် သူ့အား မကြည့်။ သူ့အား လုံးဝ ဂရုမစိုက်သည့်နှယ် ရှိနေသည်။ သူ၏ နောက်ဆုံး အစာဖြစ်သော နို့ဖန်ခွက် ကုန်ခါမှပင် သူနှင့် မလှမ်းမကမ်းတွင် လာရပ်သည်။ မက်ဂ်ဒါလီးနား၏ မျက်လုံးမှာ နွမ်းနယ် နေဟန် ရှိ၏။

'မနေ့ညက ဂရေစီယာ လုပ်တာဟာ မင်းကို ကိုယ်ထိလက်ရောက် နာအောင် ကျင်အောင်လုပ်ဖို့ မရည်ရွယ်ပါဘူး၊ အရက်တွေ အလွန်အကျွံ သောက်ပြီး မူးနေလို့ပါ၊ နောက်ထပ်လည်း ဒါမျိုးမဖြစ် တော့ ပါဘူး '

နီကိုလတ်စ်က စကားပြန်မပေးပဲ ငြိမ်ဆိတ်စွာ ပြန်ကြည့်နေသည်။

'မင်းက သဘောကောင်းပါတယ်' ဟု မက်ဂ်ဒါလီးနားက ဆက်ပြောသည်။

' အခု ဖြစ်တဲ့ဟာကို မင်းအဖေ ဆီညော်ဘရန်းဒီးကို ပြန်မပြောပါနဲ့ '

' မပြောလို့ မဖြစ်တော့မှ ပြောမှာပါ '

' ကောင်းပါလေ့ကွယ် ' ဟု မက်ဂ်ဒါလီးနားက ရေရွက်သည်။

' ကဲ ... ကဲ၊ မျက်နှာသစ်ချေဦး '

http://www.shwezinu.com/



နီကိုလတ်စ်သည် အပေါ်ထပ် ပြန်တက်ပြီး သွားတိုက်သည်။ မျက်နှာသစ်သည်။ ပြီးတော့ အဝတ် အစား လဲသည်။ ထို့နောက်တော့ စိတ်လက်ကြည်လင် ပေါ့ပါးသွားသည်။ သို့သော်လည်း မနေ့ညက ကြုံခဲ့ရသည့် အဖြစ်က အရှိန်မကုန်သေး။ အခန်းထဲတွင် ကြာကြာနေချင်စိတ် မရှိ။ ဂျူစီရှိရာ ဧည့်ခန်းထဲသို့ ပြန်ဆင်း လာခဲ့သည်။

တမနက်ခင်းလုံး နီကိုလတ်စ်သည် ဂျူစီ အနားမှ မခွာ။ စကားလည်း များများမပြော။

အလုပ်ကူ လုပ်ဖို့လည်း စိတ်မဝင်စား။ မီးဖိုချောင်ပစ္စည်းများထားရာ စတိုခန်းတံခါးဆီသို့ မကြာ.....မကြာ လှမ်းကြည့် နေသည်က များသည်။ ဂျူစီကိုယ်တိုင်လည်း နီကိုလတ်စ်လိုပင် ဖြစ်သည်။ စကားများ များ မပြော။ အလုပ်ကို လုပ်နေသော်လည်း သူ့စိတ်မှာ အလုပ်အပေါ်တွင် ရှိပုံမရ။ မျက်မှောင်ကုပ်ကာ တစုံတခု ကို စဉ်းစားချိန်ဆနေဟန် ရှိသည်။ တင်းကျပ်စွာ စေ့ထားသော နှုတ်ခမ်းသည် နီကိုလတ်စ် ကြုံခဲ့ရသည့် ဖြစ်ရပ် အပေါ် ပေါ့ပေါ့ဆဆ သဘောမထားကြောင်းကို ဖော်ပြလျက်ရှိ၏။ သူကိုယ်တိုင်လည်း အိမ်ကြီးဘက် သို့ မကြာခဏ လှမ်းမျှော်၍ ကြည့်သည်။

တနာရီ ထိုးချိန်အထိ ဂရမ်စီယာ၏ အရိပ်အရောင်မမြင်ရ။ နေ့လယ်စာ ပြင်ဆင်ပြီးကြောင်း မက်ဂ်ဒါလီးနား က လက်ဟန်ခြေဟန်ဖြင့် ပြ၍ လှမ်းခေါ်သည့်အခါ နီကိုလတ်စ်က သွားချင်စိတ်မရှိ၊ တွန့်ဆုတ် တွန့်ဆုတ်

http://www.shwezinu.com/



ဖြစ်လျက်ရှိသည်။ ဂျိုစီက မျက်နှာရိပ်မျက်နှာကဲပြ၍ သွားခိုင်းမှပင် ထသွားသည်။ မည်သို့ပင်ဖြစ်စေ သူ ထမင်းစား ခန်းထဲ၌ နေ့လယ်စာစားခိုက်တွင် သူ့မိတ်ဆွေ ဂျိုစီသည် ပြတင်းပေါက် တခုအနီး၌ ရောက်နေ သည်ကို သူသတိပြုမိသည်။

သူပြန်သွားသောအခါလည်း ဂျိုစီသည် အိမ်နှင့်အနီးဆုံးနေရာ တနေရာမှ မြက်ပင်များကို ဓားတလက်ဖြင့် ခုတ်ဖြတ် လျက်ရှိ၏။ သူ့မျက်နှာထားမှာ တစုံတခုကို စောင့်ကြည့်ပြီး သတိထားနေဟန် ရှိလေသည်။

သုံးနာရီထိုးတွင် အိမ်ရှေ့တံခါးမကြီးကို ဖွင့်၍ ဆင်ဝင်အောက်သို့ ထွက်လာသော ဂရေစီယာကို မြင်ရ သည်။ ကိုယ်ပေါ်တွင် ရှပ်အင်္ကျီနှင့် ဘောင်းဘီသာ ဝတ်ထားသည်။ ခြေထောက်တွင် ဖိနပ်စီး ထားသည်။ သူ့ရန်သူကို မြင်လိုက်သည်နှင့်တပြိုင်နက် နီကိုလတ်စ် တကိုယ်လုံး ထူပူလာသည်။ ဂရေစီယာ၏ ပုံပန်းမှာ အမူးပြေ သေးဟန်မတူ။ အခု အချိန်အထိ အိပ်ချင်မူးတူး ဖြစ်နေသည့်ပုံစံ။ ထိုအချိန်တွင် ဂျိုစီသည် ထိုင်၍ အလုပ်လုပ်နေရာမှ မတ်တပ်ရပ်လိုက်၏။ ဂျိုစီ ထရပ်သည့်အချိန် နှင့် ဂရေစီယာ နောက်သို့ လှည့်ကြည့် သော အချိန်မှာ တပြိုင်တည်းဖြစ်သည်။ ဂရေစီယာက ဂျိုစီနှင့် နီကိုလတ်စ်တို့အား စူးစူးဝါးဝါး ကြည့်နေ သည်။

ဂျိုစီကလည်း ဂရေစီယာအား စူးစူးရဲရဲပြန်ကြည့်သည်။ သူတို့ နှစ်ယောက်သည် အတန်ကြာမှ တယောက်ကို တယောက် မျက်လုံးချင်း

http://www.shwezinu.com/


ဆိုက်၍ စိုက်ကြည့်နေကြသည်။ နီကိုလတ်စ် တကိုယ်လုံး မှာ အေးစက် တောင့်တင်း လျက် ရှိ၏။ သူသည် ဂျိုစီနှင့် ဂရေစီယာတို့၏ စစ်အေးတိုက်ပွဲကို ဘေးမှ ရပ်၍ မျက်တောင် မခတ် ကြည့်နေမိသည်။ ဂျိုစီနှင့် ဂရေစီယာတို့သည် စကားတခွန်းမှမပြောပဲ တယောက်ကို တယောက် ကြည့်နေ ကြသည်မှာ တမိနစ်ခန့်တော့ ကြာမည်ဟု သူထင်သည်။ ထို့နောက် ဂရေစီယာ ၏ မျက်လွှာ များသည် အောက်သို့စိုက်ကျသွားသည်။ သူ့ပါးစပ်မှ ခပ်တိုးတိုး ရေရွတ်သည်။ ပြီးတော့ ထို့ကနဲ တံတွေး တချက် ထွေးလိုက်ကာ ကားရုံဘက်သို့ ထွက်သွားလေသည်။ ခဏနေတော့ မော်တော်ကား စက်စမ်းသံကို ကြားကြ ရလေ၏။

နီကိုလတ်စ်က ဂျိုစီမျက်နှာကို အားကိုးတကြီး မော့်ကြည့်သည်။ ဂျိုစီ၏မျက်နှာထားမှာ တည်ငြိမ် လျက် ရှိသော် လည်း နဖူးကြောများကတော့ ရှုံ့နေကြလေသည်။

'မင်းအဖေ ကနေ့ပြန်လာမှာလား နီကို'

' မလာသေးဘူး ဂျိုစီ၊ မနက်ဖြန်တောင် ပြန်ချင်မှ ပြန်လာဦးမှာ '

' ဒီလိုဆို မင်း ဒီည ဒီမှာပဲ အိပ်ချင်သလား၊ မင်း ဘယ်လိုစိတ်ကူးလဲ '

' ဟာ ... ကျွန်တော် မအိပ်ချင်ဘူး ဂျိုစီ၊ မအိပ်ရဲဘူးဗျ၊ ခင်ဗျားကကော ကျွန်တော့်ကို ဒီမှာပဲ အိပ်စေ ချင် သလား '

http://www.shwezinu.com/


တခဏမျှ ငြိမ်ဆိတ်သွားသည်။ ဂျိုစီသည် မြေပြင်ကို စိုက်ကြည့်ပြီး တွေဝေစဉ်းစားနေရာမှ နီကိုလတ်စ် အား ဖြတ်ကနဲ မော့်ကြည့်သည်။

' ဒီလို စဉ်းစားရ သိပ်ခက်တယ် နီကို၊ ငါ့ အနေကတော့ ကိုယ့်ဒုက္ခကိုယ် မရှာချင်ဘူး၊ ဒါပေမယ့် ... မင်းကို တယောက် တည်းထားခဲ့ဖို့ ဆိုတာကလဲ ... ငါ မလုပ်ရက်ဘူး၊ ဟို ... အကောင်ကြီးနဲ့ ငါ မထားခဲ့နိုင်ဘူး'

' ဒီလို ဆိုရင်တော့ ကျေးဇူးပါပဲ ဂျိုစီရာ၊ ခင်ဗျားကို ကျွန်တော် သိပ်ပြီး ကျေးဇူးတင်ပါတယ် ' ဟု နီကိုလတ်စ် က ဂမ်းသာအားရ ရေရွက်သည်။

ဂျိုစီကတော့ သိပ်ပြီး တက်တက်ကြွကြွ မရှိ။ သူ့အမူအရာမှာ ခပ်ငေးငေး ခပ်ငိုင်ငိုင်နှင့် အေးတိ အေးစက် နိုင်လွန်း လှ၏။

' ကျေးဇူးတင်ဖို့ မလိုပါဘူးကွာ၊ ရပါတယ်၊ ကနေ့တော့ အလုပ် ဆက်လုပ်နေလို့ မဖြစ်တော့ဘူး၊ မင်းလည်း ငါနဲ့ အတူတူ အိမ်ကို လိုက်မှာ မဟုတ်လား '

***************

http://www.shwezinu.com/

**အခန်း (၁၁)**

နီကိုလတ်စ်သည် ဂျူစီဘယ်မှာနေသည်ကိုမသိချေ။ စပ်စပ်စုစုလုပ်၍ မေးမြန်းစုံစမ်းခြင်း လည်းမပြုပေ။ သူ့အဖို့တော့ ဂျူစီဘယ်မှာ နေသည်ဟူသော အချက်က အရေးကြီးသည်မဟုတ်။ သူ့အနား၌ ဂျူစီ ရှိနေ ဖို့ သည်သာ လျှင် အဓိကလိုအပ်ချက်ဖြစ်၏။ အခုဆိုလျှင်သူသည် ဂျူစီနှင့်အတူ ဂရေစီယာ နှင့်ပေးရာ မြို့ဘက်သို့ ခြေကျင်လျှောက်နေကြပြီဖြစ်ရာ အပူအပင် အကြောင့်အကြ ကင်းမဲ့သွားပြီ ဖြစ်၏။ ရုတ်တရက် ချက်ချင်း ဖြစ်ပေါ်လာသော အပြောင်းအလဲကြောင့် နီကိုလတ်စ် သည် ယမန်နေ့ညက သူကြုံခဲ့ ရသမျှ ကို မေ့သွားခဲ့လေပြီ။

သူ့အာရုံသည် အခု သူလျှောက်သွားနေသည့် လမ်းမတလျှောက်ရှိ အရာဝတ္ထုများ အပေါ် ၌သာ စိတ်ဝင်စား နေပြီဖြစ်ရာ တလမ်းလုံး သူသိချင်တာမှန်သမျှကို ဂျူစီအား မေးမြန်းရင်း လိုက်ပါလာလျက်ရှိ၏။ အနက်ရောင် နှင့် အဖါရောင်ကွက်ကျားငှက်က ဘာငှက်လဲ။ လမ်းတဘက်တွင် ပွင့်နေသော ပန်းက ဘာပန်းလဲ .. စသည့် မေးခွန်းများ ဖြစ်သည်။ သို့သော်လည်း ဂျူစီမှာ သူ့အတွေးနှင့်သူ ဖြစ်၍ သူ့စကား များ ကို ကြားတချက် မကြားတချက်...။

ကွင်း တခုကို ဖြတ်မိသောအခါ ဂျူစီသည် လမ်းတဘက်ရှိ ဘုရားရှိခိုး ကျောင်း တကျောင်း၏ လှေကားထစ် များ အတိုင်း တက်သွားသည်။

http://www.shwezinu.com/



' မင်းဒီနေရာက ခဏစောင့်နေကွာ နီကို '

' ခင်ဗျားက ဘယ်သွားမှာလဲ '

' ငါသွားနေကျမဟုတ်တဲ့ နေရာတစ်ခုကိုသွားမလို့ပါကွာ ' ဟု ပြောကာ ဂျိုစီက ပြုံးသည်။

' ဒါပေမယ့် ဒီကနေ့ ဒီနေရာကို ငါသွားတာဟာ မှန်လိမ့်မယ် ထင်တယ်ကွ '

' ကျွန်တော်လည်း လိုက်ချင်တယ်ဗျာ '

ဂျိုစီ ဆုတ် ဆိုင်းဆိုင်း ဖြစ်နေသည်။ ပြီးမှ သူ့ပခုံးနှစ်ဘက်ကို တွန့်လိုက်ကာ ရှေ့မှနေ၍ တက်သွား သည်။

နီကိုလတ်စ် မျက်စိထဲတွင် ဘုရားရှိခိုးကျောင်းသည် ကြီးမားကျယ်ဝန်း လှသည်။ နေရာတိုင်းတွင် အမှောင်ရိပ် များ ယှက်သန်းနေသည်။ ပြီးတော့ ထူးခြားသော အနံ့ ...။ မွှေးကြိုင်လှသော ကတိုးနံ့.။ ခေါင်မိုး မျက်နှာကျက် အခုံးများပေါ်တွင် ရှေးဟောင်း ပန်းချီများ...။ ဘေးတဘက်တချက်စီတွင် အဆောင် ကလေးများ ထုတ်ထားသည်။ ထိုအဆောင်များထဲတွင် ဖယောင်းတိုင်မီးများသည် လင်းလက်နေကြသည်။ ဂျိုစီသည် အဆောင် ကလေးတခု ရှေ့သို့သွား ကာ တရိုတသေ ဒူးထောက်၍ ထိုင်သည်။ လက်နှစ်ဘက် ကို ယှက်၍ ဦးခေါင်းကို ငုံ့ထားသည်။ သူ့ ရှေ့တွင် မှန်ပုံးကြီး တပုံးရှိသည်။ ထိုမှန်ပုံးထဲတွင် အလွန်လှပသော ရုပ်တု တခု ရှိ၏။ ထိုရုပ်တု၏

http://www.shwezinu.com/



တပိုင်းမှာ အမျိုးသမီးဖြစ်၍ တပိုင်းမှာ ကလေးဖြစ်သည်။ ဂတ်ဆင်ထားသည့် အဂတ် အစား များမှာ အပြာရောင် ...။ တကကယ့်အဂတ်စ အစစ်များကို ချုပ်လုပ်၍ ဂတ်ပေးထား ခြင်းဖြစ်သည်။ ရုပ်တု၏ ဦးခေါင်းတွင် ရွှေနှင့်စိန်များ စီခြယ်ထားသော သရဖူ ဆောင်ထားလေသည်။

ဂျူစီသည် ရုပ်တုရှေ့တွင် ဒူးထောက်ထိုင်ကာ စက္ကန့်အနည်းငယ်ကြာမျှ ငြိမ်သက်နေသည်။ ထို့နောက် ရှေ့သို့ တိုးသွားပြီး မှန်ပုံးထဲသို့ ငွေစတပြားထည့်သည်။ မှန်ပုံးရှေ့ရှိ မှန်ခွက်တခုထဲ ၌အသင့်စိုက်ထားသည့် ဖယောင်းတိုင် တတိုင် ကိုလည်း မီးထွန်းသည်။

အပြင်သို့ ရောက်သောအခါ နီကိုလတ်စ်က ဂျူစီ၏ အရိပ်အခြည်ကို အကဲခတ်သည်။ ဂျူစီသည် ဤကိစ္စကို သူ့အား ရှင်းလင်းပြောပြချင်သည့် ဆန္ဒရှိပုံမရဟု သူတွက်သည်။ သို့သော်လည်း ဂျူစီ ရုပ်တုရှေ့၌ ထိုင်၍ ဆုတောင်း ခဲ့ခြင်းသည် သူ့အတွက် ဖြစ်လိမ့်မည်ဟု သူ့စိတ်က နားလည် နေသည်။ သူသည် ဂျူစီအား တချက် လှမ်းကြည့်သည်။

‘ ဖယောင်းတိုင်ဖိုး ကို ကျွန်တော် ပေးမယ်လေ ဂျူစီ ’

သူ့စကားကို ကြားသောအခါ ဂျူစီက ဟက်ဟက်ပက်ပက်ရယ်သည်။ သူ့ကျောကိုလည်း တရင်းတနှီး လှမ်းပုတ် သည်။ ဘာကြောင့် ထိုကဲ့သို့ ရယ်ရပါသနည်း။ ဒါကိုတော့ သူ နားမလည်။

http://www.shwezinu.com/



အခုဆိုလျှင် သူတို့သည် ကွင်းပြင်၏ မြောက်ဘက်ရှိ လမ်းသေးလမ်းမြွာများအပေါ် ရောက်နေကြပြီ။

သူ့အဖေနှင့် လာခဲ့ဖူးသည့် ပီလိုတာ ဘောလုံးကွင်းကိုပင် ကျော်ဖြတ်ခဲ့ကြပြီ။ အိမ် ကြို အိမ်ကြားရှိ လမ်းငယ် တခုမှ အထွက်တွင် ကော်ရီရင်တီ လမ်းမပေါ်သို့ရောက်သည်။ ထိုလမ်း မှာ လမ်းရှည်ကြီး တလမ်း ဖြစ်၍ မြစ်ဘက်သို့ မျက်နှာပြုထားသော်လည်း သန့်သန့်ပြန့်ပြန့်မရှိ။ လမ်းမကြီး၏ တဘက်တွင်မူ ပုံစံ အမျိုးမျိုး ထွက်နေသော အိမ်တန်းများ...။ တဘက်တွင် အများသုံး အဂတ်လှျော်ကန် တကန်...။ မြည်းအုပ် တအုပ်သည် သတ္တုခွက်ရှည်ကြီး တလုံးထဲမှ ရေများကို သောက်နေကြသည်။ မြည်းထိန်း ကတော့ မြစ်ကမ်းပါးပေါ်မှ ရပ်စောင့်လျက်ရှိ၏။ သူ့ခြေထောက် များတွင် ဖိနပ်စီးမလာ။

ပလက်ဖောင်းမှာ နေရာတိုင်းလိုလိုတွင် ပျက်စီးယိုယွင်းလျက် ရှိသည်။ ထိုပလက်ဖောင်းပေါ်ဂယ် ကလေး ပေါင်း မြောက်မြားစွာသည် ကစားလျက် ရှိကြလေသည်။ သူတို့ ကစားနည်းကို နီကိုလတ်စ် နားမလည်။ တကြိမ်တခါမှလည်း မမြင်ခဲ့စဖူး။ သူ့စိတ်တွင် အထူးအဆန်းတခုဖြစ်နေသည်။ မေးချင် စိတ်ဖြင့် ဂျိုစီ၏ မျက်နှာကို မော့ကြည့်သည်။ သို့သော်လည်း ဂျိုစီ၏ မျက်လုံးများသည် သူတို့ရှေ့ခပ်လှမ်း လှမ်း မှ အဂတ်ထုပ်ကြီး တထုပ်ခေါင်းပေါ် ရွက်ထားသော အရပ်ပုပု အမျိုးသမီးကြီး တဦးထံ ရောက် နေ သည်။ ဂျိုစီ ၏ ခြေလှမ်းများသည် မြန်လာသည်။



http://www.shwezinu.com/

' ဟို... ဟာ ငါ့အမေပဲ နီကို ' ဟု ပြောကာ သူ့အမေကို လှမ်းခေါ်သည်။

' မာရီ ယာ ... ၊ မာရီယာ ဆန်တီရို '

ခဏနှင့်ပင် ဂျူစီ အမေကို မီလာကြသည်။ ဂျူစီက သူ့အမေ ခေါင်းပေါ်မှ လျှော်ပြီးသား အဝတ် ထုပ်ကြီးကို လှမ်း ယူကာ ပခုံးပေါ် ထမ်းသည်။ သူ့အမေ နား နားကပ်၍ တိုးတိုး ... တိုးတိုးနှင့်ပြော ပြသည်။ နားဂင်အောင် ရှင်းပြနေရသည်မှာ လွယ်ပုံမပေါ်။

ဂျူစီ အမေ၏ မျက်နှာသည် အသွင် အမျိုးမျိုး ပြောင်းလျက်ရှိသည်။ ပထမတော့ အံ့အားသင့်ခြင်း။ နောက်တော့ မရေမရာနှင့် မဝေခွဲ နိုင်ခြင်း။ နောက်ဆုံးကျတော့ ထိတ်လန့်ကြောက်ရွံ့ခြင်း...။ သို့သော် လည်း နောက်ထပ် ဘာမှ ဆက်မပြောနိုင်သေးခင်မှာပင် သူတို့ သုံးယောက်သည် အလွန်ကျဉ်းသော လမ်းမြောင် ကလေး တခုအတွင်းသို့ ဂင်လာမိကြပြီး ချော့ကလက်ရောင် နံရံကြီးနှစ်ခုကြားရှိ ကျောက်လှေ ကား အတိုင်း တက်နေကြရသည်။ ထိုလှေကားထိပ်သို့ ရောက်သောအခါ ဂျူစီက အားနေသော သူ့ လက်တဘက်ဖြင့် တံခါးတချပ်ကို တွန်းဖွင့်လေသည်။

' ဟေး ... နီကို၊ ဒီဟာ ငါတို့ နန်းတော်ပဲကွ ' ဟု မြူးကြွသော လေသံဖြင့် ပြောသည်။

'အိပ်ခန်း ကတော့ နှစ်ခန်း ပဲ ရှိတယ်၊ ဒါပေမယ့် မြို့ရှုခင်းကိုတော့ ကောင်းကောင်း မြင်ရတယ်ကွ သိလား '

http://www.shwezinu.com/



သူတို့သည် အမိုးခပ်နိမ့်နိမ့် အိမ်ခန်းအတွင်းသို့ ဝင်ခဲ့ကြသည်။ အခန်းဖွဲ့ထားပုံမှာ ထူးခြားသည်။ မီးဖိုနှင့် ဧည့်ခန်းမှာ တဆက်တည်း။ တဘက်တွင် သံမီးဖိုတလုံး ချထား၍ အခြားတဘက် မျက်နှာ ချင်းဆိုင်တွင် အရောင် အဆင်း ကင်းမဲ့နေပြီ ဖြစ်သော ဆက်တီတစုံ ချခင်းထားသည်။

ထိုနှစ်ခု၏ အလယ်တည့်တည့် သစ်သားကြမ်းခင်းပေါ်တွင် ထမင်းစား စားပွဲရှည်တလုံးနှင့် ကုလားထိုင်များ ရှိသည်။ အစိမ်းရောင်ဖျော့ဖျော့ သုတ်ထားသည့် နံရံပေါ်တွင် ဓာတ်ပုံများ၊ ငှက်နှင့် လိပ်ပြာ ရုပ်တု များ၊ ပီလိုတာ ဘောလုံးပုတ်ခြင်းတစုံ၊ ပြက္ခဒိန်တခုနှင့် ဘုရားပုံတော်များ သူ့နေရာနှင့်သူ အဆင်ပြေအောင် ချိတ်ဆွဲ ထားသည်။ ပြတင်းပေါက်အနီးရှိ ခွေးခြေထိုင်ခုံ တလုံးပေါ်ဂယ် အဘိုးအို တဦးထိုင်နေသည်။ အဘိုးအို သည် အရိုးအပ်ရှည်ကြီးများဖြင့် သိုးမွေးအင်္ကျီထိုးလျက်ရှိသည်။ မီးဖို ပေါ်မှ တပွက်ပွက် ဆူ နေသော သံအိုးတလုံးကို စိတ်ဝင်တစား ရပ်ကြည့်နေသူမှာ မျက်လုံးနက်နက် ဗိုက်စူစူ နှင့် အသက် ဆယ့်နှစ် နှစ် အရွယ် မိန်းကလေးတယောက်…။

' ဟိုဟာက အဘိုးပက်ဒရို၊ ဒါက မက်ကွီတာ’

ဂျိုစီက ပခုံးပေါ်မှ အဝတ်ထုပ်ကိုချရင်း နီကိုလတ်စ် အား မိတ်ဆက် ပေးသည်။

' တခြား ကလေးတွေ ဘယ်သွားကုန်ကြသလဲ '

http://www.shwezinu.com/



'ကျောင်းကပြန်မလာကြသေးဘူး' ဟု မက်ကွီတာ ကဖြေသည်။ သူ့မျက်လုံးများ ကတော့ မီးဖိုပေါ် မှ အိုး ကိုသာ ကြည့်နေဆဲ။ ခဏနေတော့မှ လှည့် ကြည့်သည်။ သူ့အကြည့်သည် နီကိုလတ်စ်အပေါ် စူးစိုက်လျက် ရှိ၏။

' အစ်ကိုပြန်လာတာ စောတယ်နော် "

' အေး ... ဟုတ်တယ် ' ဟု ဂျိုစီကပြန်ပြောသည်။

ဂျိုစီအမေ မာရီယာသည် သူ့ကျောပေါ်မှ ခြုံထည်ကို မချွတ်သေး။ နီကိုလတ်စ်နှင့် ပတ်သက်နေသော ကိစ္စအတွက် စိတ်အေးဟန် မတူ။ ဂျိုစီအား လှမ်း၍ စကားတခွန်းပြောသည်။

' ကဲ ... လာပါဦး သားရယ် ...၊ တို့သားအမိ စကားပြောကြဦးစို့ '

သားအမိနှစ်ယောက် အခန်းတခန်းထဲသို့ ဝင်ရောက် သွားကြသည်။

သူတို့ ဝင်သွားခိုက်မှာပင် လှေကားဆီမှ အပြေးအလွှား တက်လာနေသော ခြေသံများကို နီကိုလတ်စ် ကြား ရ သည်။

ထို့နောက် အခန်းတံခါးပွင့်သွားပြီး အိမ်တွင်းဖြစ် လက်ချုပ် ဂါဝန်ကလေးများ ဝတ်ထားသည့် မိန်းကလေး လေးယောက် အလုအယက် တိုးဝှေ့ဝင်လာကြသည်ကို မြင်ရ လေ၏။ သူတို့ လက်ထဲတွင် စာအုပ် ကလေး တွေ ကိုယ်စီ ကိုင်လျက်..၊ နီကိုလတ်စ်မှာ ထူပူလျက်ရှိ၏။ သူ့ဘဝ တသက်တာတွင် အခုအချိန်အထိ ဤမျှလောက် များပြားသော မိန်းကလေးများကို မတွေ့ခဲ့စဖူး။ ဘာပြော၍ ဘာလုပ်ရမှန်းလည်း မသိ။ ရှက်စိတ်ဖြင့် နံရံပေါ်မှ

http://www.shwezinu.com/

လိပ်ပြာရုပ်တုများကိုသာမဲ၍ ကြည့်နေမိသည်။ ကံအားလျော်စွာပင် အဘိုးအိုက လှမ်း၍ ကြည့်နေမိသည်။ ကံအားလျော်စွာပင် အဘိုးအိုကလှမ်း၍ စကားပြောလိုက်သဖြင့် သူ့မှာ နေသာ ထိုင်သာ ဖြစ်သွားသည်။

‘ မင်းနာမည် ဘယ်သူလဲ ဆီဉော် … ‘

‘ နီကိုလတ်စ်…’

‘ ဟောဒီ လေးယောက်က ဂျိုစီရဲ့ နမလေးတွေပဲ၊ သူက ဂျူအာနာတဲ့၊ အငယ်ဆုံး၊ အသက်က ငါး နှစ်၊ သူကတော့ လူဂီဆာတဲ့၊ အသက်ခုနစ်နှစ်၊ ဟောဟိုဟာက အီလီနာ ကိုးနှစ်မပြည့်သေးဘူး၊ ပြီးတော့… အဆိုးဆုံး တယောက်က ဘီယန်ကာ၊ သူက မက်ကွီတာထက် နှစ်နှစ်ပဲ ငယ်တယ် …’

ကလေးအားလုံးသည် နီကိုလတ်စ်အား ဝိုင်းအုံပြီး ကြည့်နေကြသည်။ ကြောက်ခြင်းလန့်ခြင်း မရှိ။ သူ့အား အထူးအဆန်း တယောက်သဖွယ် စေ့စေ့စပ်စပ် လေ့လာလျက်ရှိကြသည်။ သူ့နက္ကတိုင်ကို ကိုင်ကြည့် သူက ကိုင်ကြည့်သည်။ သူ့ဘောင်းဘီကြိုးသိုင်းကို ဆွဲသူက ဆွဲကြည့်သည်။ ပြီးတော့ သူ့ဖိနပ်ကြီးများ…။ သူတို့ ပါးစပ်များ ကလည်း အငြိမ်နေ။ တယောက်တပေါက် လျှောက်မေးကြလေသည်။

' ဘယ်တုန်းက ရောက်လာတာလဲ…'

' ဒီကိုလာတာ ဘာလုပ်မလို့လဲ '

' နင်က ဘယ်သူလဲ …'

http://www.shwezinu.com/


နောက်ဆုံးမေးခွန်းကို ထုတ်လိုက်သူမှာ အဘိုးပက်ဒရိုက အဆိုးဆုံးဟု ပြောခဲ့သော ဘီယန်ကာ ဖြစ်သည်။

' ငါက ... မစ္စတာ ဟာရင်တန် ဘရန်းဒီးရဲ့ သား...၊ သူက စပိန်နိုင်ငံမှာ လာနေရတဲ့ အမေရိကန် ပြည်ထောင်စု ကောင်စစ်ဝန် '

' အေး... အေး ဟုတ်တယ်...' ဟု လူဂီဆာက ကြောက်လန့်သော အမူအရာဖြင့် ရေရွက်သည်။

' ဒီ ...ဆီညော် ကလေး က အမေရိကာနီးလူမျိုးပဲ၊ တို့အစ်ကို ဂျိုစီ ရဲ့ သခင်ကြီး သားပေါ့ '

ကလေးအားလုံး နောက်သို့ ဆုတ်ခွာသွားကြသည်။ နီကိုလတ်စ်၏ မျက်နှာသည် ရှက်စိတ်ဖြင့် နီရဲ လျက်ရှိလေသည်။ သူတို့ပြောနေကြသည်မှာ သူ့အကြောင်းပင် ဖြစ်ရမည်။ ထိုအခိုက်မှာပင် ဂျိုစီတို့ သားအမိ အခန်းထဲမှ ပြန်ထွက်လာကြသည်။ နှစ်ဦးစလုံး၏ မျက်နှာများမှာ သာသာယာယာရှိကြ သည်။ မဆိုစလောက် သောကအရိပ်အငွေ့ကလေးကတော့ ဂျိုစီ၏ မခင်မျက်နှာတွင် ရှိနေသေး၏။

' ကဲ...လာကြ၊ ညနေစာ စားကြမယ်'

ဂျိုစီအမေ မာရီယာက အားလုံးကိုခေါ်သည်။ နီကိုလတ်စ်ကိုပါ ပြုံး၍ ထိုင်ကြသည်။

http://www.shwezinu.com/



မာရီယာက အိုးကြီးတလုံးကို ရင်ခွင်ထက်တင်၍ ပွေ့ထားသည်။ သူ့လက်များမှာ အဂတ်လျှော်ရလွန်း အားကြီး၍ ပဲကြီးရေစိမ်ကဲ့သို့ ဖြူဖွေးတွန့်လိမ်နေကြသည်။ လက်သည်းခွံ များမှာလည်း သွေးရောင် ပင် မမြင်ရ။ နူးပွဖြူဆွတ်နေသည်။ သူသည် အိုးထဲမှ ရေလုံပြုတ်ဟင်းကို ပန်းကန်ပြားထဲသို့ တဖွန်းစီ အညီအမျှ လိုက်ထည့် ပေးသည်။ စားပွဲထိပ်မှ ထိုင်နေသော ဂျိုစီသည် မြစ်ဘက်သို့ ငါးမျှားထွက်စဉ်က နီကိုလတ်စ် စားခဲ့ရဖူးသည့် ပေါင်မုန့်ကြမ်းမျိုး တလုံးကို လှီးလျက် ရှိ၏။ ထို့နောက် လူဂီဆာက ဘုရားသခင်အား ကျေးဇူးတင် စကားရေရွက်သည်။ ပြီးမှပင် အစား အစာကို စားကြလေသည်။

သူတို့ အစားအစာတွင် အချဉ်ရည်မပါ။ ပိုင်အရက်မပါ။ ထောပတ်မပါ။ ထောပတ်အစား အပေါ်စား သံလွင်ဆီ ကို ပေါင်မုန့်ကြမ်းတွင် ခပ်ပါးပါးကလေး ပါသည်ဆိုရုံမျှ သုတ်၍ စားကြသည်။ ရေလုံပြုတ် ဟင်းထဲ ၌ အမဲသားစ အနည်းငယ်တော့ ပါပါ၏။ သို့သော်လည်း ထိုအမဲသားစမှာ အပေါ်စား အညှံ့ စား အဆီ နှင့် အရွတ်များသာဖြစ်၍ ပါသည်ဆိုနိုင်ရုံမျှသာ ပါခြင်းဖြစ်သည်။ မျက်စိကိုဖြဲ၍ မနည်းကြီး ရှာနိုင် မှ တဖတ်စ နှစ်ဖက်စသာ ရနိုင်သော အမဲသားစ ဖြစ်လေသည်။ မည်သို့ပင်ဖြစ်စေ ကြက်သွန် နီ နမ်းချင်း ထည့်၍ ပြုတ်ထားသောရေလုံပြုတ်ဟင်းရည်မှာ အနံ့အရသာနှင့် ပြည့်စုံလှချေသည်။ နီကိုလတ်စ်အဖို့တော့ ဘယ် အချိန် ဘယ်ကာလကမှ မစားခဲ့ရဖူးသော အလွန်အရသာထူးသည့် ဟင်းကောင်းတခွက် ဖြစ်နေ ပေသည်။

http://www.shwezinu.com/



မာရီယာသည် အားလုံး၏ အရိပ်အခြည်ကို ကြည့်၍ သူအနည်းဆုံး စားသည်ကို နီကိုလတ်စ် သတိ ထားမိ သည်။ အဘိုးပက်ဒရီ ကလည်း မာရီယာ လိုပင်ဖြစ်သည်။ နောက်ထပ် ထပ်ထည့်သည်ကို မတွေ့ရ။ တအိမ်လုံး တွင် ဂင်ငွေအကောင်းဆုံးရှာနိုင်သည့် ဂျိုစီ တယောက်ကိုသာလျှင် နောက် တကြိမ် ထပ်ထည့် ပေးသည်ကို တွေ့ရသည်။

နီကိုလတ်စ်သည် အိမ်သားများ အခြေအနေကို ကြည့်၍ သူကိုယ်တိုင်လည်း နောက်ထပ်မထည့်။ ထို့နောက် ပါကွီတာ သည် ထိုင်ရာမှ ထသွားကာ မီးဖိုပေါ်မှ ကရားကြီး တလုံးကို ယူလာပြီးမည်း နက်နေသော ကော်ဖီ ကို တခွက်စီ လိုက်ငှဲ့ပေးသည်။ ကော်ဖီ အရောင်အဆင်းမှာ သောက်ချင်စရာ မရှိ။ အနံ့ကလည်း မီးခိုးနံ့ သင်း သည် ဟု နီကိုလတ်စ် နားလည်ထားသည်။ သို့သော်လည်း သူပြော၍ မဖြစ်။ ဣန္ဒြေမပျက်ပင် သူ့ရှေ့မှ ကော်ဖီ ပန်းကန်ကိုယူ၍ သောက်သည်။ သူမကြိုက်ကြောင်း တခြား လူတွေရိပ်မိကုန်မည်ကို စိုးရိမ် သဖြင့် မျက်နှာကို မရှုံ့မိစေရန် အောင့်ထားလေသည်။

ကော်ဖီသောက်ယင်း စကားစမြည်ပြောကြသည်။ ကလေးများက သူတို့ကျောင်း၌ ကြုံခဲ့ရသည့် တနေ့တာ အတွေ့ အကြုံများကို တယောက်တပေါက် ပိုင်းပြောကြသည်။ ပြောယင်းမှလည်း သူတို့၏ ဧည့်သည် နီကိုလတ်စ် အား မကြာခဏ လှမ်း၍ ...လှမ်း၍ ကြည့်တတ်သည်။ မာရီယာက ပါကွီတာအား သူ ယနေ့ ဆိုင်တဆိုင်၏ မှန်ဗီရိုထဲတွင် မြင်ခဲ့ရသည့် အစိမ်းရောင် ဂတ်စုံအကြောင်း ကိုပြောပြနေသည်။

http://www.shwezinu.com/


ဂျိုစီကတော့ ကုလားထိုင်တွင် ကျောမှီကာ သူ့အဘိုးပက်ဒရိုနှင့် ပီလိုတာ ဘောလုံးပွဲအကြောင်း ပြောနေ ကြသည်။ အထူးသဖြင့် နောက်တကြိမ် ဟူစကားအသင်းနှင့် ထပ်မံ ကစားရဦးမည့် သူတို့ ဆန်ဂျော်ဂျီ အသင်း နိုင်ခြေ ရှိ မရှိ ဆွေးနွေး ပြောဆိုလျက် ရှိကြသည်။ ရှက် စိတ်ဖြင့် မှုန်ထူနေသော နီကိုလတ်စ် တယောက် သာလျှင် နှုတ်ဆိတ်လျက်ရှိ၏။ အခြေအနေကို ရိပ်စားမိသော ဂျိုစီက နီကိုလတ်စ်အား စကား ပြောလာ အောင် ရေလာမြောင်းပေးလုပ်သည်။

' မင်းကော ဘယ်လိုထင်သလဲ နီကို '

နီကိုလတ်စ်က သက်ပြင်းတချက် ရှူလိုက်၏။

' ပြီးခဲ့တဲ့ ပွဲတုန်းက ကစားသလိုသာ ခင်ဗျား ကစားမယ်ဆိုရင်တော့ ခင်ဗျားတို့ ဘက်ကနိုင်မှာ သေချာ ပါတယ်။ '

သူသည် စကားကို ဆက်မပြောပဲ ရပ်ထားသည်။ သို့သော်လည်း သူ့စိတ်ထဲ၌ ဖြစ် ပေါ်လာသည့် အတွေး ကိုတော့ သူ ထုတ်ဖော်မပြောပဲ မနေနိုင်။

' ခင်ဗျား မြို့ကြီးတွေ တက်ပြီး ကစားဖို့ ကောင်းတယ်ဗျ၊ ဒါဆိုရင် ငွေတွေ အများကြီး ရမှာ '

ဂျိုစီပြုံးလေသည်။

http://www.shwezinu.com/



'ငါက မြို့ကြီးတွေပေါ် တက်ကစား နိုင်လောက်အောင် မကျွမ်းကျင်သေးဘူးကွ၊ ပြီးတော့လဲ ငါက မြို့ကြီး တွေမှာ မနေချင်ဘူး၊ အသက်ရှုကျပ်ပြီး သေမှာ၊ ငါက တောပိုင်းမှာ ပျော်တဲ့ကောင်၊ လေကောင်း လေသန့် လဲရတယ်၊ ငါးမျှားလို့လဲရတယ်၊ ဘယ်လောက် ဟန်ကျသလဲ '

' အဘိုး တို့ ဆန်တီရိုမျိုးတွေက ပီလိုတာ ဘောလုံးကို မျိုးနဲ့ ရိုးနဲ့ ချီပြီး ကစားခဲ့ကြတာကွဲ့၊ ဒါပေမယ့် ငွေရဖို့ ကစား ကြတာ မဟုတ်ဘူး၊ သက်သက် ဂါသနာပါတဲ့ အားကစားတခု အနေနဲ့ ကစားခဲ့ကြတာ'ဟု ပက်ဒရိုက လေအေး ကလေးဖြင့် ဂင်ပြောသည်။

'ဂျိုစီအဖေဟာ နာမည်ကြီး ပီလိုတာဘောလုံးသမား တယောက် ပေါ့...၊ ဟောဟိုမှာ သူ့ဓာတ်ပုံ'

အဘိုးအိုက နံရံပေါ်မှာ မုတ်ဆိတ်မွေး စစနှင့် ခပ်တုတ်တုတ် ခိုင်ခိုင် လူတယောက် ၏ ဓာတ်ပုံကိုညွှန်ပြသည်။

' အဘိုးတောင်မှ ငယ်ငယ်တုန်းက ပွဲကြည့် ပရိသတ် သဘောကျအောင် အသုံးတော်ခံခဲ့တဲ့ ပီလိုတာ ဘောလုံး သမားတယောက်ဖြစ်ခဲ့သေးတယ် '

' အဘိုးဟာ ကျွန်တော်တို့ မိသားစုထဲမှာ အကောင်းဆုံး ဘောလုံးသမားပါ အဘိုးရာ' ဟု ဂျိုစီက ဂင် ပြောသည်။

' တခါလောက်တော့ အဘိုးတို့ ဇာရောစာအသင်းနဲ့ ကစားခဲ့ကြတဲ့ ပွဲအကြောင်း နီကိုလတ်စ်ကို ပြောပြ ပါလား '

http://www.shwezinu.com/



အဘိုးအိုက နစ်နစ်မြိုက်မြိုက် ပြုံးသည်။

' ကနေ့ ညနေခင်း လေ့ကျင့်ဖို့ သွားဦးမယ် မဟုတ်လား ' ဟု အဘိုးအိုကမေးသည်။

' ဂျေဗီကတော့ သူ ကစား ကွင်းမှာ ရှိမယ်လို့ မှာထားတယ် '

ဂျိုစီက ခေါင်းခါသည်။

' ကျွန်တော် ကနေ့ည နီကိုနဲ့နေရဦးမယ်၊ ဟေး ... ငှက်ကျားလေးတွေ...၊ မင်းတို့ စကားပဲ များနေကြ တယ်၊ ကနေ့ည ဖဲမကစားကြတော့ဘူးလား၊ ငါတို့ ဧည့်သည် အမေရိကာနီ လူမျိုးကြီးကို ငါတို့ ဘယ် လောက် တော်တယ်ဆိုတာ ပြကြရအောင် '

ဂျိုစီ၏ စကားကို သဘောကျလွန်းသဖြင့် ကလေးအုပ်စုသည် ဆူညံဆူညံ ဖြစ်သွားသည်။ ဘီယန်ကာ သည် စားပွဲ တလုံးဆီသို့ ပြေးသွားကာ အံဆွဲထဲမှ ဖဲထုပ်ဟောင်း တထုပ်ကို ဆွဲထုတ်သည်။ ထမင်း စား စားပွဲ ပေါ်မှ ပန်းကန်များကို တယောက်တလက် ဝိုင်းသိမ်းကြသည်။ ကစားပွဲတွင် မာရီယာ ကတော့မပါနိုင်။ သူ့မှာ အဂတ်ခြောက်များ ခေါက်စရာအလုပ်၊ အဂတ်ဟောင်းများ ဖာထေးစရာ အလုပ်များ ရှိနေသည် ဟုဆိုကာ စားပွဲမှ ထသည်။ ကျန်လူစုကတော့ ကစားဝိုင်းတွင် ပွက်စီ...ပွက်စီ နှင့် ကျန်ခဲ့ကြလေ၏။

http://www.shwezinu.com/



ဖဲကစားနည်းမှာ ရှိုးရှိုးရှင်းရှင်းကလေးဖြစ်၍ တပွဲ နှစ်ပွဲ ကစားမိသည်ဆိုလျှင် နီကိုလတ်စ် နားလည် သွားသည်။ ကစားဝိုင်းတွင် အသံတစာစာနှင့် ရယ်တတ်သူမှာ ဂျူအာနာ...။ ဖွင့်ထားသော ပြတင်း ပေါက်မှ နေ၍ အပြင် လောကမှ အသံဗလံများသည် အဆက်မပြတ် ဝင်လာလျက်ရှိ၏။ မြို့ဘက်မှ တဂီဂီ အသံများ...။ မြစ်ဘက်မှ လမ်းလျှောက်ထွက်သူများ၏ ခြေသံများ...။ ညနေထုတ် ဂေစီးတား သတင်းစာ အော်ဟစ် ရောင်းချနေသံများ...။ တချွန်းချွန်း၊ တခြိမ်းခြိမ်းမြည်နေသော လက်တွန်း လှည်းတွန်းသံများ။ တပြိုင် တည်း ထိုးလိုက်သော ခေါင်းလောင်းသံများ။

မှောင်စပျိုးလာသည့်အခါ လမ်းမတလျှောက်ရှိ လမ်းမီးတိုင်များသည် လင်းလာကြသည်။ မြို့ဘက်မှ ဆိုင်းဘုတ် တခုသည် မှိတ်လိုက် လင်းလိုက်...။ ပတ်ဂန်းကျင် တခုလုံး သာတောင့်သာ ယာမှုသည် အသက် ဝင်နေသည်။ ဤလှုပ်ရှားမှုများကြားတွင် သူ့ဘဝအတွက် အာမခံချက်သည် ရှိလာသည်။ နေရ ထိုင်ရ သည်မှာ လုံခြုံမှုရှိလာသည်။ အခန်းထဲရှိ လူအားလုံး၏ ပွင့်လင်းရင်းနှီးမှု သည် နီကိုလတ်စ်၏ စိတ်ကို ထိထိခိုက်ခိုက် ရှိလွန်းလှချေသည်။ ကြောက်စရာလန့်စရာ၊ စိတ် ချောက်ချားစရာ ဖြစ်ရပ်များသည် ပျောက်ကွယ် သွားသည်။ သာယာခြင်း ပျော်ရွှင်ခြင်း၊ ကြည်နူးခြင်း ချမ်းမြေ့ခြင်း စသော ခံစားမှုများသည် သူ့စိတ် ကို ရစ်ပတ်ဖွဲ့နှောင်လာသည်။

ယခုလို စုတ်စုတ် ချာချာနိုင်လွန်းသော ဤအိမ်မျိုးအတွင်း၌ မြင်နိုင် တွေ့နိုင်၏။ ဤမျှလောက် အောက်တန်း ကျ၍ ဤမျှလောက် နိမ့်ကျသော

http://www.shwezinu.com/



သာမန် လက်လုပ်လက်စား ဆင်းရဲသား မိသားစုတစု၏ ကြားတွင် သူ့ စိတ်မှာ သာယာပျော်ရွှင်ခြင်းနှင့် ကြည်နူး ချမ်းမြေ့ခြင်းဟူသော အရသာကို ရရှိခံစားနေရ၏။ တကယ်မှ ဟုတ်ပါလေစ။ နီကိုလတ်စ် အနေဖြင့် ဘာကြောင့် သူအခုလို ဖြစ်ရသည်ကို အပင်ပန်း ခံ၍ မစဉ်းစား။

အခါအခွင့်သင့်၍ ရလာသည့် အခွင့်အရေးကို အပြည့်အဝသုံးကာ ပျော်ရွှင်မှုတည်း ဟူသော ရေလျဉ်ကြောတွင် မျောပါသွားသည်။ သူ့မျက်လုံး အစုံသည် ကြည်လင်တောက်ပနေကြ သည်။ သူ့ရယ်သံ သည် သွက်လက် မြူးကြွနေသည်။ သူသည် စိတ်ပါလက်ပါပင် ဖဲချပ်များကို ကောက်လိုက် ပြန်ပစ် ချလိုက်...။

မည်မျှ ကြာကြာ ကစား နေမိကြသည်ကို သူ သတိမထားမိ။ ပြူတင်းပေါက် အနီးတွင် ထိုင်၍ အဂတ် များ ဖာထေး နေသည့် ဂျိုစီ၏ အမေ မာရီယာ ထလာခါမှပင် ကိုးနာရီ ထိုးလုနီးနေမှန်း သိကြလေ တော့သည်။

'ကစားပွဲ မသိမ်းကြသေးဘူးလား ' ဟု မာရီယာက အသံအေးအေးဖြင့် လှမ်းမေးသည်။

' အိပ်ကြ ဖို့ အချိန် တော်ပြီထင်တယ် '

မာရီယာက လှမ်း၍ သတိပေးလိုက်ချိန်တွင် နီကိုလတ်စ်မှာ ကစားပိုင်းတွင် မဲနေခိုက်ဖြစ်သည်။ အများ နည်းတူ အော်ကြီးဟစ်ကျယ် ရယ်မောနေချိန် ဖြစ်ရာ ရုတ်တရက် အငိုက်မိခံရသလို ဖြစ်သွားသည်။ သူသည်

http://www.shwezinu.com/

ပါးစပ်အဟောင်းသားဖြင့် မာရီယာကို မော့ကြည့်နေမိလေသည်။ ဤမျှလောက် ကျဉ်းမြောင်း သော အိမ်ထဲတွင် သူတို့လူစု ဘယ်လိုပုံဖြင့် အိပ်ကြရပါမည်နည်း။ အထူးသဖြင့် ဧည့် သည်ဖြစ်နေသော သူ့အတွက် အိပ်စရာနေရာ ရှိနိုင်ပါမည်လော။ ဒီအချိန်ကျမှတော့ သူ့ကို ကာဆာ ဘရီဇာ အိမ်ကြီးသို့ ပြန်သွား ပါတော့ဟု ပြောကြလိမ့်မည်မထင်။

သူ့ မျက်နှာရိပ် မျက်နှာကဲကို အကဲခတ် မိဟန်တူသော ဂျီစီက အားရပါးရ ရယ်သည်။

' စိတ်မပူပါနဲ့ကွ နီကိုရ၊ မင်းဟာ အလွန်ပူတတ်တဲ့ ကောင်းကလေး တယောက်ပါလား...၊ ငါတို့မှာ အိပ်စရာ နေရာတွေရှိပါတယ်၊ ဟောဒီမှာကြည့် '

ဂျီစီက သူ့ကုလားထိုင်တွင် ခြေပစ်လက်ပစ် မှီချလိုက်ပြီး အတွင်း ဘက် အခန်းတခန်းကို လက်ညှိုးထိုးပြသည်။

' အမျိုးသမီးအားလုံး အဲဒီ အခန်းထဲ မှာ အိပ်ကြတယ် '

နီကိုလတ်စ်က ဂျီစီ ညွှန်ပြသော အခန်းကို လှည့်ကြည့်သည်။ အခန်းထဲတွင် ခုတင်နှစ်လုံးနှင့် ပြည့် လျက်ရှိ လေသည်။

' ဒါပေမယ့် ... ကျွန်တော်တို့က ဘယ်မှာ အိပ်ရမှာလဲ '

ဂျီစီက မာရီယာအား ရပ်လျက်ရှိ၏။ သူသည် လက်တဘက်ဖြင့် ခန်းဆီးအစကို ဆွဲဖယ်နေသည်။ ခန်းဆီး နောက်မှ အိပ်ရာတခုပေါ်လာသည်။ နံရံတွင် ခပ်ချထားသည့် သေတ္တာများနှင့် ပြုလုပ်ထားသော အိပ်ရာ...၊

http://www.shwezinu.com/

မာရီယာသည် ထိုအိပ်ရာပေါ်သို့ အဂတ်သန့်သန့်များ ထပ်ခင်းလျက်ရှိလေသည်။

' ပက်ဒရိ နဲ့ ငါနဲ့ ညတိုင်း ဒီပေါ်မှာ အိပ်တယ် ' ဟု ဂျူစီက ရှင်းပြသည်။

'ဒါပေမယ့် ကနေ့ညတော့ မင်းနဲ့ ငါနဲ့ အိပ်ရမယ်။ အဘိုးက ဟိုခုံရှည်ပေါ်မှာ အညောင်းဆန့်ရမယ်နော် ...အဘိုး'

' ဒါပေ့ါကွ၊ ရပါတယ်' ဟု ပက်ဒရိက ကျေကျေနပ်နပ် ပြန်ဖြေသည်။ ' ခုံရှည်ပေါ်မှာလဲ ဇိမ်ကျပါတယ်ကွ '

နီကိုလတ်စ် သက်ပြင်းချသည်။ သူ့တသက်တာတွင် တခြားလူတဦးနှင့် တအိပ်ရာတည်းတွဲ၍ အိပ်ခဲ့ဖူး သည်မဟုတ်။ အခုညတော့ဖြင့် အိပ်ရပေတော့မည်။ ထိုအတွေးဂင်လာသောအခါ တကိုယ်လုံး ယားသလို ဖြစ်လာသည်။ သူ့အဖြစ်ကို မည်သူမှ သတိထားမိကြပုံတော့မပေါ်။

ညီအစ်မငါး ယောက်သည် အိပ်ရာဂင်ကြတော့မည်ဖြစ်၍ သူ့လက်ကို တယောက်စီ လာဆွဲ၍ နှုတ်ဆက် နေကြ သည်။ ထို့နောက် သူတို့ မိခင်မာရီယာနောက်မှ လိုက်သွားကြသည်။ အဘိုးပက်ဒရိသည် ငါးမိနစ် ခန့် အပြင်ထွက်၍ ခြေညောင်း လက်ဆန့် သဘောဖြင့် လမ်းလျှောက်နေသည်။ ဂျူစီကတော့ သေတ္တာ တလုံးဘေး၌ ပုံထားသည့် စာအုပ် ပုံပေါ် မှ မဂ္ဂဇင်း တစောင်ကိုဆွဲယူပြီး တောင်လှန် မြောက်လှန် လုပ်နေ သည်။

http://www.shwezinu.com/

နီကိုလတ်စ်သည် ဆုတ်ဆိုင်းနှင့်ပင် အဂတ်အစားများကိုချွတ်၍ ကုလားထိုင်တလုံးပေါ် လှမ်းတင် သည်။ ရှက်စိတ်ဖြင့် တွန့်ဆုတ်တွန့်ဆုတ် ဖြစ်လျက်ရှိ၏။ ဂျိုစီကတော့ သူ့ကိုမကြည့်။ သူ့အမေအား စကား တခွန်း နှစ်ခွန်း လှမ်းပြောပြီး အိပ်ရာအောက်မှ ပစ္စည်းတခုကို ယူပေးသည်။ မာရီယာက နီကိုလတ်စ်၏ နောက်မှ လာရပ်ပြီး ဂျက်ကက် အင်္ကျီကြီး တထည်ခြုံပေးသည်။

အင်္ကျီမှာ လူကြီးဂတ်ပုံဆန်းဆန်း၊ သို့သော်လည်း ကျကျနန လျှော်ဖွက်ထားသဖြင့် သန့်သန့်ပြန့်ပြန့် ရှိသည်။ နီကိုလတ်စ်က အင်္ကျီကို လက်နှစ်ဘက်ဖြင့် လျှိုပြီး အလိုက်သင့် ဂတ်လိုက်သည်။ လည်ပင်းနှင့်ခါး မှ ကြယ်သီးများကို တပ်လိုက်သည်။ အခုလို ဆိုတော့လည်း အဆင်ပြေသွားလေသည်။ ခြုံစရာ စောင်မလို။ ဤအင်္ကျီတထည်တည်းနှင့် လုံလောက် သွားပြီ။ သူသည် အိပ်ရာပေါ်တက်ကာ နံရံကို ကျောနှင့်ကပ်၍ လှဲ လိုက်လေ၏။

အပြင်ဘက်တွင် လမ်းလျှောက်နေသော အဘိုး ပက်ဒရို အိမ်ထဲ ပြန်ဂင်လာသည်။ အခန်းထဲတွင် ခဏမျှ လမ်းသလားနေသည်။ ပါးစပ်မှလည်း တွတ်တွတ် တွတ်တွတ်နှင့် စကားပြောလျက်ရှိ၏။ တယောက် တည်း ပြောနေခြင်း...။ ထို့နောက် ခုံရှည်ပေါ် လဲလျောင်းသံကို ကြားရသည်။

ဂျိုစီကတော့ မဂ္ဂဇင်း စာအုပ်နှင့် ကုလားထိုင်တွင် ထိုင်နေဆဲ၊ ထိုင်ရာမှ ထရပ် လိုက်သောအခါ အားရပါးရ တချက်မျှ သမ်းလိုက်သည်။

http://www.shwezinu.com/



ကုန်းလိုက်ကွလိုက်နှင့် လေ့ကျင့်ခန်းအနည်းငယ် လုပ်ပြီးမှ ဖိနပ်များကို ချွတ်သည်။ ထို့နောက် မီးကိုပိတ်သည်။ နောက်တမိနစ် နှစ်မိနစ်ခန့်အကြာတွင် ဂျိုစီ သည် အိပ်ရာထဲသို့ ရောက်လာ လေ၏။

နီကိုလတ်စ် အိပ်မပျော်သေးမှန်းကို သူသိနေသည်။

'မင်း အိပ်ရတာ အဆင်ပြေရဲ့လား ... နီကို...၊ သိပ်များကျဉ်းကျပ်နေသလား '

' မကျပ်ပါဘူး ... ရပါတယ် '

တဖြည်းဖြည်းနှင့် နီကိုလတ်စ်၏ ကိုယ်ခန္ဓာပေါ်ရှိ အကြောအချဉ်များသည် ပြေစပြုလာသည်။ သေတ္တာ အိပ်ရာ သည် ပျော့ပျောင်း နူးညံ့လာသည်။ စည်းစိမ်ရှိလာသည်။ သူသည် စိတ်အေးနား အေးပင် အိပ် ပျော်ခြင်း သို့ရောက်သွားလေ၏။

***************

http://www.shweizinu.com/



## အခန်း (၁၂)

ထိုအချိန်တွင် ကောင်စစ်ဝန် ဟာရင်တန်ဘရန်းဒီးသည် သူ့အိမ်၌ ပေါ်ပေါက်နေသည့် အဖြစ်အပျက်များကို လုံးဝမသိပဲ ဘာစီလိုးနားမြို့ ဗဟိုဘူတာကြီးသို့ဆိုက်ရပ်သည့် အရှေ့ပိုင်း ဒေသသွား မီးရထားပေါ်မှ သူ့လက်ဆွဲသေတ္တာကို ဆွဲ၍ ဆင်းလာသည်။ သူသည် တည်ညံ့တစာစာ အော်ဟစ်နေကြသော မီးရထား အလုပ်သမားများကြားမှ တိုးဝှေ့ကာ အီစတာစီယွန် ဟိုတယ်ဘက်ထွက်ရာ မီးရထား ခုံးတံတားအတိုင်း လျင်မြန်စွာ လျှောက်လာသည်။ ပျင်းတိ ပျင်းတွဲ ဖြစ်နေသော ဟိုတယ်စာရေးသည် သူ့အတွက် ဒုတိယ ထပ်မှ အခန်းတခန်းကိုပေးသည်။

အခန်းမှာ ဆင်ဂင်ဘက် မျက်နှာပြုထားသည့် အခန်းဖြစ်၍ အခန်းကောင်း မဟုတ်ပေ။ သူ့နဂိုမူလ စိတ် အတိုင်း ဆိုလျှင် ဤအခန်းမျိုးကို ချပေးပါက ဒေါပွမည်ဖြစ်၏။ ချပေးသူစာရေးနှင့်လည်း အကြီး အကျယ် စကားများ ကြမည်ဖြစ်၏။ သို့သော်လည်း အခုတကြိမ်တွင်မူ သူသည် စာရေးနှင့်ဖက်ပြိုင်၍ မပြောတော့ပဲ ချပေးသည့် အခန်းကိုပင် ရောရောရှူရှူ လက်ခံလိုက်သည်။ အမှန်တော့ သူ့မှာ တွေး စရာတွေရှိနေ၏။ တွေးစရာ များ ရှိနေချိန်တွင် တိတ်တိတ်ဆိတ်ဆိတ်ရှိမည့် အခန်းမျိုးကိုသာ ရချင်နေ၏။

http://www.shwezinu.com/



ထို့ကြောင့်လည်း စာရေးချပေးသည့် အခန်းကို မငြင်းမဆန် လက်ခံခဲ့ခြင်း ဖြစ်လေသည်။

မက်ဒရစ်မြို့မှ ထွက်လာခဲ့စဉ်က သူစီးလာသော ရထားတွဲမှာ ခရီးသည်များဖြင့် ကျပ်သိပ်လျက်ရှိသည်။ ဘာကိုမှ အေးအေးဆေးဆေး စဉ်းစားတွေးတောဖို့ အချိန်မရ။ သူတယောက်တည်း စကား ပြောဖော်မရှိပဲ ငူငူကြီး ထိုင်၍ လိုက်ပါလာခဲ့ရ၏။ သို့သော်လည်း သူ့ရင်ထဲ၌ တနံနံ့ ဖြစ်ပေါ်လျက် ရှိသော မခံချင်စိတ် ကြောင့် တလမ်းလုံး မျက်မှောင်ကုပ်ကာ အံတကြိတ်ကြိတ် ဖြစ်လာခဲ့ရလေသည်။

' ညစာ စားတော့မလား... ဆီညော် '

သူ့အခန်းသို့ လိုက်ပို့သော ဟိုတယ် အလုပ်သမားက မေးသည်။ ဘရန်းဒီးမှာ သူ့တွေးနှင့်သူ ခေါင်းရှုပ်လျက် ရှိသဖြင့် အူကြောင်ကြောင် မျက်နှာပေးဖြင့် မေးသူအား ငေးကြည့်နေမိသည်။ ထို့နောက် မနက်စာ စားပြီး ကတည်းက အခုအချိန်ထိ နောက်ထပ် ဘာမှမစားရသေးသည့် သူ့အဖြစ်ကို သတိရလာသည်။

' သြော် ... ဟုတ်ပြီ၊ တခုခုယူခဲ့ကွာ၊ ဘာပဲဖြစ်ဖြစ်ပေါ့၊ ကာဖီနဲ့ ဂျက်ပေါင်ခြောက် '

' ဟုတ်ကဲ့ ... ခင်ဗျ '

http://www.shwezinu.com/



ထိုလူ နောက်လှည့်ပြီ ထွက်သွားခါမှ ဘရန်းဒီးသည် တစုံတခုကို သတိရပြန်သည်။

' နေဦး ...၊ မင်းကြေးနန်းရုံးကိုသွားပြီး ကြေးနန်းတစောင်ရိုက်ပေးစမ်း '

သူသည် စားပွဲပေါ်၌ အသင့်ရှိနေသည့် ကြေးနန်းပုံစံ စာရွက်ကို ဆွဲယူလိုက်သည်။

ဂရေစီယာ

ကာဆာ ဘရီဇာဂေဟာ၊ ဆန်ရော့ဂျီ။

မနက်ဖြန် အင်္ဂါနေ့နံနက် ၇း၄၅နာရီ ဆန်ရော့ဂျီ

ဘူတာမှ ကားနှင့်စောင့်။

ဟာရင်တန် ဘရန်းဒီး

သူသည် ပုံစံပိုင်းကို ဖြတ်ယူပြီး အလုပ်သမား လက်သို့ လှမ်းပေးသည်။ ပြီးတော့ မင်းစိတ် စိုးစိတ်လေသံ အပြည့်ဖြင့် လှမ်းမှာသည်။

'ဒီကြေးနန်းကို ချက်ချင်းရိုက်ပေးဖို့ပြော၊ မနက်ဖြန် မနက်ခြောက်နာရီတိတိမှာ ငါ့ကို ပြန် အဆက်အသွယ် လုပ်ဖို့လဲ မှာခဲ့'

အလုပ်သမားက ဦးခေါင်းကို အသာကလေး ညွှတ်လိုက်သည်။

' ကောင်းပါပြီ ... ခင်ဗျာ '

http://www.shwezinu.com/



တံခါးပိတ်သွားသောအခါ ဘရန်းဒီးသည် အခန်းထဲ၌ ခေါက်တုံ့ခေါက်ပြန် လမ်းသလားသည်။ လက်သီး နှစ်ဘက်ကို ကျစ်ကျစ်ပါအောင် ဆုပ်ထားသည်။ ကြိတ်မနိုင်ခဲမရဖြစ်လွန်းသောစိတ်ကြောင့် သူ့မျက်ခုံး နှစ်ဘက် သည် တွန့်လျက်ရှိသည်။ သူတို့အနေဖြင့် သူ့ကို အခုလို လိမ်လည် လှည့်ဖြားခဲ့ကြသည့် အကြံမ်ပေါင်း မှာ မရေမတွက်နိုင် လောက်အောင်ရှိခဲ့ပြီ။ အခုလို စာမျိုးကို အခုလို လေသံမျိုးနှင့် ရေးပြီး ကြက်မကြီး က ကြက်ကလေး လှည့်စားသည့်ပေါက်မျိုး မကြာခဏ ချိုးခဲ့ကြ၏။ သူကတော့ ထုံးစံအတိုင်း စာရေးပုံ လေသံနှင့် အခြေအနေကို ဆက်စပ်၍ တွေးခေါ် ဆုံးဖြတ်မိခြင်းသာ ဖြစ်၏။ အခု သူရခဲ့သည့် စာအပေါ်တွင် ယုံကြည်စိတ်ချခဲ့မိခြင်း အခု သူရခဲ့သည့် စာပေါ်တွင် ယုံကြည် စိတ်ချခဲ့မိခြင်းတွက် သူ့ကိုယ်သူ အပြစ်တင်ဖို့တော့ မလိုဟု ထင်မိသည်။

မည်သို့ပင်ဖြစ်စေ သူ့ကိုယ်သူ ဒေါသတော့ ဖြစ်မိသည်။ မခံချင်စိတ်လည်း ဖြစ်မိသည်။ ရှက်လည်း ရှက်၏။ သူ့အနေဖြင့် ဘာကြောင့် သူတို့အပေါ်၌ မျက်ကန်း တစ္ဆေ မကြောက်ယုံကြည်မှုမျိုး ထားခဲ့ရပါသနည်း။ ဖြစ်ပြီး ခဲ့သမျှကို ပြန်၍ စဉ်းစားလိုက်တိုင်း သူမထွက်လာမီက ဘာတန်နှင့် သူ့ သားနီကိုလတ်စ်အား ပြောခဲ့မိသည့် စကားများကို သတိရမိ၏။ ထိုစဉ်က မဆင်မခြင် ပြောခဲ့မိသော စကားများကို သတိရမိ၏။ ထိုစဉ်က မဆင်မခြင် ပြောခဲ့မိသော စကားများမှာ မျှော်လင့်ချက်အပြည့် နှင့်ဖြစ်သည်။ သို့သော်လည်း ထိုမျှော်လင့်ချက် အားလုံးသည် လေထဲ တိုက်အိမ်

http://www.shwezinu.com/


ဆောက်သည့်နယ် ဖြစ်ခဲ့ရလေပြီ။ ဘာတန်ကို သတိရ မိသည်ဆိုလျှင်ပင် သူ့တကိုယ်လုံးမှာ အနေရ အထိုင်ရခက်သည် အထိ ချွေးပြန်လာလေသည်။

သူသည် အပြင်းအထန် လှုပ်ရှားနေသော စိတ်ကို ကြိုးစား၍ ထိန်းနေရသည်။ အခန်းနံရံပေါ်မှ မှန်ထဲတွင် သူ့ကိုယ်သူ ပြန်ကြည့်မိသည်။ ခရီးပန်းခြင်းနှင့် စိတ်ညစ် စိတ်ရှုပ်ခြင်းတို့ကြောင့် သူ့မျက်နှာမှာ များစွာ အိုစာကျလျက်ရှိသည်။ ဤကြားထဲတွင် မုတ်ဆိတ်မွေးများကို မရိတ်ရသေး သဖြင့် ပို၍ အကြည့်ရ ဆိုးလျက် ရှိ၏။ သူသည် လက်ဆွဲအိတ်ကို ဖွင့်ပြီး ရေချိုးခန်းသုံးပစ္စည်းများကို ထုတ်ယူလိုက်သည်။ ထို့နောက် ရေချိုးခန်းထဲသို့ ဝင်သည်။ ရေချိုးရင်းနှင့် မုတ်ဆိတ်မွေး နှုတ်ခမ်းမွေးများကို ရိတ်လိုက်ပြီး ရေချိုးကန် အတွင်းရှိ ရွှေးထဲ၌ အတန်ကြာမျှ စိမ်ကာ ကိုယ်စိတ်နှစ်ပါးလန်းဆန်းကြည်လင်သွားအောင် အားထုတ် သည်။

ပြင်သို့ ရောက်သောခါ ရေချိုးခန်း ဝတ်ရုံကြီးနှင့်ပင် အစားအသောက်များ တင်ထားသောတံခါး အနီးမှ စာရေး စားပွဲတွင် ဝင်ထိုင်သည်။ ကော်ဖီနှစ်ခွက်ကို ဆက်တိုက်သောက်ချလိုက်ပြီးမှ ပေါင်မုန့် ထောပတ် သုတ် နှင့် ဝက်ပေါင်ခြောက်ကို စားသည်။ ဟာနေသော သူ့ဝမ်းဗိုက်သည် ချက်ချင်းပင် ပြည့်သွားလေ၏။ သူသည် ထိုင်ရာမှထကာ လူခေါ် ခေါင်းလောင်းကြိုး ဆွဲလိုက်သည်။ စားပွဲပေါ်မှ ပန်းကန်များကို လာရောက် သိမ်းယူရန် ဟိုတယ် အလုပ်သမားအား အသံပေးခြင်းပေတည်း။

http://www.shwezinu.com/

အလုပ်သမားသည် စားပွဲကို ရှင်းလင်းသုတ်သင်ပြီး ချက်ချင်းပင် ပြန်ထွက်သွားသည်။ အခန်းထဲ တွင် သူတယောက် တည်း ကျန်ရစ်ခဲ့ပြန်သည်။ သူကတော့ သူ့အတွေးနှင့်သူ...။ ကျခဲ့ရသည့် သူ့ သိက္ခာအတွက် သူ့စိတ်မှာ ပူလောင်ပြင်းပြဆဲ။ တင်ထားသည့် စာရေးစက္ကူ တထပ်ကို ဆွဲယူသည်။ မင်တံကို လှမ်းကိုင် သည်။ ပြီးတော့ စာတစောင် ကောက်ရေးသည်။

အီစတာစီယွန်ဟိုတယ်

ဘာစီလိုးနီးယားမြို့

တနင်္လာနေ့၊ ည ၁၁း၃၀ နာရီ

ချစ်လှစွာသော ဟေးလီးဗီး ...

ရင်ဖွင့်ချင်တဲ့ စိတ်ဆန္ဒ ပြင်းထန်လွန်းနေတဲ့အတွက် ဒီ ဟိုတယ် ကနေပြီး ဒီစာကို ရေးလိုက်ရပါ တယ်။ ကျွန်တော်ရဲ့ ခင်မင်ရင်းနှီးတဲ့ မိတ်ဆွေတဦးအနေနဲ့ရော။ ကျွန်တော့်ရဲ့ ကျန်းမာရေးကို ကြည့်ရှု စောင့်ရှောက် ပေးနေရတဲ့ ဆရာဝန်တယောက်အနေနဲ့ပါ ကျွန်တော့်ရဲ့ ပြဿနာကို ဂေဖန်သုံးသပ်ပြီး အကြံဉာဏ်နဲ့ အကူအညီ ပေးစေချင်ပါတယ်။

ကျွန်တော့်ရဲ့ ဂန်ထမ်း ဘဝ တလျှောက်လုံးမှာ ဘယ်လောက်အထိ မတရားသဖြင့် အလုပ်ခံခဲ့ရတယ် ဆိုတာ ခင်ဗျား အသိဆုံးပါ။ အထူးတလည် ချဲ့ထွင်ရေးနေဖို့မလိုပါဘူး။ ဘယ် လောက်ပဲ မတရားလုပ်လုပ် ကျွန်တော်ကတော့ ကျွန်တော့်ရဲ့ ဂုဏ်သိက္ခာကို ထောက်ထားတဲ့အနေနဲ့

http://www.shwezinu.com/


စိတ်ရှည်ရှည်ထားပြီး အောင့်အည်း သည်းခံလာခဲ့ပါတယ်။ ဒါကိုလည်း ခင်ဗျား အသိပါ။ ကျွန်တော့်ရဲ့ စိတ်ရှည်မှုနဲ့ သည်းခံ နိုင်မှု အတွက် ခင်ဗျားကတောင်မှ ကျွန်တော့်ကို မကြာမကြာ ထုတ်ပြီး ချီးမွမ်းခဲ့တာ ခင်ဗျား သတိရဦးမှာပါ။ လွန်ခဲ့တဲ့ လထဲက ကျွန်တော်ရေးခဲ့တဲ့ စာတွေထဲမှာ တော်စတာ ဘရားဗားမြို့ကို ကျွန်တော် မကြာခင်က ပြောင်းရွှေ့ ရောက်ရှိလာကြောင်း။ အဆင် ပြေပြေ နေထိုင်သွားနိုင်ဖို့အတွက် တတ်အားသရွေ့ ကြိုးစား လုပ်ကိုင် နေရကြောင်း ရေးခဲ့ပြီးပါပြီ။

ပြီးခဲ့တဲ့အပတ် သောကြာနေ့ကတော့ မက်ဒရစ် သံရုံးမှာ တာဝန် ကျနေတဲ့ ပထမကောင်စစ်ဝန် ဂျော့တင်းနေး တယောက် လေငန်းဖြတ်သွားလို့ မက်ဒရစ် မြို့တော်ကို လိုက်လာစေလိုကြောင်း စာထဲမှာ ရေးထား ပါတယ်။

ကျွန်တော်ဟာ အစဉ်းစား အဆင်ခြင် ကင်းမဲ့တဲ့ လူတယောက် မဟုတ်ဘူးဆိုတာ ခင်ဗျား အသိပဲ။ ကိစ္စတခု ကို ဘယ်တော့မှ အလျင်စလို ဆုံးဖြတ်တတ်တဲ့ လူတယောက် မဟုတ်ဘူးဆိုတာလဲ ခင်ဗျား သိမှာပါ။ ဘောလီရဲ့ စာမှာ ပါလာတဲ့ အရေးအသားဟန်နဲ့ လေကို ဖတ်ရရင် ဘယ်သူပဲ ဖြစ် ဖြစ် ကျွန်တော့်ကို တင်းနေးရဲ့ နေရာ ရဖို့ သေချာတယ်။ ကျွန်တော် ကိုယ်တိုင်လည်း အဲသလိုပဲ တွက်ခဲ့မိ တယ်။ ဒါနဲ့ပဲ ကျွန်တော် မက်ဒရစ် မြို့တော်ကို ထွက်ခဲ့ပါတယ်။

http://www.shwezinu.com/



စနေနေ့ မက်ဒရစ်ကို ရောက်သွားတော့ အံ့ဩစရာအဖြစ်နဲ့ကြုံရတယ်။ မက်ဒရစ်မှာ ဘောလီနဲ့ ချက်ချင်းမတွေ့ရဘူး။ ရုံးပိတ်ရက် နှစ်ရက် အပန်းဖြေဖို့အတွက် တောင်ပိုင်းကို ခရီးထွက်သွား တယ်လို့ သိရတယ်။ တနင်္လာနေ့ ဘောလီ ပြန်ရောက်လာတော့ ကျွန်တော့်မှာ ပိုပြီး အံ့ဩစရာ ကောင်းတဲ့ သတင်းကို ကြားရတယ်။ ကျွန်တော့်ကို ခေါ်တာဟာ ယာယီတာဝန်ပေးဖို့သာ ဖြစ်တယ် တဲ့။ အခု ဂါဆောမြို့မှာ တာဝန် ကျနေတဲ့ ဟားဘတ်မိုင်းယားကို ဂျော့တင်းနေးရဲ့ နေရာမှာ စားထိုး ခန့်ထားဖို့ စီစဉ်ပြီးပြီတဲ့။ ဒါကြောင့် မို့ ဟားဘတ်မိုင်းယား ဂါဆောက မရောက်ခင် တင်းနေးရဲ့ နေရာ မှာ ခေတ္တခဏ တာဝန် ယူပေးပါတဲ့။

ဒီထိုးနှက်ချက်ဟာ ဘယ်လောက် ပြင်းထန် ဆိုးရွားတယ်ဆိုတာ ကျွန်တော် ရေးပြဖို့ လိုမယ် မထင် ပါဘူး။ ဒါပေမယ့် သူပေးတဲ့ တာဝန်ကို ကျွန်တော် မငြင်းပါဘူး။ စိတ်ထဲမှာ မခံမရပ်နိုင်လောက် အောင် ဖြစ်လွန်း တဲ့ အတွက် ကျွန်တော့်ရဲ့ လုပ်သက်၊ ကျွန်တော့်ရဲ့ လုပ်ရည်ကိုင်ရည်နဲ့ အမည်းစက် မရှိခဲ့ဘူးတဲ့ ကျွန်တော့် ရဲ့ ကျင့်စာရိတ္တ အစရှိတဲ့ အချက်တွေကို အေးအေး ဆေးဆေး ရှင်းပြပါတယ်။ ပြီးတော့ ကျွန်တော့်ကို ရာထူး တိုးတက်ပေးရမယ့် အချိန်ကာလဟာ လွန်နေပြီ ဖြစ် တဲ့အတွက် အခုကိစ္စကို ပြန်ပြီး စဉ်းစား ပေးစေ ချင်ပါတယ်လို့ ပြောင်ပြောင်ပဲ တင်ပြလိုက်တယ်။

ဘောလီက ချက်ချင်း အဖြေမပေးဘူး ဟားလီးဗီး သိလား။

http://www.shwezinu.com/



ခဏကြာတော့မှ 'ခင်ဗျားဟာ ကိုယ့်ကိုယ်ကိုယ် အတော် အထင်ကြီးတဲ့ လူတယောက်ပါလား' လို့ ပြောတယ်။ ဒီစကား ဟာ ကျွန်တော့်ကို စော်ကားတဲ့ စကားပဲ။ ဒီလောက်အထိ စော်ကားတာကတော့ လွန်အား ကြီးတယ်လို့ ကျွန်တော် ထင်တယ်။ ဒါကြောင့် ကျွန်တော်က ကျွန်တော့်မှာ လုပ်စရာ အလုပ် တာဝန် တွေ ဆန်ရော်ဂျီမှာ အများကြီးရှိနေကြောင်း။ မမာမကျန်း ဖြစ်နေတဲ့သားကို စောင့်ရှောက်ပြုစုရတဲ့ တာဝန် ကလည်း ရှိနေကြောင်း။ တကယ်လို့ တင်းနေးရဲ့ရာထူးမှာ ကျွန်တော့်ကို ခန့်ထားဖို့ မရည်ရွယ် ဘူးဆိုရင် ပေးအပ်တဲ့ တာဝန်ကို မယူနိုင်ဘူးလို့ ငြင်းပယ်ရမယ့် အခြေအနေ ရှိနေကြောင်း ခပ်တင်းတင်းပဲ ပြော လိုက်တယ်။

ကျွန်တော့် စကားလည်းဆုံးရော တခါတည်း ငြိမ်ကျသွားတယ်။ သူ့ဘက်က ဒေါသတကြီးနဲ့ တုံ့ ပြန်လာ လိမ့်မယ်လို့ ကျွန်တော်ကတော့ မျှော်လင့်ထားတယ်။ ဒါပေမယ့် အံ့သြစရာ ကောင်းတာက ဘေလီဟာ စိတ်ဆိုးတဲ့ အမူအရာ မပြဘူး။ ဘာမှ မဖြစ်သလိုပဲ ပြုံးနေတယ်။ ပြီးတော့ ကျွန်တော့်ကို ပြောတယ်။

'ခင်ဗျားဟာ လူထူး လူဆန်း တယောက်ပဲ ဘရန်းဒီး ခင်ဗျား အကြောင်းကို ကျွန်တော် မကြာ ... မကြာ ကြားခဲ့ ဖူးတယ်။ ဌာနတွင်း မှာတော့ ခင်ဗျားဟာ လူတကာက စိတ်ဂင်တစားနဲ့ အတင်းအဖျင်း အချခံနေရတဲ့ လူတယောက်ပဲ၊ ဒါတွေကို ခင်ဗျားကိုယ်တိုင် သိဖို့နားလည်ဖို့ကောင်းပမယ့် မသိဘူး၊ ဒါတွေ ထားလိုက်ပါတော့လေ၊ ခုကိစ္စနဲ့ ပတ်သက်လို့တော့

http://www.shwezinu.com/



ခင်ဗျားရဲ့အပြုမူ ပြောဆိုပုံတွေကို အပေါ်ထိ ရောက်အောင် တိုင်သင့်တာ အမှန်ပဲ၊ ဒါပေမယ့် ကျွန်တော် မလုပ်ပါဘူး၊ ခင်ဗျား ဆန်ဂျော်ဂျီကို ပြန်ချင်ရင် ပြန်သွားပါ၊ ဒါပေမယ့် ကိုယ့်ကိုယ်ကိုယ် လူဆန်ဆန် နေသွားဖို့တော့ ကြိုးစားစေချင်တယ်၊ ကိုယ့် ကိုယ်ကိုယ် ငါ ဟုတ်လှပြီလို့ ထင်နေတဲ့ စိတ်နဲ့ အဆမတန် ကြီးမားနေတဲ့ ခင်ဗျားရဲ့ အတ္တစိတ် လွန်ကဲမှုကို ပေါက်အောင် လုပ်ပါ၊ ကိုယ့်ကိုယ်ကို ခေတ်မီလာအောင်၊ အများ နဲ့ ဟင်ဆုံလာအောင်လုပ်ပါ၊ ဒါတွေလုပ်လို့ ရာထူး တော့ တိုးချင်မှ တိုးမယ်၊ ဒါပေမယ့် နည်းဆုံး ခင်ဗျား ဘဝတော့ အဆင်ပြေလာပါလိမ့်မယ်'

သူ့ပါးစပ်က အေးအေးဆေးဆေးနဲ့ ပြောတဲ့စကားတွေပါ။ ဒါပေမယ့် ကျွန်တော့် အဖို့တော့ သာသာ နဲ့ နာနာ နက်တဲ့ စကားတွေ ဖြစ်နေတယ်။ ဒီလောက် ပြင်းထန်တဲ့ စကားတွေကို ကျွန်တော် ဘယ်လို လုပ်ပြီး ချေနိုင်မလဲ... ဟေးလီးဗီး။ ကျွန်တော် ခေါင်းငုံ့ပြီး ငြိမ်နေခဲ့မိတယ်။ ပြီးတော့ ဘာမှ ပြန်မပြောပဲ အခန်းထဲက ထွက်လာခဲ့တယ်။ ကျွန်တော် စဉ်းစားချိန် မနေတော့ဘူး။ ဆယ့်တစ်နာရီ ရထားနဲ့ ချက်ချင်း ပြန်လိုက်ခဲ့တယ်။ အခုဆိုရင် ကျွန်တော် ဒီဟိုတယ်မှာ ရောက်နေပြီ။ အမှန်အတိုင်း ဝန်ခံရမယ်ဆိုရင် ကျွန်တော်ဟာ အကြီးအကျယ် စိတ်ဆင်းရဲမှုနှင့် ရင်ဆိုင်နေရပါတယ်။

သောက နဲ့ အာဃာတတွေကြောင့် ကျွန်တော့်မှာ ပျော်ရွှင် သာယာမှု လည်း ဆိတ်သုဉ်းနေရပါတယ်။ ကျွန်တော့်မှာ ခင်ဗျား တယောက်ပဲ အားကိုးစရာ ရှိပါတော့တယ်။ စိတ်ဝေဒနာကို ပျောက်ကင်းအောင် ကုသပေး

http://www.shwezinu.com/


နေတဲ့ ပုဂ္ဂိုလ်တဦး အနေနဲ့ ကျွန်တော့်ကိုယ်ကို ခင်ဗျားကလွဲ ပြီး အပ်စရာလူ မရှိပါဘူး။ ခင်ဗျား ကိုပဲ ပုံအပ်ရပါလိမ့်မယ်...။

ဤနေရာသို့ ရောက်သော် ဘရန်းဒီးသည် စာကို ဆက်မရေးပဲ ရပ်ထားသည်။ သူ့နဖူးကြောများသည် ရှုံ့လျက် ရှိ၏။ ဤစာကို ဆက်ရေးလို့မှ ကောင်းပါမည်လော။ မကောင်းစရာတော့မရှိ။ ပွင့်ပွင့် လင်းလင်း ရေးနိုင်လေ သူ့အတွက် အကျိုးရှိနိုင်လေ...။

တချိန်ကဆိုလျှင် သူသည် ကက်ပူဆီ လမ်းရှိ ပါမောက္ခ ဟေးလီးဗီး၏ ဆေးခန်းသို့ မကြာခဏ သွားခဲ့ရသည်။ အလွန်ကျဉ်းမြောင်းသော ဆေးခန်းကလေး အတွင်းရှိ အိပ်စင်ပေါ်၌ ပက်လက်လှဲ၍ ထူ ထဲသော ခန်းဆီး များကြားမှ ဝင်ရောက်လာနေသည့် ဆူဆူညံညံ မော်တော်ကားသံများကို နား ထောင်၍ ကျွမ်းကျင် လှသော စိတ်ရောဂါ အထူးကု ဆရာဝန်ကြီး၏ အိပ်မွေ့ချခြင်းကို ခံခဲ့ရသည်။ မျက်စိများ စုံမှိတ်ပြီး သူပေး သမျှ အမိန့်ကို နာခံ၍ သူမေးသမျှကို ဖြေဆိုခဲ့ရသည်။ လိမ်၍ ညာ၍ ဖုံး၍ ကွယ်၍မရ။ မိမိ ၏ လျှို့ဝှက်ချက်မှန်သမျှကို ထုတ်ဖော်ပြောရသည်။

ယင်းကဲ့သို့ ပြောခဲ့သည့်အတွက်လည်း သူ့မှာလက်တွေ့အကျိုးထူးများ ရရှိခဲ့ရ၏။ အခုလို အဖြစ် မျိုးနှင့် ကြုံလာ ရသည့်အခါ အလှမ်းဝေးနေသည့် ပါမောက္ခ ဟေးလီးဗီး၏ အားပေးနှစ်သိမ့်မှုကို ရချင်မိသည်။ သူသည် ရေးလက်စ စာကို ဆက်ရေးလေ၏။

http://www.shwezinu.com/


ကိုယ့်ရဲ့ ဂုဏ်သိက္ခာကျမှာ ကြောက်ပေမယ့် ဒီကိစ္စကိုတော့ ဖွင့်မပြောရင် မဖြစ်တော့ဘူး လို့ထင်ပါတယ်။ ဒါကြောင့် ကျွန်တော် ဖွင့်ပြော ပါတော့မယ်။ ဘေလီက ကျွန်တော့်ကို ထိခိုက် နစ်နာ စေနိုင်လောက်တဲ့ ဒီစကားမျိုးတွေကို ပြောနေတဲ့ အခါမှာ ကျွန်တော့်ခေါင်းဟာ မူးဝေ နောက်ကျိုလာပါတယ်။ ကျွန်တော့် မျက်စိထဲမှာ အလွန်ထူးဆန်းတဲ့ ပုံသဏ္ဍာန်တခုကို ထင်ယောင် မြင်ယောင် ဖြစ်လာခဲ့ပါတယ်။ တခြားတော့ မဟုတ်ဘူး ပေါ်လီးပီး။ ဒီစကားတွေကို ပြောနေသူဟာ ဘေလီ မဟုတ်ပဲ ကျွန်တော့် မိန်းမဖြစ်နေပါတယ်။

ကျွန်တော့် ရှေ့တည့်တည့်မှာ မြူနှင်းတွေ ဆိုင်း နေသလို အုံ့မှိုင်းရီဝေ နေပါတယ်။ အဲဒီကြားထဲမှာ ကျွန်တော့် မိန်းမကို တွေ့မြင် နေရသလိုပဲ။ မိုးကလဲ ရွာနေတယ်။ အဲဟိုညက နယူးယောက်မြို့ သုံးဆယ့်ကိုးလမ်းမှာ ရှိနေတဲ့ သူ့အခန်းထဲက တယောက်တည်း ထွက်လာတဲ့ ပုံစံအတိုင်းပဲ။ အဲဒီညက ကျွန်တော် သူ့နောက်က တကောက်ကောက် လိုက်ချောင်း နေတယ်။ အပြင်ကနေပြီး ရပ်စောင့်နေတယ်။ အနည်းဆုံး နစ်နာရီ လောက် တော့ ကြာမယ်ထင်တယ်။

သူဟာ ဘယ်နည်းနဲ့ မဆို သူ့ချစ်သူတယောက်ကို သူ့အခန်းမှာ လက်ခံပြီး တွေ့နေပြီလို့ ကျွန်တော် တွက်ထား ပါတယ်။ သူအခန်းထဲက ထွက်လာလို့ လမ်းပေါ်လဲ ရောက်ရော ပုန်းနေတဲ့ မှောင်ရိပ်ထဲက ထွက်ပြီး သူနဲ့ ရင်ဆိုင်လိုက်တယ်။ လမ်းမီးအရောင်ဟာ သူ့ရဲ့ ဖြူဖပ်ဖြူရော် ဖြစ်နေတဲ့

http://www.shwezinu.com/

မျက်နှာနဲ့ တအံ့ တသြ ဖြစ်နေတဲ့ မျက်လုံးတွေပေါ် ဖြာကျနေပါတယ်။ ကျွန်တော့်ကိုလည်း မြင်ရော သူကပြောတယ်။ သူပြော တာက...။

သူ ပြောလိုက်တဲ့ စကားတွေကို ခုတခါ ထပ်ရေးပြနေခြင်းအားဖြင့် ကျွန်တော့်ရဲ့ စိတ်ကို ထပ်ပြီး မညှဉ်းဆဲပါရစေနဲ့တော့။ ဒီ အဖြစ်အပျက်ကို ခင်ဗျား မှတ်မိပါလိမ့်မယ်။ တချိန်က ကျွန်တော် ခင်ဗျားကို အသေးစိတ် ပြောခဲ့ပြီးပါပြီ။ ပထမဆုံး အကြိမ် ကျွန်တော့်ရဲ့ စိတ်ပိုင်းဆိုင်ရာ အခြေအနေ အရပ်ရပ်ကို ခွဲခြား စိတ်ဖြာ ပေးဖို့ လာအပ်စဉ်ကတည်းက ဒီအဖြစ် အပျက်ကို ကျွန်တော့် နှလုံးသားထဲက ထုတ်ပေး ခဲ့ပြီး သားပါ။

မိတ်ဆွေကြီး သိတဲ့ အတိုင်းပဲ။ ဒီ အဖြစ်ဟာ ကျွန်တော့်ရဲ့စိတ်ကို အမြဲတမ်း တုန်လှုပ်ချောက်ချား စေခဲ့ပါတယ်။ ဘောလီရဲ့စကားတွေဟာ သိပ်ပြီး အရေးစိုက်စရာစကားတွေ မဟုတ်ပါဘူး။ သိပ်ပြီး ရေးကြီး ခွင်ကျယ် လုပ်ပြီး စဉ်းစားနေရမယ့် စကားတွေလည်း မဟုတ်ပါဘူး။ ဒါပေမယ့် သူ့ စကားတွေ အပေါ်မှာ ကျွန်တော့် စိတ်က ဘယ်လိုခံယူခဲ့သလဲ။ ဘယ်လို တုံ့ပြန်ခဲ့သလဲ။

ဒီစကားလုံးတွေဟာ အခု အချိန်ထိ သွေးအထွက်မရပ်သေးတဲ့ ဒဏ်ရာ ဒဏ်ချက်တွေ၊ အနာတွေ ဖြစ်နေတယ်ဆိုတာ ကျွန်တော် တဦးတည်းပဲ သိပါတယ်။ ဒီအနာတွေဟာ ပျောက်ကင်းအောင် ကုလို့ မရတော့ ဘူးလား။

ကျွန်တော့်ရဲ့ အလိုဆန္ဒဟာ ကိုယ့်ကိုပဲ ချစ်စေချင်တယ်တဲ့။ ကိုယ့် တယောက်က လွဲပြီး တခြား ဘယ်သူ့ကိုမှ မချစ်စေ ချင်ဘူး။ ချစ်ပြန်

http://www.shwezinu.com/



တော့လည်း သနားကြင်နာမှု အပြည့်နဲ့ ချစ်စေချင်တယ်။ စွဲစွဲမြဲမြဲ ချစ်စေချင်တယ်။ ပြင်းပြင်းထန်ထန် ချစ်စေချင်တယ်။ တခြား ဘယ်သူနဲ့မှ မတူအောင် ချစ်စေ ချင်တယ်။ ဒီ အလိုဆန္ဒဟာ အကန့်အသတ်လည်းမရှိဘူးတဲ့။ ဘယ်သောအခါ မှလည်း ဆန္ဒပြည့်ဝ သွားတယ်လို့ မရှိဘူးတဲ့။ တကယ့် ကိုပဲ အဲသလောက် အထိ ပြင်းထန်နေပါသလား။

ကျွန်တော်ဟာ ဘာကိုပဲ ကြည့်ကြည့် အထင်မှားအမြင်မှား အဓိပ္ပာယ်ကောက် လွဲမှား နေတတ်တဲ့ လူတမျိုး ဖြစ်နေ ပြီလား။ ကျွန်တော်ဟာ အစဉ်သဖြင့် တလွဲတချော် ဝေဖန်သုံးသပ်ပြီး ဆုံးဖြတ်တတ်တဲ့ လူစား တယောက် ဖြစ်နေပြီလား။ ပတ်ဂန်းကျင်နဲ့ ထိတွေ့တဲ့အခါမှာလည်း မတရား သဖြင့် ပြုမူ ဆက်ဆံ တတ်တဲ့လူ၊ နိုင့်ထက်ကလူ ပြုမူဆက်ဆံတတ်တဲ့ လူစားမျိုး ဖြစ်နေပြီ လာ။ ဘဝ တလျှောက်လုံး ဒီ လူစားမျိုး ဘဝနဲ့ပဲ အဆုံး သတ်ရတော့မှာလား...။ ကိုယ့် စိတ်နဲ့ ကိုယ့် နှလုံးသားကိုမှ ကိုယ်မပိုင် တော့ ဘူးလား...။

ကျွန်တော့်ရဲ့ အနာဂတ်ဘဝ ခရီးမှာကော ဘယ်လိုဖြစ်မလဲ။ ဒီပုံစံ အတိုင်းပဲ သွားရတော့မှာလား။

ကောင်စစ်ဂန် ဆိုတဲ့ ရာထူးကို တစုံတခုသော အတိုင်းအတာအထိ ကျွန်တော် တန်ဖိုးထားနေ တယ်ဆိုတာ မငြင်း ပါဘူး ... ပေးလီးဗီး။ ဒီရာထူး ဂုဏ်ကို မက်မောတွယ်တာမှု ရှိတန်သရွေ့ ရှိနေ တယ်ဆိုတာလည်း ကျွန်တော်

http://www.shwezinu.com/



မပြင်းပါဘူး။ ဒီ ရာထူးအရ ဆောင်ရွက်ရမယ့် တာဝန်တွေနဲ့ အလုပ် တွေကို လုပ်ကိုင်နိုင်တဲ့ အရည် အချင်း ဟာလည်း ကျွန်တော့်မှာ အပြည့်အဝ ရှိနေတယ်လို့ ကျွန်တော် အခိုင်အမာ ယုံကြည် ထားပါတယ်။ ဒါကြောင့်မို့လို့ ဒီရာထူးဟာ ကျွန်တော်နဲ့ ထိုက်တန်တဲ့ ရာထူးလို့ ယူဆပါတယ်။

မေဘာရန်းချီးရဲ့ ဘဝ အတ္ထုပ္ပတ္တိ စာအုပ်ကို ရေးနေတာလဲ ပြီးနေပါပြီ။ နောက် သုံးလလောက်ဆိုရင် ကမ္ဘာကို ဖြန့်ချိ နိုင်လိမ့်မယ်လို့ ကျွန်တော် မျှော်လင့်ထားပါတယ်။ ကျွန်တော့်ရဲ့ စိတ်ထဲမှာ ရှိနေတဲ့ ယုံကြည်ချက် အတိုင်းသာ ပြောရမယ် ဆိုရင်တော့ ဒီစာအုပ်ဟာ ကျွန်တော့်ဘဝရဲ့ အစိတ်အပိုင်း တခုပါ။ ဒီစာအုပ် ဟာ ကမ္ဘာပေါ်မှာ ရှိနေတဲ့ တိုက်ကြီး နစ်တိုက်က အသိပညာရှင်တွေနဲ့ ဒဿနိက တွေးခေါ်ရှင် တွေရဲ့ လောကကို လှုပ်လှုပ်ရှားရှား ဖြစ်သွားစေလိမ့်မယ်လို့လည်း ကျွန်တော် ထင် တယ်။

အကယ်၍များ ကျွန်တော် ယုံကြည်တဲ့ အတိုင်းဖြစ်လာခဲ့ရင် ကျွန်တော် အလုပ်က မထွက်သင့်ဘူး လား။ အလုပ်ကထွက်ပြီး ကျွန်တော့် ဘဝ တခုလုံးကို စာပေ လောကထဲအတွင်းမှာ မမြှုပ်နှံသင့် ဘူးလား။ အစိုးရရဲ့ ထောက်ပံ့မှု အပေါ်မှာ မမှီခိုပဲ စားသောက်သွားနိုင် လောက်အောင်တော့ ငွေကြေး အထိုက် အလျောက် ကျွန်တော့မှာ ရှိနေပါတယ်။ နောက်တခု ကတော့ ကျွန်တော့်ရဲ့ အချစ်ဆုံးသားကို တိုးတက် ဖွံ့ဖြိုး လာအောင် ပြုစု ပျိုးထောင် ပေးရမယ့်တာဝန်ဟာ ကျွန်တော့်ရဲ့ အကြီးဆုံးသော တာဝန် တရပ်ပါ။

http://www.shwezinu.com/

ကျွန်တော် ခင်ဗျားကို ပြောပြခဲ့တဲ့ အတိုင်းပဲ။ ကျွန်တော့်ရဲ့ အိမ်ထောင်ရေး အဆင်မပြေမှုဟာ ကျွန်တော့်နှလုံးသားကို အပြင်းအထန် ထိခိုက် ကြေကွဲစေခဲ့ ပါတယ်။ ဒီ ထိခိုက်ကြေကွဲမှုဟာ အင်မတန်မှ သနားစရာမှ ချစ်စရာကောင်းတဲ့ ဒီသားလေးကြောင့် သက်သာရာ ရခဲ့ပါတယ်။ ဒီသားလေးရှိ နေတဲ့ အတွက် ကျွန်တော့်ဘဝဟာ ပျက်မသွားတာပါ။ ဒီသားလေးရဲ့ ကျန်းမာရေးကလည်း သိပ်မကောင်းတော့ ကျွန်တော် သူ့ကို ပိုးမွေးသလို မွေးနေရတာပါ။ ဒီ ကြားထဲကပဲ အခုလို လူလား အတွေးအခေါ်တွေ၊ အပြုအမူတွေ ရမသွားအောင် မျက်ခြည်မပြတ် စောင့်ကြည့်ပြီး တားဆီးနေရပါတယ်။ ဖူးပွင့်လာစ ပန်းကလေးကို ပျက်စီးမသွားအောင် စောင့်ရှောက်ပြီး ပြုစုပျိုးထောင် ပေးနေရ သလိုပါပဲ။

ခင်ဗျားဟာ ကျွန်တော့်ရဲ့ အရင်းနှီးဆုံး မိတ်ဆွေ တယောက်ပါ။ ကျွန်တော့်ရဲ့ဆုံးဖြတ်ချက်နဲ့ ပတ် သက်လို့ တိုင်ပင် စရာဆိုလို့ ခင်ဗျားတဦးတည်း ရှိပါတယ်။ ကျွန်တော့်ကို အကြံပေးပါဦး။ ကာဆာ ဘရီဇာကို အလည် တခေါက် လာမယ်လို့ ပေးထားတဲ့ ခင်ဗျားရဲ့ ကတိအတိုင်း မြန်မြန်ကလေးလာ လည်ဖို့ ကျွန်တော် တောင်းပန် ပါတယ်။ ခင်ဗျား စီစဉ်ထားတာက ဖွန်လထဲမှာ လာလည်ဖို့မဟုတ် လား။ အဲဒီ အစီအစဉ်ကို ဖျက်ပြီး အခု လောလောဆယ်ပဲ လာလယ်စေချင်ပါတယ်။ ဖြစ်နိုင်မယ် ဆိုရင်တော့ နောက်နှစ်ပတ် လောက် အတွင်း မှာ ရောက်အောင် လာစေချင်ပါတယ်။

http://www.shwezinu.com/



ခင်ဗျားရဲ့ ဆေးခန်းတာဝန်ကလည်း သေးတဲ့ တာဝန်မဟုတ်ဘူးဆိုတာ ကျွန်တော် သိပါတယ်။ ဆေးခန်းကို ခင်ဗျား ရဲ့ မိတ်ဆွေဆရာဝန် တယောက်နဲ့ အပ်ထားခဲ့လို့ မရနိုင်ဘူးလား။ ရနိုင်အောင်စီစဉ်ပြီး ဆက်ဆက် လာစေချင်ပါတယ်။

အခုဆို ဆယ့်နှစ်နာရီ ထိုးတော့မယ်။ ကျွန်တော် တရေးလောက်တော့ အိပ်ဦးမှ။ လွယ်လွယ်နဲ့ အိပ်လို့တော့ ရမှာမဟုတ်ပါဘူး။ ခင်ဗျားပေးထားတဲ့ ဆေးပြားတွေထဲက လေးပြားသောက်မှ အိပ် ပျော်မှာပါ။ ခင်ဗျား ပေးထားတဲ့ ဆေးပြားလေးတွေကလည်း စောစောကလောက် မထိရောက်တော့ ပြန်ဘူး။ ကျွန်တော့်ရဲ့ အခက်အခဲ နဲ့ လိုအပ်ချက်ကို ခင်ဗျား နားလည် သဘောပေါက် လောက်ပြီ ထင်ပါတယ်။ မပျက်မကွက် လာစေချင်ပါတယ်။ ခင်ဗျားရဲ့ပြန်စာကို ကျွန်တော် မျှော်နေပါမယ်။ ခင်ဗျား ရောက် မလာ သေးခင် ကြားကာလ အတောအတွင်းမှာတော့ ကျွန်တော့်သား နီကိုလတ်စ်ရဲ့ အကူအညီနဲ့ပဲ ကိုယ့်စိတ် ကိုယ် သက်သာရာ ရအောင် နေရတော့မှာပဲ။

ကိုယ်စိတ်နှစ်ပါးဆင်းရဲနေရသော
ခင်ဗျားရဲ့ ချစ်မိတ်ဆွေ
ဟာရင်တန်ဘရန်းဒီး

ကောင်စစ်ဝန်သည် စာရေးစားပွဲမှ ရုတ်တရက်မထ။ ငြိမ်သက်စွာ ဆက်၍ထိုင်လျက်ရှိ၏။ သူ့ ပုံပန်းမှာ တစုံတရာကို စဉ်းစားတွေးတော

http://www.shwezinu.com/

နေသည့်နယ် ခပ်တွေတွေ ခပ်ငေးငေး။ မျက်နှာကလည်း အခုအချိန်အထိ ကြည်ကြည်လင်လင် ရွှင်ရွှင်ပျပျ မရှိသေး။ သူ ခံစားနေရသော စိတ်ဒုက္ခ ဝေဒနာ အတွက် သူ့ကိုယ်သူ သနားစိတ်သည် သူ့ရင်ထဲ၌ ဖြစ်ပေါ်နေဆဲ ပင်ဖြစ်သည်။ သို့သော်လည်း စာတစောင် ရေးလိုက်သဖြင့် ရင်တော့ အနည်းငယ် ပေါ့သွားသည်။

ဟိုတုန်းက ပါမောက္ခ ပေးလီးဗီး ၏ ဆေးခန်းသို့သွား၍ ပေးလီးဗီးနှင့် တွေ့ပြီးသည့်အခါတိုင်း ခံစားရတတ်သည့် စိတ်လက်ကြည်လင် ပေါ့ပါးမှုမျိုးကို ရရှိခံစားနေရသည်။ သူသည် သက်ပြင်း တချက် ချလိုက်ပြီး ထိုင်ရာမှ လေးကန်စွာထသည်။ အခန်းအပြင်သို့ထွက်၍ ဓာတ်လှေကား အဝတွင် ချိတ်ထားသည့် စာတိုက်ပုံးထဲသို့ စာကိုထည့်လိုက်သည်။

နောက် တစ်နာရီခန့် ကြာသောအခါ ကောင်စစ်ဝန် ဘရန်းဒီးသည် သောက်ထားသည့် ဆေးအရှိန် ဖြင့် အိပ်ရာပေါ်၌ အိပ်တဝက်နိုးတဝက် ဖြစ်လျက်ရှိလေ၏။

***************

http://www.shwezinu.com/



**အခန်း (၁၃)**

တကြိမ်တခါ လောက်တော့ဖြင့် ပင်လယ်ကမ်းခြေသွား မီးရထားသည် အချိန်မှန် တတ်သည်။ နောက် တနေ့မနက် ရှစ်နာရီထိုးဖို့ ငါးမိနစ်အလိုတွင် ကောင်စစ်ဂန် ဟာရင်တန် ဘရန်းဒီးသည် ဆန်ရေ့ာ်ဂျီဘူတာသို့ ရောက်သည်။ ပလက်ဖောင်းပေါ်မှ ရပ်၍ သူ့အား ဆီးကြိုလျက် ရှိသော ဂရေစီယာနှင့် ချက်ချင်းပင် တွေ့သည်။

' မင်း ငါ့ကြေးနန်းကိုရသားပဲ '

ဘရန်းဒီးက ပြောပြောဆိုဆို နှင့် လက်ဆွဲသေတ္တာကို လှမ်းပေးကာ မော်တော်ကားဆီသို့ တန်းသွားသည်။

' ရပါတယ်ဆီညော် ...၊ ဒါပေမယ့် ဘာပြုလို့ ဘာစီလိုးနားအထိ လာပြီး အကြိုမခိုင်းတာလဲခင်ဗျာ၊ ကျွန်တော် တညလုံး မောင်းလာရင် ရောက်နိုင်တဲ့ခရီးပါ...၊ အဲသလိုသာဆိုရင် ဂန်မင်းခရီးမပန်းဘူး '

စိတ်မကြည်မလင် ဖြစ်လျက်ရှိနေသော်လည်း ကောင်စစ်ဂန်သည် ဂရေစီယာ၏ အပြောကို သဘောကျသည်။

'ဒီဂရေစီယာဆိုတဲ့ အကောင်ဟာ အတော် ထူးခြားတဲ့ကောင် တယောက်ပဲ ' ဟု စိတ်ထဲက ကျိတ်၍ မှတ်ချက်ချမိသည်။

http://www.shwezinu.com/



အမှန်တော့ ဘရန်းဒီးသည် အခိုင်းအစေများနှင့် ရောရော နှောနှော ပြောဆိုတတ်သူ မဟုတ်။ အရောတဝင်မနေမိအောင် အထူးသတိထား၍ ရှောင်တတ်သူ ဖြစ်သည်။ သို့သော်လည်း ဂရေစီယာက သူ့ဒူးခေါင်းများပေါ်သို့ ခြေသုတ် စောင်ကြမ်းတထည် လုမ်း တင်ပေးလာသောအခါတွင်မူ စကားတုံ့ပြန်၍ မပြောပဲ မနေနိုင်တော့ပေ။

' မင်းက ငါ့အပေါ်မှာ သိပ်အလိုက်သိတယ်ကွ၊ ဒါကြောင့်မို့ ငါကလည်း မင်း မပင်ပန်းအောင် ပြန်ပြီး အလိုက်သိရတာပေါ့'

မော်တော်ကားသည် ဘူတာထဲမှ ထွက်လာသည်။ လမ်းများမှာ ဆီးနှင်းရေများဖြင့် စိုစွတ်လျက်ရှိသည်။ လူသွားလူလာပင်မရှိ။ တိတ်ဆိတ် ခြောက်သွေ့လျက်ရှိ၏။ ငါးမိနစ်ခန့် အကြာ တွင် သူတို့ကားသည် ကာဆာဘရီဇာ အိမ်ဝင်းအတွင်းသို့ ဆိုက်ရောက်သည်။ ကိုယ့်အိမ်ကိုယ့်ရာ ပြန်ရောက်လာပြီဆိုတော့လည်း စိတ်က ပေါ့ပါးကြည်လင်လာရ၏။

ပြီးတော့ မိမိချစ်သော သားနှင့် တွေ့ရတော့မည်။ သူသည် ကားပေါ်မှ သွက်လက်စွာ ဆင်းလိုက်သည်။ သူ့သား နီကိုလတ်စ်သည် သူ့အား ကြိုဆိုနှုတ်ဆက်ဖို့အတွက် ဆင်ဝင်အောက်မှ ရပ်စောင့်နေလိမ့်မည်ဟု မျှော်လင့်ထားသည်။ သို့သော်လည်း အကယ်၍ သူမျှော်လင့်သည့်အတိုင်း ဆင်း၍ ကြိုဆိုခဲ့ပါမူ သူ ချမှတ်ပေးထားသော စည်းကမ်းကို ချိုးဖောက်ခြင်းပင် ဖြစ်လိမ့်မည်။ သူ ပြန်လာလျှင် အိမ်ပေါ်မှ ဆင်း၍ မကြိုရဟု သူကိုယ်တိုင် ချမှတ်ပေးထားသည့် စည်းကမ်းချက်ရှိနေသည် မဟုတ်ပါလား။

http://www.shwezinu.com/



သူသည် ခြေလှမ်းကို ခပ်ကျဲကျဲလှမ်းကာ ခန်းမထဲသို့ဝင်ခဲ့ပြီး သူ့နောက်မှ သူ့သေတ္တာကိုဆွဲ၍ လိုက်နာနေသော ဂရေစီယာနှင့်အတူ အိမ်အပေါ်ထပ်သို့ တောက်လျှောက် တက်ခဲ့သည်။ ပထမ သူ့ အခန်းဆီသွား၍ အပေါ်ဂုတ် ကုတ်အင်္ကျီကိုချွတ်ကာ ရေချိုးခန်းဝင်သည်။ ထို့နောက် သူ့အခန်း နှင့် တဆက်တည်း ဖြစ်သော သူ့သား အခန်းထဲသို့ ကူးလာခဲ့သည်။ အခန်းထဲရောက်သည်ဆိုလျှင်ပင် သူ့မျက်နှာပေါ်မှ အပြုံးရိပ်သည် ဖြတ်ကနဲ ပျောက်သွားသည်။ သူ့ မျက်လုံးအစုံသည် အံ့အားသင့်ခြင်း၊ စိတ်ရှုပ်ထွေးခြင်းနှင့် နားမလည်ခြင်းတို့ကို ဖော်ပြလျက်ရှိ၏။

နီကိုလတ်စ် ဘယ်ရောက်နေသလဲ။ ကလေးပီပီ သူ့ကို နောက်ပြောင် ကျီစယ်လိုသော သဘောဖြင့် တနေရာရာတွင် ဝင်ပုန်းနေသလား။ မဖြစ်နိုင်။ အိပ်ရာကို ကြည့်ရသည်မှာ အရာမယွင်း၊ ခြေရာ လက်ရာ လုံးဝမပျက်။ နီကိုလတ်စ်အိပ်ထားသည့် အစအန မတွေ့ရ။ အခန်းထဲတွင် နီကိုလတ်စ် မရှိ။

ကောင်စစ်ဂန်သည် ချက်ချင်း မျက်နှာထားပြောင်းသွားပြီး နောက်သို့ ချာကနဲ လှည့်ကြည့်သည်။

ဂရေစီယာသည် လက်ထဲမှ သေတ္တာကို ကပျာကယာချထားခဲ့ပြီး ကောင်စစ်ဂန် ရှေ့သို့ အပြေးအလွှား ရောက်လာသည်။ မျက်စိမျက်နှာ အပျက်ပျက်ဖြင့် သူ့သခင်ကို မော့ကြည့်သည်။

' ဂန်မင်းသား…ဆီညော်၊ ကျွန်တော် ပြောရမှာတော့ စိတ်မကောင်းပါဘူး ခင်ဗျာ၊ သူ … သူ … အိမ် မှာမရှိဘူး … ခင်ဗျာ'

http://www.shwezinu.com/


' ဘာ…ကွ၊ ဘယ်လို '

'ဟုတ်ပါတယ် … ဆီညော် '

ဂရေစီယာက အသံကို ချိုနိုင်သမျှ ချိုသာစွာထား၍ပြောသည်။

'မနေ့က နေ့ခင်းမှာ ကျွန်တော်နဲ့ မက်ဂ်ဒါးလီးနားတို့ မတားလိုက်နိုင်ခင်မှာပဲ အိမ်က ထွက်သွားပါ တယ်'

ဟာရင်တန်ဘရန်းဒီးသည် ဂရေစီယာအား မျက်လုံးပြူး၍ ကြည့်သည်။ သူ့မျက်နှာသည် စိုးရိမ် ခြင်း မှတဆင့် ထိတ်လန့်ခြင်းသို့ ကူးပြောင်းသွားသည်။

' သူ ဘယ်သွားတာလဲ၊ ဘယ်သူနဲ့လဲ '

'သူ ဘယ်သွားတယ်ဆိုတာ ကျွန်တော်လည်း အတိအကျတော့ မသိဘူး ဆီညော်၊ မြို့ထဲကို သွား တယ်လို့ပဲ ကျွန်တော် ထင်ပါတယ် '

ဂရေစီယာ စကားကို မဆက်ပဲ ရပ်ထားသည်။ သူ့မျက်တောင် များကို ပုတ်ခတ်ပုတ်ခတ် ပြုကာ စဉ်းစားချိန်ဆသလို လုပ်နေသည်။ ပြီးမှ ဆက်ပြောသည်။

'သွား တာကတော့ ဂျိုစီနဲ့ ခင်ဗျ '

' ဂျိုစီ … '

http://www.shwezinu.com/



ကောင်စစ်ဂန်က သူ အလွန်မုန်းတီးစက်ဆုပ်သောနာမည်ကို အံကြိတ်၍ ရေရွတ်သည်။

' တခြားလူနဲ့လဲ သွားစရာ မရှပါဘူး ဆီညော်...၊ သူတို့ နှစ်ယောက် လက်ချင်းတွဲပြီး စကားတွေ ပြောလို့၊ ရယ်လို့မောလို့ ထွက်သွားကြတာပါပဲ'

ဂရေစီယာက စကားကို ဖြတ်ထားပြန်သည်။

'အို... ဒါပေမယ့် ပူစရာမရှိပါဘူး ဆီညော်၊ သူတို့ အခု မနက် ပြန်ရောက်လာမှာပါ၊ သေချာပါတယ်၊ သူတို့ နှစ်ယောက် အတူတူနေတာက မနေ့ညက တညတည်းပါ '

ကောင်စစ်ဂန်၏ ခြေထောက်များသည် အားမရှိတော့သည့်နယ် ခွေယိုင်လာသည်။ တမျက်နှာလုံး ဖြူရော်ရော်ဖြစ်လာသည်။ သူသည် နီကိုလတ်စ်၏ အိပ်ရာထက်သို့ ခြေပစ်လက်ပစ် ထိုင်ချလိုက် သည်။ ဂျိုစီနှင့်သူ့သား...။ သူ အတိအကျ တားမြစ်ထားပါလျက်နှင့် သူတို့နှစ်ယောက် အပေါင်း အသင်း မလုပ်တော့ဟု သူ ယုံကြည်ခဲ့မိ၏။ အခုတော့ 'ရယ်လို့မောလို့၊ စကားတွေပြောလို၊ လက် ချင်းတွဲပြီး... မနေ့ညက အတူတူ' ဟူသောစကားများ။ ကြားရသမျှမှာ စိတ်သက်သာစရာမရှိ။ ဦး နှောက်တခုလုံး ပူထူလာသည်။ လက်သီးနှစ်ဘက်ကို ကျစ်ကျစ်ပါအောင် ဆုပ်ထားသည်။

မုန်းတီးခြင်းကို မမျိုသိပ်နိုင်။ အမျက်ဒေါသကို မချုပ်တည်းနိုင်။ မိမိမှာ စိတ်ဆင်းရဲစရာ ပြဿနာနှင့် ရင်ဆိုင်ခဲ့ရ၏။ ထိုပြဿနာကြောင့် ရင်ထဲ၌

http://www.shwezinu.com/



ဖြစ်ပေါ်နေသော ပူလောင်ပြင်းပြမှု ဟူသမျှသည် နီကို လတ်စ်နှင့်တွေ့လျှင် ငြိမ်းအေးစရာရှိသည်ဟု ယုံကြည်ခဲ့မိ၏။ အခုတော့ သူမျှော်လင့်ထားသမျှ သည် သဲထဲသွေန် ဖြစ်ရလေပြီ။ ဝမ်းနည်းခြင်းနှင့် ယူကျုံးမရဖြစ်ခြင်းတို့သည် သူ့ရင်ကို ပြင်းစွာ ရိုက်ခတ်သည်။ အချစ်ကြီး လွန်းသဖြင့် အမျက်ကြီးသောစိတ် ဝင်လာသည်။ အလွန်ကြီးမားသော မိဘ၏ မေတ္တာကို မထောက်။ သူ အခုကြားလိုက်ရသည့် သတင်းမှာ ဟုတ်မှ ဟုတ်ပါလေစ။ ဖြစ်နိုင် မည်ဟု သူ မထင်။ သူ မယုံကြည်နိုင်။

' ဂရေစီယာ ' ဟုခေါ်သည်။ သူ့အသံမှာ တုန်ယင်လျက်ရှိ၏။

' မင်း အခုပြောတာဟာ လုံးဝမဖြစ်နိုင် ဘူးကွ၊ ငါ့သားဟာ မစ္စတာ ဘာတန်တို့ဆီ အလည်သွားတာ ဖြစ်ပါလိမ့်မယ်၊ မင်း သိတာ မှားလို့ ဖြစ်လိမ့်မယ် ထင်တယ် ကွ '

ဂရေစီယာက သူ့ကို ငြိမ်ဆိတ်စွာ ပြန်ကြည့်နေသည်။ သူ့ မျက်လုံးများကတော့ လျောင်ပြောင် ရယ်မောချင်သည့် အရိပ်လက္ခဏာများကို ဖော်ပြနေသည်။ ပြီးတော့ ... ပခုံးကို အသာအယာ တွန့်သည်။

'ကျွန်တော့် နေရာဟာ ဂန်မင်း မကြိုက်တာကို ဆန့်ကျင်ပြီး ပြောရမယ့်နေရာ မဟုတ်ပါဘူးခင်ဗျာ၊ ကျွန်တော်ဟာ ကိုယ့်အဆင့်နဲ့ ကိုယ့်နေရာကို ကောင်းကောင်း သိတတ်တဲ့လူပါ၊ မဟုတ်မှန်ပဲနဲ့ လုပ် ကြံပြီး ပြောချင် တဲ့ ဆန္ဒလဲ မရှိပါဘူး၊ အကယ်၍ ဂန်မင်းအနေနဲ့ ကျွန်တော် မဟုတ် မမှန်လုပ်ကြံ ဇာတ်ခင်းပြီး ပြောတယ် လို့ ယူဆယင်...'

http://www.shwezinu.com/



'မဟုတ်ဘူး... ဂရေစီယာ၊ ဒီလိုလည်း မဟုတ်ဘူး '

ဘရန်းဒီးက ဂရေစီယာဒ မျက်နှာကို စူးစမ်း သောအကြည့်ဖြင့် ကြည့်သည်။

' မင်းအပေါ်မှာ ငါ သံသယ မဖြစ်ပါဘူး၊ ဒါပေမယ့်... အခုထိ ...'

သူသည် စကားကို မဆက်တော့ပဲ သူ့နားထင်နှစ်ဘက်ကို လက်နှစ်ဘက်ဖြင့် ဖိထားသည်။

'ဆီညော်အဖို့ ယုံကြည်ဖို့ ခက်တယ် ဆိုတာ ကျွန်တော် နားလည်ပါတယ် ခင်ဗျာ '

ကောင်စစ်ဝန်က သူ့အပေါ်၌ သံသယမရှိဟု သိလိုက်ရသောအခါ ဂရေစီယာ၏ လေသံမှာ ပြောင်းသွားသည်။ သူ့ လေသံမှာ အောင်နိုင်သူတဦး၏ လေသံ။

'ကျွန်တော်ဟာ ဂန်မင်းကိုရော ဂန်မင်းရဲ့သားကိုပါ လေးစားမှု အပြည့်အဝ ရှိနေတယ်ဆိုတာ ယုံပါခင်ဗျာ၊ ကျွန်တော်ဟာ ဂနလမင်းကို စိတ်ထိခိုက် အောင် လုပ်ဖို့ အင်မတန်မှ ဂန်လေး တဲ့လူတယောက်ပါ။ ဒါပေမယ့် ... ကျွန်တော် ပြောခဲ့တဲ့ စကား အတွက် သက်သေခံ အထောက် အထားပြဖို့ လိုအပ်မယ်ဆိုရင်တော့...'

ဘရန်းဒီးက ဆက်ကနဲ ခေါင်းထောင်ကြည့်သည်။ ဂရေစီယာက သူ့လက်ထဲမှ ကြေမွနေသော စာ တစောင် ကို လှမ်းပေးသည်။

http://www.shwezinu.com/

'ကျွန်တော် ကောက်ရထားတဲ့ စာပါ ဆီညော်၊ လုံးချေပြီး ပစ်ထားပါတယ်၊ ဉယျာဉ်ထဲက တွေ့တာပါ၊ တခြား စာတွေလည်း အများကြီး ရှိပါသေးတယ်၊ ဒါပေမယ့်... ဒီတစောင်ဆိုရင် လုံလောက်ပါလိမ့်မယ် '

ကောင်စစ်ဂန်က စာကို လှမ်းယူပြီး ဖြန့်ကြည့်သည်။ မျက်စိများက မှုန်ဝါးဝါး ဖြစ်နေသဖြင့် ခဲတံနှင့် ရေးထား သည့် လက်ရေးကို သဲသဲကွဲကွဲမမြင်ရ။ ' ချစ်သော ' ဟူသော စကားလုံးမှလွဲ၍ အခြား စာလုံး များကို ဖတ်၍မရ။ သူသည် မျက်မှန်ကို ထုတ်၍ တပ်လိုက်သည်။

ကျွန်တော် ချစ်သော ဂျိုစီ၊ ကျွန်တော် ခင်ဗျားနဲ့ပဲ နေချင်တယ်ဗျာ။ အချိန်ရှိသမျှ ခင်ဗျားနဲ့သာ နေရ ရင်...။

သူသည် စာကို အစမှအဆုံး တလုံးမကျန် ဖတ်ကြည့်သည်။ ဂျိုစီအား မည်မျှလောက် ခင်ကြောင်း ချစ်ကြောင်း ကို ကလေးအမြင်၊ ကလေးအတွေးဖြင့် သူ့သား ရေးထားသည့် စာ...။ ပထမတော့ ကောင်စစ်ဂန်၏ မျက်နှာသည် နီရဲလျက် ရှိသည်။ နောက်တော့ ဖြူရော်ရော် ပြန်ဖြစ်သွားသည်။ သူ့ ရင်မှာ ဟာ သလို ဖြစ်သွားရသည်။ သူ့ခေါင်းသည် မူးနောက်နောက် ရီဝေဝေ ဖြစ်လာသည်။ ထို့ နောက် ဟာ နေသော ရင်ထဲတွင် ဒေါသအရှိန် ပြန်တက်လာသည်။

ဂရေစီယာ၏ နှုတ်မှ ခပ်တိုးတိုးရေရွက်သံ ထွက်လာသဖြင့် ဘရန်းဒီးက မော့ကြည့်သည်။

http://www.shwezinu.com/



'သူတို့ ပြန်လာကြပြီ… ဆီညော် '

ဂရေစီယာက ပြတင်းပေါက် အပြင်ဘက်သို့ လက်ညှိုးထိုးပြ သည်။

' ကြည့်ပါ ခင်ဗျာ၊ ဟိုမှာ မြင်တယ် မဟုတ်လား၊ ဥယျာဉ်ထဲမှာပါ '

တခဏမျှ ငြိမ်ဆိတ်နေသည်။ ကောင်စစ်ဂန်သည် ထိုင်ရာမှမထ။ လှုပ်ရှားခြင်းလည်းမရှိ။

'ကျေးဇူးတင်တယ် ဂရေစီယာ၊ အခုလောလောဆယ်တော့ အသာနေဦး၊ ငါ့သားကိုတော့ အခုချက် ချင်း တွေ့ချင်တယ် '

ဂရေစီယာအခန်းထဲမှ ထွက်သွားပြီးသည့် နောက်တွင်လည်း ဘရန်းဒီးသည် ထိုင်နေရာမှ ရုတ်တ ရက်မထနိုင်။ မိနစ်အနည်းငယ်ကြာမျှ ငေးငိုင်လျက် ရှိသည်။ ထို့နောက် နေးကွေးလေးကန်စွာထ၍ ရပ်သည်။ သူ့လှုပ်ရှားပုံမှာ အသက်မဝင်။ သူသည် အသက်တချက်ပြင်းစွာ ရှူလိုက်၏။ ပြတင်းပေါက်မှ လှမ်းကြည့် လျှင် ဥယျာဉ်ကို မြင်နိုင်သည်။ သို့သော်လည်း သူ ကြည့်ချင်စိတ်မရှိ။ သူသည် အခန်းထဲမှ ထွက်ကာ အောက်ထပ်သို့ ဆင်းလာခဲ့သည်။ သူ ခန်းမထဲ အရောက်တွင် အိမ် ရှေ့တံခါးမကြီး ဖြုန်းကနဲ ပွင့်သွား သည်။ ဖြတ်ကနဲ ဝင်လာသည့် နေရောင်နှင့်အတူ ပြေးဝင်လာသော သူ့သား နီကိုလတ်စ်…။

နီကိုလတ်စ်သည် သူ့အဖေကို ချက်ချင်းမြင်သည်။ ဂမ်းသာသွားသည့် အရိပ်လက္ခဏာကိုလည်း ဖော်ပြသည်။ မလုံမလဲသော စိတ်ဖြင့် တွန့်ဆုတ်

http://www.shwezinu.com/



တွန့်ဆုတ်လည်းဖြစ်နေသည်။ သူ့အဖေကို ပြုံး၍ ကြည့်သည်။ သို့သော်လည်း သူ့အပြုံးမှာ ကြောက်စိတ်ဖြင့် ယှဉ်လျက် ရှိသည်ကို ကောင်စစ်ဝန်က သတိထား မိသည်။

'ကောင်းသော နံနက်ခင်းပါ... နီကိုလတ်စ် ' ဟု ဘရန်းဒီးက ခြောက်တွေ့သောအသဖြင့် နှုတ် ဆက်စကား ရေရွက်သည်။

' ကောင်းသော နံနက်ခင်းပါ...ဖေဖေ' ဟု နီကိုလတ်စ်က ပြန်၍ ရေရွက်သည်။

' မင်း မနက်စာ စားခဲ့ပြီးပြီလား '

' စားခဲ့ပြီ ဖေဖေ '

' အင်း...၊ မင်းက ငါ့ထက် ကံကောင်းတာပေါ့လေ၊ ဒီလိုဆိုရင် ငါမနက်စာ စားတာလောက်တော့ မင်းသည်းခံနိုင်ကောင်းပါရဲ့ '

ဘရန်းဒီးသည် ထမင်းစားခန်းထဲသို့ ဝင်ကာ ကုလားထိုင် တလုံးတွင် ထိုင်သည်။ စားပွဲပေါ်တွင်မူ မုန့်၊ သစ်သီးနှင့် ကော်ဖီများ ထည့်ထားသည့် မနက်စာ လင်ဗန်းသည် အသင့်ရောက်လျက်ရှိ၏။ သူသည် ကော်ဖီတခွက် ငှဲ့ထည့်သည်။ သူ့သားကို ထိုင်ဖို့မပြော။ သူငယ်သည် တရားရုံးရှေ့မှောက် ရောက်နေသည့် အကျဉ်းသား တယောက်သဖွယ် သူ့အဖေနှင့် မျက်နှာချင်း ဆိုင်ကာ မျက်နှာကလေး ငယ်ငယ်ဖြင့် ရပ်နေ ရရှာသည်။ မနက်စာ စားမှုသောက်မှု အဆင်ပြေမပြေ စောင့် ကြည့်နေသော ဂရေစီယာသည်


http://www.shwezinu.com/

အဆင်ပြေ မှန်း သိသောအခါ အခန်းထဲမှ အသာကလေး ပြန်ထွက်သွားလေသည်။

' ငါက ဒီနေ့မနက် ပြန်ရောက်လာတော့ ...' ဟု ကောင်စစ်ဝန်က စကားစသည်။

' မင်း ငါ့ကို ဆီးကြို နေလိမ့်မယ်လို့ မျှော်လင့်လာခဲ့တယ် '

'ဒါပေမယ့် ... ဖေဖေ ...၊ သားသားက ဖေဖေ ... ဒီလောက်မြန်မြန်ဆန်ဆန် ပြန်ရောက်လာလိမ့် မယ်လို့ မထင်လို့ ...'

' ဟုတ်ပါပြီ...'

ဘရန်းဒီးက နှုတ်ခမ်းများကို မဲ့လိုက်သည်။

' ဒါကတော့ ထားလိုက်ပါတော့...၊ မင်း ဘယ်သွားနေတာလဲ '

' ဂျိုစီ ... နဲ့ '

' မနေ့ညက သူတို့အိမ်မှာ သူနဲ့အတူ အိပ်ခဲ့တယ် မဟုတ်လား '

' ဟုတ်ကဲ့ ... ဖေဖေ '

ဘရန်းဒီးက မုန့်တခုကို ကောက်ယူသည်။

'မင်း သူနဲ့ စကားမပြောပါဘူးလို့ ငါ့ကို ကတိပေးထားခဲ့တယ် မဟုတ်လား '

http://www.shwezinu.com/

' သားသား ပထမကမပြောပါဘူး ဖေဖေ၊ နောက်ကျတော့ နည်းနည်း စပြောမိတယ် '

ပြောယင်းကပင် သူငယ်၏ မျက်လုံးအစုံတွင် မျက်ရည်များ စို့လာသည်။

' ဒါပေမယ့် ... နောက်ဆုံးကျတော့ သူနဲ့စကားမပြောလို့ မဖြစ်တော့ဘူး၊ တယောက်တည်း နေရတာ သိပ်ပျင်းစရာ ကောင်းပါတယ်...၊ ပြီး... ပြီးတော့ ... ကြောက်လဲ ကြောက်လာတယ် '

' ဟုတ်ပါပြီ၊ ထားတော့၊ ဒါနဲ့ ... မင်းက ဘယ်သူ့ကို ကြောက်တာလဲ၊ ပြောစမ်းပါဦး '

မျက်တောင်ရှည်ကြီးများအောက်မှ မျက်လုံးများသည် စတိုခန်း တံခါးဘက်သို့ တချက်မျှ ခိုးကြည့် သည်။ အသံကို တိုးနိုင်သမျှ တိုး၍ သူ့အဖေ၏ မေးခွန်းကို ဖြေသည်။

' ဂရေစီယာကို ကြောက်တာပါ ဖေဖေ '

'ဘာ' ဘရန်းဒီးက ဒေါသဖြင့် ကိုယ်ကို ဆတ်ကနဲ မတ်လိုက်သည်။

' မင်း ငါ့ကို ဘာကြောင့် လိမ် ပြောရ တာလဲ '

' သားသား မလိမ်ပါဘူး..ဖေဖေ၊ သူက သားသားကို ခြောက်လို့ပါ၊ မက်ဂ်ဒါလီးနားက ဖေဖေ ပြန်လာရင် မတိုင်ပါနဲ့လို့ သားသားကို

http://www.shwezinu.com/



ပြောထားတာနဲ့၊ သားသား ဂျိုစီနဲ့လိုက်သွားတာ အဲဒါကြောင့်ပါ...၊ သားသား အမှန် အတိုင်းပြောတပါ၊ ယုံပါ ဖေဖေ၊ သားသား မလိမ်ပါဘူး '

' ငါ မင်းကို မယုံတော့ဘူး နီကိုလတ်စ် '

ဘရန်းဒီးက တင်းတင်းမာမာပင် ပြန်ပြောသည်။

'မင်းဟာ ငါ့ကို လှည့်စားဖို့အတွက် လုံးဂ မခိုင်လုံတဲ့ လုပ်ဇာတ်ကို ဖန်တီးလာတာပဲ '

' မဟုတ်ဘူး ဖေဖေ၊ လုံးဂမဟုတ်ဘူး၊ သားသား မလိမ်ပါဘူး၊ တကယ်ပြောတာပါ '

မျက်ရည်များ သည် လျှံကျလာကာ သူ့နာခေါင်းနှင့် သူ့ပါးပြင်ဘက်သို့ လိမ့်ဆင်းလာနေကြ၏။

' သားသား အမှန် အတိုင်း ပြောရရင်... ဂရေစီယာ က သိပ်ကြောက်စရာကောင်းတယ် ...ဖေဖေ၊ သူ့မှာ ဓားရှိတယ်၊ သားသား ဖမ်းမိလာတဲ့ ငါးလေးရဲ့ ခေါင်းကိုတောင် သူဓားနဲ့ ခုတ်ပစ်တာ၊ စားပွဲပေါ်မှာ သွေးတွေ နီရဲသွားတာပဲ၊ သူ သားသား ကိုတောင်မှ သတ်လိမ့်မယ်လို့ ထင်ခဲ့တာ၊ ဖေဖေ သတိမထားမိဘူးလားဟင်၊ သူဟန်ဆောင် နေတာ ဖေဖေ၊ သူက သားသားတို့ကို တချိန်လုံး သရော် နေတာ၊ သူဟာ လူဆိုး လူညစ်၊ ဖေဖေနဲ့ ဂျိုစီလို လူကောင်း မဟုတ်ဘူး ဖေဖေ '

' မင်းက ငါ့ကို ဒီကောင်နဲ့ နှိုင်းရသလားကွ ' ဟု ဘရန်းဒီးကအော်သည်။

http://www.shwezinu.com/

အော်သံကြောင့် နီကိုလတ်စ် တုန်သွားသည်။ နောက်သို့ ဆုတ်သွားသည်။ ထို့နောက် ဂမ်းနည်း ပက်လက်ဖြင့် ငိုချလိုက်သည်။

' မင်းမှာ အသိဉာဏ် မရှိတော့ဘူးလားကွ ဟေ '

ဘရန်းဒီးက ဒေါသတကြီးဖြင့် ဆက်ပြောသည်။

'ဓား တွေရော၊ သွေးတွေရော၊ ခေါင်းဖြတ်တာရော စုံနေတာပဲ၊ မင်းကို တယောက်ယောက်က သင် ပေးလိုက် တာပဲ ဖြစ်မယ်...၊ ဂရေစီယာကို ပျက်စီးအောင် ချောက်တွန်းဖို့လုပ်တာ၊ ငါ လုံးဝလက်မခံဘူး၊ ဂရေစီယာ ဟာ လူကောင်းကွ၊ အစစအရာရာ ယုံကြည်စိတ်ချရတဲ့ လူတယောက်ကွ သိလား၊ မင်း သူငယ်ချင်း ဟို ... အောက်တန်းစား တေလေကြမ်းပိုးထက် အဆင့်အတန်းအများကြီး မြင့်တယ် '

' မဟုတ်ဘူး ဖေဖေ၊ ဖေဖေထင်တာ လွဲနေတယ် '

နီကိုလတ်စ်က ရှိုက်ကြီးတငင် ငိုကြွေးနေရာမှ ပြန်ပြောသည်။

' ဂျိုစီဟာ လူကောင်းဖေဖေ '

ကောင်စစ်ဝန်သည် အံကိုကြိတ်ထားသည်။ သူ့လက်နှစ်ဘက်ဖြင့် ကုလားထိုင် လက်တန်းများကို တင်းကျပ်စွာ ဆုပ်ကိုင်ထားသည်။ ဒေါသကြောင့် တကိုယ်လုံး ပူထူနေသည်။

http://www.shwezinu.com/



' မင်း မိတ်တွေကသာ လူကောင်း ဆိုပါတော့၊ ဟော့ … နေပါဦး၊ မင်း သူ့ကို တော်တော် ခင်သလား '

' ခင်တယ် ဖေဖေ '

' မင်း သူ့ကို ချစ်ကော ချစ်သလား '

သူငယ်က မျက်ရည်များကြားမှနေ၍ သူ့အဖေ၏ မျက်နှာကို ကြည့်ကာ ခေါင်းညိတ်သည်။

' သားသားတို့ လူတိုင်းကို ချစ်ရမယ်လို့ သင်ထားတယ် မဟုတ်လား ဖေဖေ '

ကောင်စစ်ဝန်၏ တကိုယ်လုံး မြွေတကောင် အပေါက်ခံလိုက်ရသည့်နှယ် ဆတ်ကနဲ ဖြစ်သွားသည်။

' လူကြီးမင်း ကျွန်တော့်ကို ဆရာ လုပ်မနေပါနဲ့ ခင်ဗျား၊ အခုချက်ချင်း ငါ မေးတာ ပြောစမ်း၊ ဟိုအကောင် မင်းကို မနေ့ညက ဘယ်ခေါ်သွားသလဲ '

' သူ့ အိမ်ကို '

' သူ့အိမ်က ဘယ်မှာလဲ '

' ကော်ရီယင်တီလမ်းမှာ '

http://www.shwezinu.com/

'ကောင်းတာပေါ့ကွာ၊ ဆန်ဂျော်ဂျီ မြို့ရဲ့ အဆိုးဆုံးအညစ်ပတ်ဆုံး၊ အောက်တန်းအကျဆုံးဆင်းရဲ သားရပ်ကွက်ပေါ့ '

'မဟုတ်ဘူး ဖေဖေ '

နီကိုလတ်စ်က တံတွေးတချက်ကို မျိုချလိုက်သည်။

'သူတို့ရပ်ကွက်ကသန့် ရှင်းပါတယ်၊ တောင်တန်းကြီးတွေနဲ့ ရှုခင်းလှလှပပတွေလည်း ကောင်းကောင်း မြင်ရတယ်၊ လိပ်ပြာ တွေဆိုလည်း အများကြီးပဲ၊ ဂျူစီဖမ်းပြီး စုထားတာ၊ ပြီးတော့ သိပ်အရသာရှိတဲ့ ဟင်းလည်း စားခဲ့ရ တယ်၊ ပါကွီတာ ချက်ထားတာ...၊ မာရီယာက မချက်နိုင်ဘူး၊ ဘာကြောင့်လဲ ဆိုတော့ သူက တနေ့ လုံး အဂတ် လျှော်ရတယ်၊ အဘိုး ပက်ဒရိုကတော့ သိုးမွေးအကျီထိုးတဲ့ အလုပ်ကလွဲပြီး တခြားဘာမှ မလုပ်နိုင် တော့ဘူး...၊ ပြီးတော့ '

သူ့အဖေ၏ တင်းမာလွန်းသော မျက်နှာထားကြောင့် နီကိုလတ်စ် စကားမဆက်နိုင်။ တန့်သွားသည်။ သူသည် သူ့အဖေ၏ အပြုအမူကို နားမလည်နိုင်အောင် ဖြစ်လျက်ရှိသည်။ သူ့ အတွေ့အကြုံကို ပြောပြနေစဉ် ကလေးပီပီ ချက်ချင်း အာရုံပြောင်းကာ အငိုတိတ်သွားသော်လည်း အခုကျတော့ တလောထပ်၍ ငိုလာပြန်သည်။

'ဒီလောက် အောက်တန်းကျတဲ့ အနည်ာတ လူတန်းစားတွေနဲ့ ငါ့သား ဘယ်လောက်အထိ ခင်မင် ရင်းနှီးခဲ့သလဲဆိုတာ သိရတာ ကျေနပ်စရာ

http://www.shwezinu.com/



အားရစရာကြီးပါပဲကွာ၊ ကဲ ... ဆက်စမ်းပါဦး၊ နောက် ထပ် ဘာတွေများ မြင်ခဲ့ရသေးလဲ '

သူငယ်က တချက်မျှ အားရပါးရ ရှိုက်သည်။

' သားသားတို့ ဖဲကစားကြသေးတယ် '

' ဘယ်သူတွေလဲ '

' သားသားတို့ အားလုံးပဲ '

' သားသားတို့ အားလုံးပဲဆိုတာ ဘယ်သူတွေကို ပြောနေတာလဲ '

' ဂျိုစီနဲ့ ပက်ဒရိုရယ်၊ နောက်ပြီးတော့ သားသားရယ်၊ ပါကွီတာယ်၊ ဂျူအာနာရယ်၊ လူဂီဆာရယ်၊ ပြီး တော့... အီလီနာနဲ့ မကစားဘူး၊ သူက အိပ်ရာ ခင်းနေတယ် '

ကောင်စစ်ဂန်၏ တကိုယ်လုံးသည် ကျောက်ရုပ်ကြီး တရုပ်သဖွယ် တောင့်တင်းလျက်ရှိလေသည်။

' သူက ဘယ်သူ့အိပ်ရာ ခင်းနေတာလဲ '

' ဂျိုစီနဲ့ သားသားတို့အိပ်ရာ '

ကောင်စစ်ဂန်၏ ဦးခေါင်းမှာ နောက်ကျူ လာသည်။ မူးနောက် ရီဝေ လာသည်။ သူသည် ကိုယ်ကို ရှေ့သို့ ကိုင်းလိုက်၏။

http://www.shwezinu.com/



' မင်းနဲ့ သူနဲ့ ... '

အံကိုကြိတ်၍ ခပ်တိုးတိုး ရေရွတ်သည်။ ထို့နောက် စကားတလုံးမှ ဆက်မပြော နိုင်တော့ ချေ။

အခန်းထဲတွင် တိတ်ဆိတ် ငြိမ်သက်နေသည်။ ချက်ချင်း အရုပ်ကြိုးပြတ် ဖြစ်သွားသော သူ့အဖေ၏ ပုံပန်းကိုကြည့်ကာ နီကိုလတ်စ် အငိုတိတ်သွားသည်။ နားမလည်နိုင်သော အကြည့်ဖြင့်သူ့အဖေအား တွေတွေ ငေးငေးကြည့်လျက်ရှိသည်။

' သားသား... ဘာလုပ်ခဲ့လို့လဲ ဖေဖေ၊ သားသား ဘာလုပ်ခဲ့လို့လဲ '

ကောင်စစ်ဂျန်သည် ထိုင်ရာမှ ထသည်။ ဒယီးဒယိုင်နှင့်သုံးလေးလှမ်း လျှောက်သွားသည်။ သူ့ကိုယ် သူ ကောင်းစွာ မထိန်းနိုင်။ လဲကျသွားတော့မည့် ပုံမျိုး...။ ဆောင်းမီးဖိုနံရံကို လှမ်းကိုင်ကာ အားပြုထားသည်။ သူ့မျက်နှာကိုလည်း တဘက်သို့ လွှဲထားသည်။

' မင်းသွားတော့...၊ အခု လောလောဆယ် အပေါ်ထပ် မင်းအခန်းထဲမှာ ပြန်နေ...၊ နောက်မှ ငါ လာခဲ့မယ် '

အခန်းထဲတွင် နောက်တကြိမ် ပြန်၍ တိတ်ဆိတ်သွားပြန်သည်။ စောစောကထက်ပို၍ ငြိမ်ဆိတ်သွားသည်။ ကောင်စစ်ဂျန်သည် နီကိုလတ်စ် ထွက်သွားပြီးသည့်နောက် အချိန်တော်တော် ကြီးကြာမျှငေးငိုင်လျက်ရှိ၏။ မီးမရှိသော မီးဖိုဘေး၌ ရပ်ကာ တွေးမိတွေးရာများကို တွေးလျက်ရှိ သည်။

http://www.shwezinu.com/


တခေါင်းလုံး နောက်ကျ ရှုပ်ထွေးလျက်ရှိရ၏။ သူ ဘာလုပ်ရပါမည်နည်း။ နောက်ဆုံးတွင် သူ သည် သက်ပြင်းရှည်ကြီးတချက်ကို ချသည်။ သူ့အတွက် အကောင်းဆုံးနည်းလမ်းမှာ တခုတည်း သာရှိ၏။ ထိုနည်းလမ်းကိုသုံးမှ ဖြစ်ပေတော့မည်။

သူသည် လေးကန်ချည့်နဲ့သောခြေလှမ်းများဖြင့် ခန်းမကို ဖြတ်ကာ ဧည့်ခံခန်းမကြီးအတွင်းသို့ဝင် သည်။ စားပွဲ တလုံးတွင် ထိုင်သည်။ သူ့ဖောင်တိန်ကိုဖြုတ်၍ စာတစောင်ရေးသည်။

ပါမောက္ခ ယူဂျီနီးပေးဗီးလီး

အမှတ် ၂၁၉၊ ကက်ပူဆင်လမ်း၊

ပါရီမြို့၊ ပြင်သစ်နိုင်ငံ။

အမြန်ဆုံးလာပါ။ သေရေးရှင်ရေးတမျှ အရေးကြီးသောကိစ္စဖြစ်ပေါ်နေသည်။

စာရင်တန်ဘရန်းဒီး

သူသည် လူခေါ်ခေါင်းလောင်းခလုတ်ကိုနှိပ်သည်။ ဂရေစီယာ ဝင်လာသောအခါ လတ်ထဲမှ စာရွက်ကို လှမ်းပေးသည်။

' ကားယူပြီး မြို့ထဲသွား၊ ဒီကြေးနန်းကို ချက်ချင်းရိုက် '

' ဟုတ်ကဲ့ ...ခင်ဗျ '

ဘရန်းဒီးသည် ထိုင်လက်စနေရာတွင် ဆက်ထိုင်နေဆဲပင်ဖြစ်သည်။ ကားစက်နှိုးသံနှင့် ကားထွက်သံ များကြားရသည်။ သူ့အကြည့်သည်

http://www.shwezinu.com/



ဥယျာဉ်ဆီသို့ ရောက်သွားသည်။ သူ့နှလုံးသား သည်မီးကဲ့သို့ ပူလောင်လာသည်။ ဒေါသအစိုင်အခဲသည် ကြီးထွားလာသည်။ ပေါက်ကွဲလုမတတ် ပြင်းထန်လာသည်။

ဥယျာဉ်မှူးသည် စိမ်းလန်းစိုပြည်သော မြက်ခင်းပြင်၏ အစွန်းတဘက်တွင် ရပ်လျက်ရှိ၏။ အကျႌ ချွတ်ထားသဖြင့် ဖါဖင်းသော သူ့အသားအရောင်သည် နေဓာင်အောက်တွင် ကေတာက်ပလျက်ရှိ လေသည်။ သူ့လက်တွင်းမှ မြက်ခုတ်ဓားသည် တက်သွားလိုက် ပြန်ကျလာလိုက်...၊ သူ၏ လှုပ်ရှား ပုံကို ကြည့်နေ ရသည်မှာ ညီညွတ်ပြေပြစ်ခြင်းရှိလှသည်။ ကြည့်လို့ပင်ကောင်းနေ သေးတော့၏။ ကြည့်ယင်း ကြည့်ယင်း နှင့်ပင် ကောင်စစ်ဂန်၏ ရင်ထဲတွင် မုန်းတီးစက်ဆုပ်ခြင်းသည် ဖြစ်ပေါ်လာ ပြန်သည်။ သူ့လက် ချောင်းများသည် ကိုင်ထားသည့် ဖောင်တိန်ကို တင်းကျပ်စွာ ဆုပ်ထားသည်။

ဖောင်တိန်ကျိုးသံ ထွက်လာသည်။ သို့သော်လည်း သူ့သတိမပြုမိ။ ဥယျာဉ်မှူးကိုသာ ပြင်းထန်သော အမုန်းစိတ်ဖြင့် မျက်တောင်မခတ် စူးစူးစိုက်စိုက်ကြည့်နေမိသည်။ ဟို ... အဖေး တောင်တန်းပြာကြီးများကို ကျောပေး ၍ လှုပ်ရှားနေသော လူ...။ နေရောင်အောက်တွင် ဖင်းကာနဲ လက်ကာနဲ ပြိုးပြိုးပြက်ပြက် အရောင် ထွက် နေသော ဓား...။

***************

http://www.shwezinu.com/

## အခန်း (၁၄)

နောက်လေးနာရီ အတွင်းမှာပင် ပါရီမြို့မှ ကြေးနန်းတစောင် ကာဆာဘာရီဇာ ဂေဟာသို့ ရောက်လာ သည်။

မနက်ဖြန် ကြာသပတေးနေ့ ညနေ ၅း၃ဂ နာရီ ရောက်မည်။ ထိုအချိန်ထိ စိတ်ကို အေးအေးထားပါ။

ပောလီးဗီး

ပါမောက္ခသည် ကတိတည်သူတဦးဖြစ်သည်။ နောက်တနေ့ နေ့ခင်း မီးရထား ဆန်ရော်ဂျီ ဘူတာ သို့ ဆိုက်ရောက်သောအခါ အသားအရောင် ခပ်ဖျော့ဖျော့၊ အလွန်စေ့စပ်သေချာပုံရသည့် မျက်နှာထား၊ သေးငယ် ကျဉ်းမြောင်း သလောက် စူးစူးရှရှနိုင်လွန်း လှသော မျက်လုံးအစုံ နှင့် ခရီးဖေးသွား သူများခြုံလေ့ ရှိသော ဂတ်ရုံအနက်ရောင် ခြုံထားသည့် အရပ်ပုပု လူ တယောက်သည် ရထားတွဲ ပေါ်မှ သွက်လက် ဖျတ်လတ် စွာ ဆင်းလာပြီး သူ၏ သေးငယ်နုးညံ့သော လက်ဖဝါးများဖြင့် ဟာရင် တန်ဘရန်းဒီး၏ လက်ကို ဆွဲဆုပ် ထားလေသည်။

'ဘယ်လိုလည်း မိတ်ဆွေကြီးရယ်'

မှုန်မှိုင်းရီဝေလျက်ရှိသော ကောင်စစ်ဝန်၏ မျက်နှာကို တချက်မျှကြည့် ၍ အကဲခတ်သည်။ သူ့မျက်နှာထားနှင့် အမူအရာသည် ' ကျွန်တော် ရောက်လာပြီပဲ၊ မပူ ပါနဲ့တော့ ' ဟု ပြောနေသည့် နယ် ရှိသည်။

http://www.shwezinu.com/



ရာသီဥတုမှာ စိမ့်၍ အေးလျက်ရှိသည်။ သူတို့ကားထဲရောက်သည်နှင့် တပြိုင်နက် မိုးတဖွဲဖွဲကျလာ သည်။ ဆိပ်ကမ်းနှင့် ပင်လယ်ပြင်ကို ပြက်ပြက်ထင်ထင် မမြင်ရ။ အားလုံး မှုန်ဝါးဝါး ဖြစ်သွားလေပြီ။

' ကျွန်တော် ခင်ဗျားရေးလိုက်တဲ့စာရတယ် '

ဟေးလီးဗီးက မျက်နှာကို မလှည့်။ ကားရှေ့တည့် တည့်သို့ ကြည့်နေရာမှ စ၍ စကားပြောသည်။

' ဒါပေမယ့် အခုတော့ ... ခင်ဗျား အခြေအနေက သိပ်ဆိုးလာသလား '

'အတော်ကြီးကို ဆိုးလာတယ်' ဟု ဘရန်းဒီးက ခပ်တိုးတိုးရေရွတ်သည်။ စကားဆက်ပြောရန် ဟန်ပြင်သည့် အခါ ဟေးလီဗီးက သူ့လက်ဖြင့် ဘရန်းဒီး၏ ပေါင်ကို လှမ်း၍ ညှစ်သည်။

' ခု မပြောပါနဲ့ဦး၊ ကျွန်တော်တို့ အချိန်တွေ အများကြီးရှိနေပါသေးတယ်၊ စိတ်ကို အေးအေးထား စမ်းပါ မိတ်ဆွေကြီး ရယ်၊ ခင်ဗျားရဲ့ ဆန္ဒအတိုင်း ကျွန်တော် ရောက်လာပြီပဲဟာ'

အိမ်ဝင်း ထဲ ရောက်လာချိန်အထိ နှစ်ယောက်သား စကားမပြောကြ။

ခြံဝင်းအတွင်းရှိ ထိကရုံးပင် အခက်အလက်များသည် တွဲလောင်း ကျလျက်ရှိကြသည်။ မိုးရေစက်များသည် ထိုအကိုင်းအခက် များပေါ်ဂယ် တွဲလွဲခိုနေကြ၏။ တိမ်များ ဖုံးအုပ်လျက်ရှိသော တောင်တန်းကြီး များဆီမှ မတ်စောက် မြင့်မားသော ကျောက်ဆောင် ကျောက်သားများသည်

http://www.shwezinu.com/

အခိုးအငွေ့များ အကြားတွင် မြုပ်နေကြလေ သည်။ အသက်ဝင် လှုပ်ရှားလျက်ရှိနေသော လေသည် တီးတိုး ညည်းတွားလျက် ရှိ၏။ အုံ့ဆိုင်းနေသော မြူနှင်းကြားမှ နေ၍ ဟိုအဝေးရေပြင်ပေါ်ရှိ တံငါလှေတစီးကို လှမ်းမြင်နေရသည်။ လှေသည် အပေါ်သို့ မြောက်သွားလိုက်၊ အောက်သို့ ပြန်ကျလိုက်နှင့် နိမ့်တုံ့မြင့်တုံ ဖြစ်လျက်ရှိသည်။

အိမ်ထဲတွင်လည်း အပြင်အဆင် အမွမ်းအမံ များကြောင့် ထူးထူးခြားခြား ပြောင်းလဲလျက်ရှိ၏။ ထမင်းစားခန်းထဲဂယ် မီးများဖြင့် ထိန်ထိန်ညီး လျက်ရှိသည်။ ကြီးမားကျယ်ဝန်းသော ဧည့်သည် အိပ်ခန်းမှာ လည်း တခမ်းတနား။ မီးဖိုထဲမှ မက်ဂ်ဒါလီးနား တယောက်မှာလည်း နားအေးပါးအေး ထိုင်နေရသည်မရှိ။ အလုပ်နှင့် လက်နှင့်မပြတ်အောင် လှုပ်ရှားလျက်ရှိသည်။ ဂရေစီယာကတော့ အပေါ်ထပ် တက်သွားလိုက် ပြန်ဆင်းလာလိုက်...။ အကြိမ်ပေါင်းများစွာ ဆင်းလိုက် တက်လိုက်...။ ကိုလည်း မကြာခဏ အကဲခတ် သည်။ ဖယောင်းတိုင် မီးရောင်အောက်ဂယ် ကျောက်ပုစွန်ကို တမြုံ့မြုံ့ အရသာခံ၍ ဂါးရင်းက ဘရန်းဒီး စိတ်ခံစားမှု အခြေအနေကို လေ့လာသည်။ သို့သော် လည်း အရေးတကြီး မေးဖို့မြန်းဖို့၊ လုပ်ဖို့ ကိုင်ဖို့ စိတ်မကူး။ စောစောကတည်းက ဤကိစ္စကို အလျင်စလို မပြုရန် သူဆုံးဖြတ်ထားခဲ့ပြီးဖြစ်သည်။ ထိုကဲ့သို့ အချိန်ဆွဲ၍ လေ့လာခြင်းသည်ပင်လျှင် သူ၏ နည်းပညာတရပ်ဖြစ်သည်။ ဤနည်းပညာဖြင့် အခြေအနေ အရပ် ရပ်ကို သူ စိုးမိုးခြယ်လှယ်နိုင်ခဲ့သည်မဟုတ်ပါလား။

***************

http://www.shwezinu.com/



ယူဂျီနီး ဟေးလီးဗီးသည် သင်္ဘောပေါ်၌ တိုလီမိုလီ အသုံးအဆောင် ပစ္စည်းများ ရောင်းချသော ဈေးသည် တဦး၏ သား...။ ပါရီမြို့တော်သို့ လွန်ခဲ့သော အနှစ် နှစ်ဆယ်ခန့်က တက်လာခဲ့သူ...။ အတွေ့ အကြုံ အလွန်နည်းသော လူငယ်တဦး ဘဂ..။ ပါရီကို လာခဲ့သည့် ရည်ရွယ်ချက်မှာ ဆေးပညာ သင်ဖို့...။ သို့သော် လည်း ပဏာမ ပြုလုပ်သည့် စာမေးပွဲများတွင် အကြိမ်ကြိမ် များစွာ ကျရှုံးခဲ့ရပြီး နောက် သူရည်မှန်း ထား သော ဘွဲ့ကို မရပဲ ဒီပလိုမာရရုံမျှဖြင့် ကျေနပ်ခဲ့ရ၏။

ထိုအချိန်ခန့်တွင် ချားကော့၏နာမည်သည် အမြင့်ဆုံးသို့ ရောက်နေပြီ။ ချားကော့ကလည်း သူ့ပရိသတ်ထဲ၌ပါလာ သော ဒေါက်တာဟေးလီးဗီးကို စိတ်ဝင်စားခဲ့သည်။ ဟေးလီးဗီးကလည်း အလွန် ထင်ရှားကျော် ကြားနေသော ဤပုဂ္ဂိုလ်ကြီး၏ ဟောပြောပို့ချချက်ဟူသမျှကို မလွတ်တမ်း တက်ရောက် နာယူခဲ့ သည်။ ထိုပုဂ္ဂိုလ်ကြီးရှိရာ ဆယ်လ်ပက်ထရီးဟား ဆေးရုံရှိ လူနာဆောင်များသို့ အမြဲတစေသွား ရောက် လေ့လာခဲ့မိသည်။ တကြိမ် နှစ်ကြိမ်မျှ ဟစ်စတီးရီးယားခေါ် စိတ်ချောက်ချား လှုပ်ရှားမှု ဝေဒနာ သည် များ ကုသရေးတွင် ပါဝင်ကူညီခဲ့သည်။ ထို့နောက်တော့ သူ့ စိတ်ရောဂါ အထူးကု ဆေးပညာ ကို သင်ကြားတော့မည်ဟု ဆုံးဖြတ်ခဲ့လေ၏။

သို့သော်လည်း ဟေးလီးဗီးသည် သူ၏ တောဆန်လွန်းသော အပြုအမူ အပြောအဆိုနှင့် အလေ့ အကျင့်များကို ဖျောက်၍ မရခဲ့ပေ။ သူ့ဆရာ ချားကော့က သူ့လေယူ လေသိမ်းမျိုး၊ သူ့ဟန်ပန် အမူ အရာမျိုးကို ရအောင်

http://www.shweinu.com/



သင်ကြားပေးခဲ့ပါ၏။ မရ။ သူ့မှာ ဤအလုပ်မျိုး လုပ်နိုင်ဖို့ အရည်အချင်း မရှိ ဖြစ်ခဲ့ ရရှာ၏။

ကံအားလျော်စွာပင် သူ့အဖေထံမှ အမွေ အသင့်အတင့် ရခဲ့သဖြင့် ထိုငွေဖြင့် ဩစတီးယားနိုင်ငံ ဗီယင်နာမြို့သို့ သွားရောက်ပြီး ဂျုန့်၏ လက်အောက်၌ ပညာဆည်းပူးခဲ့ပြန်သည်။ ဟေးဒဲလ်ဘာတ်ဂ် တွင် ပြုလုပ်သည့် သင်တန်းတခုသို့ တက်ရောက်ခဲ့သည်။ မက်ကလင်းဘာတ်ဂ် စိတ္တဇ ဆေးရုံတွင် ဆယ့်ရှစ်လ ကြာမျှ ပညာရှာခဲ့သည်။ ထို့နောက် သူ ပါရီသို့ ပြန်သည်။ ဗီယင်နာမြို့မှ လာခဲ့သည့် အတွေ့ အကြုံ များ အပေါ် အထင်အမြင်ရှိသဖြင့် မက်စီဘာက်၌ ဖွင့်လှစ်ထားသော ' နာဗောစ် သီနစ် ဆေးကုဌာန' ဟု အမည် ပေးထားသော ဆေးခန်းငယ်လေးတခုမှ သူတို့၏ ဆေးကုခန်း၏အဖွဲ့ဝင် ဆရာဝန်တဦးအဖြစ် သူ့အား လက်ခံ ခဲ့သည်။ တချိန်တည်းမှာပင် သူသည် စိတ်ကျန်းမာရေး ပညာ ဌာနသို့ သွားရောက်၍ စိတ်ကျန်းမာ ရေးဆိုင်ရာ ဘာသာရပ်များ ပို့ချပေးခဲ့သည်။

ဤတွင် သူ့နာမည်ကို အထိုက်အလျောက် လူသိများလာခဲ့ပြီး လူနာ အတော်အသင့် လက်ခံ ကုသ ပေးလာ ခဲ့ရသည်။ အများအားဖြင့် သူ့ထံ လာကြသည့် လူနာများမှာ နူးရိုးဆစ်ခေါ် ဝေဒနာမျိုး ခံစား နေကြရသည့် အမျိုးသမီးလူနာများဖြစ်၏။ ဤအချိန်တွင် ဟေးလီးဗီး၏ အပြုအမူသည် အတော်ကြီး တိုးတက် လာခဲ့ပြီဖြစ်၏။ သူ့မျက်လုံးများသည် အမြင်ထက်သန်လာသည်။ သူ၏ ဆက်ဆံမှုသည် လိမ္မာ ပါးနပ် လာသည်။ ကျွမ်းကျင်မှုလည်းရှိလာသည်။ နေ့စဉ်နှင့်အမျှ သူ့နားနစ် ဘက်သည်

http://www.shwezinu.com/

လူနာများက ပြောပြ နေသည့် သူတို့၏ သောကများ၊ ဒုက္ခများကို နားထောင်နေရသဖြင့် ကြာလာတော့လည်း သူ့အတွေ့ အကြုံသည် ရှင်သန် ဖွံ့ဖြိုးလာသည်။ ဤသို့ဖြင့် သူသည် ရက်စက် လာတတ်သည်။

လိမ္မာ ပါးနပ်စွာဖြင့် ငွေညှစ် လာတတ်သည်။ လူနာကို ကြောက်လန့်အောင် ခြောက် လာတတ်သည်။

တခုသော နွေရာသီတွင် ပေါးလီးဗီးသည် ဘယ်လ်ဂျီယံ နိုင်ငံ နောက်ကီးမြို့သို့ အပန်းဖြေခရီး ထွက် ခဲ့ပြီး ရက် အနည်းငယ်ကြာမျှ နေထိုင်ခဲ့သည်။ ဤတွင် ထိုစဉ်က ဘယ်လ်ဂျီယံနိုင်ငံသို့ တာဝန် တခုဖြင့် ရောက်နေသော ဟာရင်တန်ဘရန်းဒီးနှင့် ရင်းနှီးစရာ အကြောင်း ဖြစ်လာခဲ့သည်။ ထိုအချိန်က ကောင်စစ်ဝန် ဘရန်းဒီးသည် မကြာခဏ စိတ်ညှိုးငယ်သော ဝေဒနာစွဲကပ်နေချိန် ဖြစ်သဖြင့် ပါရီမြို့သား စိတ်ကု ဆရာဝန်နှင့် ပြလျှင် ပို၍ ထိရောက်သည်ဟုသူထင်သည်။ ထို့နောက် အမျိုးအစားပုံစံချင်း တူသော်လည်း ပင်ကို စိတ်နေ စိတ်ထားချင်းကျတော့ အလွန်ကွာခြားသည့် လူ နှစ်ဦးသည် ဆုံမိခဲ့ကြ၏။ တကြိမ် ဆုံမိပြီးသည့် နောက်တွင် ဘရန်းဒီးသည် သူ၏ ဆရာဝန်အသစ်ထံသို့ အကြိမ်ပေါင်းများစွာ ရောက်ခဲ့ သည်။ ဤဆရာဝန်နှင့်တွေ့မှ သူ့မှာ ပို၍အကျိုး ရှိသည်ဟု ယုံကြည်ထားသော ဘရန်းဒီးသည် ပေါးလီးဗီး နှင့် ပို၍ ရင်းနှီးလာသည်။

ဤသို့ဖြင့် ရာထူးဂုဏ်ရှိန်မြင့်မားသော၊ အရာရာကို စိတ်တိုင်းမကျ ဖြစ်နေသော ကောင်စစ်ဝန်နှင့် အနည်းငယ် မျှသာ မရိုးမသားပြုတတ်သော

http://www.shwezinu.com/



လူရိုးဆရာဂန်တို့ကြားတွင် ခင်မင်မှုသည် တိုးတက် ခိုင်မာ လာသည်။ ထိုအချိန်မှ စ၍ ဘရန်းဒီး၏ လျှို့ဝှက်ချက်ဟူသမျှကို လက်ခံ နားထောင်နေရသော ပေါးလီးဗီး သည် ဘရန်းဒီး၏ သခင်သဖွယ် ဖြစ်လာခဲ့ရလေ၏။

ညစာ စားပြီးသောအခါ လူနှစ်ယောက်သည် ဧည့်ခံခန်းမကြီးအတွင်းသို့ ဝင်ကာ ကျောက်မီးဖို ဘေး တွင် ကုလားထိုင် တယောက်တလုံးစီဖြင့် ထိုင်ကြသည်။ ထိုအခါကျမှပင် ပေါးလီးဗီးသည် ဘရန်းဒီး ၏ ပြဿနာ များကို အေးအေးဆေးဆေးနှင့် နားထောင်မည့် အရိပ်လက္ခာကို ပြသည်။ တင်းကျပ်စွာ စေ့နေသော ဘရန်းဒီး ၏ နှုတ်ခမ်းများသည် ပွင့်လာသည်။ သူ့အဖြစ်ကို စ၍ပြောသည်။ ပေါးလီး ဗီးလည်း ဘရန်းဒီး ပြော နေသမျှကို စေ့စေ့စပ်စပ် နားထောင်သည်။ ဘရန်းဒီး၏ မျက်နှာ အနေအထားကိုလည်း လေ့လာ သည်။ ဘရန်းဒီး၏ ခံစားမှုနှင့် စိတ်လှုပ်ရှားမှုများကို လွတ်မသွား အောင်လည်း ဂရုတစိုက်ကြည့်သည်။ သူ့အကြည့်မှာ စူးစူးရှရှ ရှိလွန်းလှ၏ သူ့မျက်လုံးအစုံသည် အရောင် တလက်လက် ထွက်နေသည်။

စကားဆုံး၍ ဘရန်းဒီးက သူ့အကျႌ အိတ်ကပ်ထဲမှ စာရွက်ကလေး တရွက်ထုတ်၍ လှမ်းပေးလိုက် သောအခါတွင်မူ ပေါးလီးဗီး၏ မျက်လုံးများမှ ထွက်နေသော အရောင်သည် ဖြတ်ကနဲ ပျောက်သွားသည်။ ကောင်စစ်ဂန်သည် လူမော စိတ်မောဖြစ်သွားသည့်နှယ် သူ့နဖူး၌ စို့နေသော ချွေးစများကို သုတ်နေသည်။ ပေါးလီးဗီး ကတော့ စာကို နှစ်ခေါက်တိတိ ဖတ်သည်။ ထို့နောက် သူ့ခေါင်းကို ဆတ်လိုက်လေသည်။

http://www.shwezinu.com/



'ကျွန်တော့်အနေနဲ့ ဒီကိစ္စကို အလေးအနက်ထားပြီး မတွေးဘူးလို့တော့ မထင်စေချင်ဘူး ' ဟု ပေါးလီးဗီးက ပြောသည်။

'ခင်ဗျားအပေါ်မှာ သိပ်ပြီး သံယောဇဉ်မရှိတဲ့ လူတယောက် အနေနဲ့ဆိုရင်တော့ ဒီကိစ္စကို သိပ်ပြီး အရေးကြီးတဲ့ ကိစ္စကြီးတခုလို ဟန်ဆောင်ပြီး ပြောနေမှာပဲ၊ ကျွန်တော် အဲသလို မလုပ်ချင်ဘူး... ဘရန်းဒီး၊ ခင်ဗျားရဲ့ အသိဉာဏ်ကို အထင်အမြင်သေးလို့ပြောတာတော့ မဟုတ်ဘူးနော်၊ ဒီကိစ္စ နဲ့ ပတ်သက်လို့ ဖြစ်ပေါ်နေတဲ့ ခင်ဗျားရဲ့အမြင်ဟာ တဘက်သတ်ဖြစ်နေတယ် လို့ ကျွန်တော် ယူဆတယ်၊ ခင်ဗျားဟာ ကျွန်တော့်ရဲ့မိတ်ဆွေ၊ အမြင့်ဆုံးဆိုတဲ့ ရာထူး ဂုဏ်ထူးနဲ့ နေတဲ့လူတယောက်၊ နိုင်ငံတကာက ထိတ်ထိတ်ကြဲဆိုတဲ့ လူတွေရဲ့ အသိုင်းအဝိုင်းမှာ ကျက်စား နေရတဲ့အတွက် လောက အကြောင်းကို ကောင်းကောင်းကြီး သိနေတဲ့ လူတယောက်ပါ။'

ခင်ဗျားက လည်း သိပါတယ်လေ၊ အညစ်အကြေးဆိုတာ မထင်မှတ်တဲ့ နေရာ တွေမှာလည်း ရှိတတ်ပါတယ်၊ လုံးဝမရှိနိုင်ဘူးလို့ထင်ရတဲ့ လူတန်းစား တွေထဲမှာလည်း ညစ်ညမ်းယုတ်မာတဲ့ ဖောက်ပြန် မှုမျိုး တွေဟာ ရှိတတ်တယ်၊ အလှဆုံးဆိုတဲ့ပန်းတွေ နောက်ချေးပုံပေါ်မှာ ပေါက်နေတာမျိုး၊ အင်မတန် သန့်စင် လှပတဲ့ ပန်းကလေးတွေ ပေါက်နေတဲ့ ကန်ရေပြင်ဟာ အပေါ်ယံက ကြည်လင်နေပေမယ့် အောက်ခြေ မှာကျတော့ အလွန် ညစ်ပတ်စုတ်ပွဲ့တဲ့ အမှိုက်သရိုက်အညစ်အကြေးတွေနဲ့ ပြည့်နေတာမျိုး၊ ဒါမျိုး တွေလည်း ခင်ဗျားတွေ့ဖူးမှာပါ '

http://www.shwezinu.com/

ကောင်စစ်ဂန်က အလန့်တကြား မော့်ကြည့်သည်။ ဟေးလီးဗီးကတော့ သူ့စကားကို မရပ်။

'ဒီလိုညစ်ညမ်းမှုမျိုးတွေ ဖြစ်ပေါ်လာရတာဟာ ရိုးသားဖြူစင်မှု ကြောင့်ပါလို့ ပြောကြတယ်၊ ကျွန်တော်တို့ စိတ်ကုဆရာဂန်တွေကတော့ ဒီစကားလုံး အပေါ်မှာ အယုံအကြည် မရှိဘူး၊ ရယ်ချင် တယ်၊ ဒီစကားလုံး မျိုးတွေဟာ ခေတ်မမီတော့တဲ့ ယုံကြည်မှုတခုရဲ့ အမှတ်အသား နေ့စဉ် နေ့တိုင်း နာကျည်းစရာ အသစ်အသစ်တွေကို တွေ့နေကြရတယ်၊ လူတွေရဲ့ ဆိုးသွမ်း ယုတ်မာမှု အသစ် အသစ်တွေကို တွေ့နေ ကြရတယ်၊ ကျွန်တော်တို့ဟာ ကျွန်တော်တို့ ကိုယ်ခန္ဓာရဲ့ ကျေးကျွန်တွေ မဟုတ်ဘူး၊ ကြောက်စရာ၊ လန့်စရာ၊ စက်ဆုပ်စရာ၊ နှလုံးနာစရာကောင်းလှတဲ့ ကျွန်တော်တို့ အလိုဆန္ဒတွေရဲ့ သားကောင်ဘဝ ရောက်ကြတာပါ၊ မွေးကင်းစ ကလေး ပေါက်စ တွေဟာ ဖက်ကြတယ်၊ ဆုပ်ကိုင်ကြတယ်၊ ဘာကြောင့် အဲသလို လုပ်ကြတာလဲ၊ ခင်ဗျား စဉ်းစားကြည့်လေ၊ အရှင်း ကြီးပါ '

သူသည် စကားကိုဖြတ်၍ ပခုံးတချက် တွန့်လိုက်သည်။

'အခု ခင်ဗျား သားကိစ္စဆိုပါတော့၊ ခင်ဗျား သားရဲ့အသက်အရွယ်က အလွန် နုနယ်သေးတဲ့အရွယ်၊ ဘာမဟုတ်တဲ့ စွဲလမ်းမှုကလေးတွေ၊ တောင့်တမှု ကလေးတွေ၊ မက်မောတွယ်တာမှုကလေးတွေ ရှိတတ်တဲ့ အရွယ် ဖြစ်နေတယ်၊ အဲဒီအချိန်မှာ မမျှော်လင့်ပဲနဲ့ သူ့ထက် အသက်အရွယ်ကြီးတဲ့ ဒီစပိန်လူငယ်နဲ့ လာတွေ့ပြီး အပေါင်းအသင်း ဖြစ်လာရတယ်ဆိုတော့... '

http://www.shwezinu.com/



ကောင်စစ်ဂန်ထံမှ ညည်းသံ တချက် ထွက်လာသည်။ လက်သီး နှစ်ဘက်ကို ကျစ်ကျစ်ပါအောင် ဆုပ် ထားသည်။

'နီကိုလတ်စ်ရဲ့ စိတ်ဓာတ်နဲ့ အကျင့်စာရိတ္တကို ပျက်ပြား သွားနိုင်တောက်တဲ့ အဖြစ်မျိုး ရောက်နေပြီ လို့တော့ ခင်ဗျား မထင်သေးဘူး မဟုတ်လား '

' ဖစ်များ ဖြစ်နေပြီလားဆိုတဲ့ သံသယကတော့ ရှိနေမိတာ အမှန်ပဲ ' ဟု ပေါးလီးဗီးက ပွင့်ပွင့်လင်း လင်းပင် ဖြေသည်။

'ဘယ်အခြေအနေရောက်နေသလဲ၊ များသလား နည်းသလားဆိုတာ တွေ့အောင် ရှာယူရမယ် '

' တွေ့အောင် ရှာမယ် '

' ဟုတ်တယ်၊ တွေ့အောင်ရှာရမှာပဲ၊ ခင်ဗျားသားရဲ့ စိတ်အခြေအနေကို စိစစ် ခွဲခြမ်းစိတ်ဖြာ ကြည့်ရ လိမ့်မယ် '

ဘရန်းဒီးသည် ထိတ်လန့်တကြား ဖြစ်သွားပြန်သည်

' ဒါပေမယ့် ... '

သူသည် ထစ်ထီးထစ်ငေါ့ ဖြစ်လျက်ရှိသည်။

http://www.shwezinu.com/

' ကလေးက ငယ်လည်း ငယ်သေးတယ်၊ အခု လောလော ဆယ် စိတ်လဲ သိပ် ထိခိုက်နေတယ်၊ သူ့ရဲ့ အာရုံခံစားမှုတွေကလည်း သိပ်ပြီး နုနယ် သိမ်မွေ့လွန်းတော့ ... '

ဟေးလီးဗီးက အေးစက် တည်ငြိမ်သော မျက်နှာထား ဖြင့် ကောင်စစ်ဂန်အား ကြည့်သည်။

'ကျွန်တော့်ရဲ့ ကျွမ်းကျင်မှုအပေါ်မှာ ခင်ဗျားက သံသယရှိတယ် ဆိုပါတော့၊ ဟုတ်လား'

' အို ... အို ... ဒီလိုမဟုတ်ပါဘူး၊ ကျွန်တော်က ...၊ ဒါပေမယ့် ခင်ဗျား အနေနဲ့ လိုအပ်တယ်ထင်ရင် ... လုပ်ပါ '

' လုပ်ရမှာပဲ '

ဟေးလီးဗီးက အခိုင်အမာပြုသော လေသံဖြင့် ပြန်ပြောသည်။

'ညပိုင်း အတူတူအိပ် ကြတဲ့ အချိန် မှာ ဘာတွေ ဖြစ်ခဲ့တယ်ဆိုတာ သူ့ရဲ့အတွင်းစိတ်ကို လေ့လာကြည့်ရင် သိရမှာပေါ့ '

'တော်ပါတော့ ... ဟေးလီးဗီး၊ ဒါကို ထပ်မပြောပါနဲ့တော့'

ကောင်စစ်ဂန်က မျက်လွှာကိုချလိုက်ပြီး လေသံဖြင့် ပြောသည်။

'ကျွန်တော့်ရဲ့ ကျန်းမာရေး အခြေအနေကို ခင်ဗျား အသိပါ။ အိမ်ထောင်ရေး မပြေလည်မှု ကြောင့် ဘယ်လောက်ထိ စိတ်ဆင်းရဲ ခဲ့ရတယ်

http://www.shwezinu.com/



ဆိုတာ လည်း ခင်ဗျားအသိပါ၊ အလုပ်ခွင် မှာ ရင်ဆိုင် နေရတဲ့ ဒုက္ခကိုလည်း ခင်ဗျား အသိပါ၊ ကိုယ်ဂါသနာပါလို့ လုပ်နေတဲ့ စာပေ လုပ်ငန်း ကျတော့လည်း အခု အချိန်ထိ မပြီးပြတ်သေးဘူး၊ ဒီအခက်အခဲတွေနဲ့ ဒုက္ခတွေကြောင့် ကျွန်တော့်မှာ ဒီသားလေး အပေါ် ပုံပြီး ချစ်နေရတဲ့ ဘဂဆိုတော့ ... '

'ခင်ဗျားရဲ့သားအပေါ်မှာ ကျွန်တော်ကလည်း သနားကရုဏာ အပြည့် ရှိပါတယ် မစ္စတာဘရန်းဒီး၊ ယုံပါ၊ ကျွန်တော်ဟာ အတွေ့အကြုံ နည်းတဲ့ လူတယောက် မဟုတ်ပါဘူးဗျာ '

'ခင်ဗျားရဲ့ စိတ်နေသဘောထား အပေါ်မှာလည်း ကျွန်တော် ယုံကြည်ပါတယ်'

ဟေးလီးဗီး ဘရန်းဒီးသည် တနံ့နံ့တွေးကာ ဒေါသ ဖြစ်လာသည်။

'ဒီအကောင်ဟာ တော်တော့်ကိုရဲတင်းပြီး တော့်တော့်ကို မျက်နှာ ပြောင်တယ် '

'ခင်ဗျား သူ့ကို အလုပ်ကထုတ်မပစ်သေးဘူးမဟုတ်လား' ဟု ဟေးလီးဗီးက စိုးရိမ်တကြီး မေးသည်။

ကောင်စစ်ဝန်က အမှတ်တမဲ့ ခေါင်းခါပြသည်။

'တော်ပါသေးရဲ့၊ ဒီလိုလုပ်ထားတာ ကောင်းပါတယ် ' ဟု ဟေးလီးဗီးက စိတ်အေးသွားသည့် လေသံဖြင့် ပြောသည်။

http://www.shwezinu.com/



' ကျွန်တော်တို့ သူ့ကိုလည်း မေးရမြန်းရဦးမှာ၊ ပြီးတော့ ခင်ဗျားရဲ့ အခိုင်း အစေ တွေကိုလည်း မေးရ လိမ့်ဦးမယ်၊ ခင်ဗျား သဘောမတူစရာတော့ မရှိဘူး ထင်ပါတယ်နော် '

' မရှိပါဘူး၊ အခိုင်းစေကတော့ အပြစ်ပြောစရာမရှိပါဘူး၊ အင်မတန် ယုံကြည် စိတ်ချရတဲ့ လင်မယား ပါ၊ အခု ပြဿနာလုပ်နေတာက ဒီအကောင် ... ဂျိုစီပဲ '

ဂျိုစီ၏ နာမည်ကို ပြောလိုက်မိသောအခါ မုန်းတီး ရွံရှာသောစိတ်သည် ဖြစ်ပေါ် လာပြန်သည်။ ထိုအခါ ဒေါသ အရှိန် တက်လာသည်။ သူသည် တင်းကျပ်စွာ ဆုပ်ထားသော လက်သီး တဘက်ဖြင့် ကုလားထိုင် လက်တင် ကို တအား ထုလိုက်၏။

' ဒီအကောင်ကို အရေးယူမှဖြစ်မယ် '

ပေါးလီးဗီးက ဘရန်းဒီး၏ မျက်နှာကို လေ့လာ စူးစမ်းသော အကြည့်ဖြင့် ကြည့်သည်။ သူသည် တဒင်္ဂမျှ ငြိမ်ဆိတ်နေသည်။ ထို့နောက် သူ့ မျက်နှာပေါ်၀ယ် အပြုံးရိပ်ထင်လာသည်။ နွမ်းနယ်သော အပြုံး...။ သို့သော်လည်း လူ့လောက၏ လျှို့ဝှက်ချက်များဖြစ်သော စိတ်နေစိတ်ထား အဆင့်အတန်း နိမ့်ကျမှုများနှင့် ဟန်ဆောင်မှုများကို သိရသဖြင့် ကျေနပ် အားရသွားသည့် အပြုံး...။

http://www.shwezinu.com/

'ခင်ဗျား ကျွန်တော့်ကို ခေါ်လိုက်တာဟာ မမှားပါဘူး၊ နည်းနည်းကလေးမှ သံသယ မဖြစ်ပါနဲ့ '

***************

http://www.shwezinu.com/

## အခန်း (၁၅)

နောက်နေ့ မနက်တွင် မိုးတိတ်သွားသည်။ ကောင်းကင်သည် တဖန်ပြန်၍ ကြည်လင်လာသည်။ မိုးရေ ပက်ဖျန်းခြင်း ကို ခံထားရသော မြေအပြင်သည် နေပူဆာလှုံလျက် ရှိလေသည်။ နီကိုလတ်စ် သည် သူ့အိပ်ရာပေါ်မှနေ၍ ပန်းဥယျာဉ်ဘက်သို့ မျှော်ကြည့်သည်။ သူ့အနေဖြင့် ပြတင်းပေါက်ကို သိသိသာသာ ဖွင့်ရဲသည်မဟုတ်။ သူကြည့်၍ မြင်သာရုံမျှသာ ဖွင့်ထားခြင်းဖြစ်သည်။ နံနက်ခင်း၏ နူးညံ့ အေးမြသော လေသည် အခန်းတွင်းသို့ တိုးဝှေ့ဝင်ရောက်နေသည်။ ယူကလစ်နံ့သင်းနေသော လေ...။ မွှေးကြိုင် လန်းဆန်း သော လေ...။ ဤလေကို ရှူရှိုက်ရပြန်တော့လည်း အကောင်းဘက်ကို မျှော်လင့်ချင်သော စိတ်ကလေး ဝင်လာပြန်သည်။

ထိုအခါကျတော့လည်း စိတ်က အေးဆေး တည်ငြိမ်လာသည်။

ယနေ့တော့ဖြင့် ပိတ်လှောင်ထားခြင်းခံနေရသည့် ဤအခန်းထဲမှ ထွက်ခွင့်ပေးတန်ကောင်းရဲ့ဟု သူ တွေးသည်။ အခုဆိုလျှင် ပါမောက္ခ ဟေးလီးဗီးတယောက် ဧည့်သည်အဖြစ်နှင့် ရောက်နေပေပြီ။ လွန်ခဲ့ သော ညက ဧည့်သည် ရောက်လာသံကို သူကြားနေခဲ့ရ၏။ ဟေးလီးဗီးသည် သူ့အဖေနှင့် အလွန် ခင်သည်။ ပြီးတော့ သူ့အဖေ အထင်အမြင် ကြီးသော

http://www.shwezinu.com/



လူတဦး ဖြစ်သည်။ သို့ဆိုလျှင် သူ့ အဖေ၏ စိတ်သည် ပျော့ပျောင်း လာလိမ့်မည်ဟု ထင်သည်။

လောလောဆယ်တော့ဖြင့် သူဘာမျှ မလုပ်နိုင်။ သူစားနေကျ နံနက်စာကို စိတ်မပါ့တပါနှင့် စားသောက်လျှက် ရှိသည်။ ရှပ်အင်္ကျီ နှင့် ဘောင်းဘီကိုတော့ လဲထားပြီးပြီ။ သူသည် ဂျူစီထံမှ အချက် ပေး နှုတ်ဆက်မည့် အချိန်ကို စောင့်မျှော်နေမိသည်။ ဂျူစီသည် ပန်းဥယျာဉ် အတွင်းသို့ ရောက်သည် နှင့် တပြိုင်နက် သူ့အား လက်မြှောက်ပြကာ နှုတ်ဆက် တတ်၏။ ယနေ့ဆိုလျှင် သူ အခန်းထဲမှ မထွက်ရ သည်မှာ နှစ်ရက်တိတိ ရှိခဲ့ပြီ။ ဂျူစီနှင့် သူ့အကြားတွင် အဆက်အသွယ်ဆို၍ လက်မြှောက် နှုတ်ဆက်ခြင်း တခုတည်း သာရှိ၏။ မည်သို့ပင် ဖြစ်စေ၊ သူ့ကို ဂျူစီ မမေ့ကြောင်းတော့ သိနေရသည်။ ဤမျှဆိုလျှင် သူ့အဖို့ လုံလောက်ပြီ။

တယောက်နှင့် တယောက် အခင်အမင် မပျက်သေး ဟူသော ယုံကြည်ချက် ကို အခိုင်အမာ ထားလို့ရသည်။ ရှင်းရှင်း ပြောရလျှင် သူ့မှာ ဘာတွေပဲ ဖြစ်ဖြစ် သူ ဂရုမစိုက်။ ဖျားချင် ဖျားပါစေ...။ ဂရေစီယာက ခြိမ်းခြောက်လိုလည်း ခြိမ်းခြောက်ပါစေ။ နောက်ဆုံး တနေ့ သူ့ အဖေက သူ့ အပေါ် စိတ်ဆိုးချင် ဆိုးပါစေ။ ဂျူစီ ကသာ သူ့အပေါ် အခင်အမင် မပျက်ဟု ဆိုလျှင် သူဂရုစိုက် လိမ့်မည်မဟုတ်။

http://www.shwezinu.com/

ဆယ်နာရီ ထိုးပေတော့မည်။ ပစ္စည်းများထားရာ တဲအတွင်းသို့ ဂျိုစီ ဝင်သွားသည်ကို မြင်လိုက်ရ၏။ ထိုတဲအတွင်းမှ နေ၍ လက်ပြလျှင် အိမ်ကြီး အောက်ထပ်ရှိ ပြတင်းပေါက်များမှ မမြင်နိုင်။ ထို့ကြောင့်လည်း ဤတဲအတွင်း ရောက်လျှင် ဂျိုစီက လက်မြှောက် ပြစမြဲ။ နီကိုလတ်စ်သည် မျှော်လင့်ချက် ကီးစွာဖြင့် လှမ်းမျှော်ကြည့်လျက်ရှိ၏။ ထိုအခိုက်တွင် အပြင်မှ ခြေသံများ ကြားလိုက်ရပြီး သူ့အခန်းတံခါး ပွင့်သွားသည်။ အပြင်သို့ လှမ်းမျှော်နေရာမှ ချာကနဲပြန်လှည့်လိုက်၏။ ဝင်လာသူ များမှာ သူ့အဖေနှင့် ပါမောက္ခ ဒေါက်တာဟေးလီးဗီး...။ သူ့ကိုယ်သူ မထိန်းနိုင်။ မလုံမလဲဖြစ်ကာ မျက်နှာပျက်လျက်ရှိလေသည်။

'ကောင်းသောနံနက်ခင်းပါ ကလေးရယ် '

ဟေးလီးဗီးက ချိုပြုံးသောမျက်နှာထားဖြင့် ကြည့်ကာ တရင်းတနှီး လှမ်းနှုတ်ဆက်သည်။

'ကောင်းသော နံနက်ခင်းပါခင်ဗျာ' ဟု နီကိုလတ်စ်က ပြန်၍ နှုတ်ဆက်သည်။

' ကောင်းသော နံနက်ခင်းပါ ဖေဖေ '

သူ့အဖေနှုတ်မှ ဘာသံမှ ထွက်မလာ။ နီကိုလတ်စ်သည် လူကြီး နှစ်ယောက်၏ မျက်နှာကို တလှည့်စီကြည့်၍ အကဲခတ်သည်။

http://www.shweizinu.com/



ကောင်စစ်ဂန်က ချောင်းတချက်ဟန့်လိုက်ပြီး သူ့ကိုယ်သူ အတော်ကြီး ထိန်းချုပ်ထားရသည့် လေသံဖြင့် လှမ်းပြောသည်။

'နီကိုလတ်စ်...၊ ဖေဖေပြောတာနားထောင်စမ်း၊ ဖေဖေတို့ သိပ် ကံကောင်းလို့ ဖေဖေ့မိတ်ဆွေ ပါမောက္ခ ဟောလီးဗီး ရောက်လာခဲ့တယ်၊ သူဒီမှာ ခဏနေလိမ့်ဦးမယ်၊ သူ ဒီမှာနေတုန်း အခိုက်မှာ မင်းရဲ့ကျန်းမာရေး အခြေအနေ ကို ကြည့်ပေးဖို့ ဖေဖေအပ်ထားတယ်'

သူသည် ဟောလီးဗီး၏ မျက်နှာကို လှမ်းကြည့်သည်။

' ကျွန်တော် အနားမှာရှိဖို့ မလိုဘူးထင်ပါတယ် '

'ကျွန်တော်တို့နှစ်ယောက်တည်း နေရတာက ပိုပြီး အဆင်ပြေမယ်လို့ ထင်ပါတယ်' ဟု ဟောလီးဗီး က ပြန်ဖြေသည်။ ဘရန်းဒီးသည် ခေါင်းငိုက်စိုက်ဖြင့် နီကိုလတ်စ်ဘက် ပြန်လှည့်လာသည်။

'မင့် အဖေကိုတောင်မှ ပေးပြီး မသိစေချင်တဲ့ အကြောင်းတွေ တို့မှာလည်း ရှိတာပဲ...၊ မဟုတ်ဘူးလားကွာ...၊ ကဲ...မင်းအိပ်ရာပေါ် ခဏလှဲလိုက်စမ်း၊ ပြီးတော့ ခြေထောက်တွေကို ဆန့်ထား'

နီကိုလတ်စ် မျက်လုံးအပြူးသားဖြင့် ဟောလီးဗီးကို ကြည့်သည်။ သူ့အနေဖြင့် မကြာခဏ ဆေးအစစ် ခံခဲ့ရဖူး၏။ ဟောလီးဗီး ကိုယ်တိုင်လည်း သူ့ တကိုယ်လုံးကို အကြိမ်ပေါင်းများစွာ စမ်းသပ်ခဲ့ဖူးပြီ။ သို့သော်လည်း ယခု

http://www.shwezinu.com/



တကြိမ်ကျတော့ အလျင်ကနှင့် မတူဟု သူထင်သည်။ ဟေးလီး ဗီး၏ အပြုအမူနှင့် လုပ်ပုံကိုင်ပုံများသည် သူ့မျက်စိထဲတွင် အသစ် အဆန်းလို ဖြစ်နေသည်။ သူ ခုတင်ပေါ်သို့ လှဲအိပ်လိုက်သော အခါ ဟေးလီးဗီးသည် သူ့လုပ်နေကျ ထုံးစံအတိုင်း နားကျပ်ဖြင့် ဟိုထောက် သည်ထောက် လုပ်သည်။ လက်များဖြင့် ဟိုစမ်းသည်စမ်း၊ ဟိုခေါက် သည်ခေါက် ပြု သည်။ မိနစ်အနည်းငယ်ကြာတော့ သူ့အနားမှ ထသွားကာ တရုတ်ကက်များကို လိုက်ပိတ်သည်။

'အလင်းရောင်က မျက်လုံးတွေကို ထိုးနေတာ မကောင်းဘူး၊ ဟော... အခုလို ပိတ်လိုက်တော့ နေရတာပိုပြီး မကောင်းသွားဘူးလား' ဟုလည်း ရေရွတ်သည်။

ဟေးလီးဗီးသည် ခုတင် ခေါင်းရင်းဘက်တွင် ဂင်ထိုင်ပြီး သူ့လက်တဘက်ကို နီကိုလတ်စ်၏ နဖူးထက်သို့ ခပ်ဖွဖွကလေး တင်ထားသည်။

' ငါတို့ တယောက်နဲ့ တယောက် သိလာခင်လာကြတာ ကြာပြီနော်... နီကိုလတ်စ် ' ဟု လေအေး ကလေးဖြင့်ပြောသည်။

' မင်း ငါ့ကို ခင်တာဟာ ဆရာဝန်တယောက်အနေနဲ့ ခင်တာမဟုတ်ဘူး၊ သာမန် မိတ်ဆွေ သူငယ်ချင်းတယောက် ခင်သလို ခင်တာမျိုးပါ၊ မင်းငါ့ကို မကြောက်ဘူး မဟုတ်လား'

http://www.shwezinu.com/


ခုတင်ပေါ်၌ ပက်လက်လှန်ပြီး မျက်နှာကျက်ကို ငေးစိုက်ကြည့်နေသော နီကိုလတ်စ်က အဖြေပေး သည်။

' မကြောက်ပါဘူး '

' အေး...ဟုတ်ပြီ' ဟု ပေးလီးဗီးက ရွှင်ပြုံးသော လေသံဖြင့်ပြောသည်။

'မင်းရဲ့စိတ်ထဲမှာ ရှိသမျှကို လွတ်လွတ်လပ်လပ်ပြောစမ်း၊ ငါ့ကို မင်းရဲ့ကစားဖော် သူငယ်ချင်းတယောက်လို သဘောထားပြီး ရဲရဲသာပြော' စိတ်ကုဆရာဂန်၏ အဖါရောင် သမ်းနေသော သွားများကို နီကိုလတ်စ် မြင်ရသည်။ ' အခုဆို မင်းဟာ ငယ်ငယ်လေးမဟုတ်တော့ဘူး၊ ကြီးလာပြီ၊ မင်းရဲ့ ဘ၀အပေါ်မှာ မင်းရဲ့ အမြင်နဲ့ အတွေးတွေ ရှိလာနေပြီ၊ ငါ သိချင်နေတာဟာ အဲဒီအတွေးတွေပဲ၊ မင်းရဲ့ အတွေး...တွေ၊ မင်း ပြောစရာရှိတာကိုသာပြော...၊ ကမ္ဘာပေါ်မှာ ကြောက်စရာအကောင်းဆုံး ဘာများရှိသလဲ၊ ပြောသာပြော...၊ ကဲကွာ ဥပမာတခုပြောပြမယ်၊ အခု လောလောဆယ် မင်း ဘာအကြောင်း တွေးနေသလဲ '

' ကျွန်တော် မသိဘူး '

နီကိုလတ်စ်သည် ခဏမျှတုံ့ဆိုင်းနေပြီးမှ အဖြေပေးသည်။

' အို... မဟုတ် သေးပါဘူးကွာ၊ ပြောစရာ ရှိရမှာပေါ့၊ မင်းဟာ ဉာဏ်အလွန်ကောင်းတဲ့ကလေးပါ၊ မင်း ခေါင်းထဲမှာ တွေးနေတာ တခုခုတော့

http://www.shwezinu.com/



ရှိရမှာပေါ့သားရယ်၊ မဟုတ်ဘူးလား၊ ကဲ...ကဲ...ပြောပြ စမ်းပါဦး...၊ မင်း အခု လောလောဆယ် ဘာများ ခံစားမှုရှိနေသလဲ'

'ကျွန်တော့်နဖူးကို လက်ချောင်းကလေးတွေ လာထိနေတယ်၊ ဂွမ်းစ လေးတွေလိုပဲ သိပ်နူးညံ့တယ်'

နီကိုလတ်စ်က ခပ်ဖြည်းဖြည်းနှင့် ချိန်ဆ၍ ဖြေသည်။

' ပြီးတော့ မျက်နှာကျက်ပေါ်မှာ အလင်းရောင် တန်းတွေ မြင်တယ်၊ အလင်းရောင်တွေဟာ တရုတ်ကတ်ကြားက ဂင်လာပြီး ထင်နေတာ'

' ဟုတ်ပြီ...ဟုတ်ပြီ၊ ဆက်ပြောပါဦး '

' ဘာကို ပြောရမှာလဲ '

'မင်း ပြောချင်တာပြော...၊ မင်း တွေးနေသမျှကို အကုန်လျှောက်ပြော...၊ စောစောကပြောတယ်၊ တရုတ်ကတ်ကြာက ဂင်လာတဲ့ အလင်းရောင်တဲ့...၊ အဲဒါပြီးတော့... ဘာပြောစရာရှိသေးလဲ '

'ကျွန်တော် မပြောတတ်တော့ဘူး ' ဟု နီကိုလတ်စ်က သံသယဖြင့် ပြောသည်။

'အဲဒီအလင်းရောင်တန်းတွေ ကြည့်ရတော့ ကျွန်တော် အကျဉ်းထောင် တခုထဲ ရောက်နေရသလို စိတ်ထဲက ထင်လာတယ်၊ သိပ် မှောင်တယ်၊

http://www.shwezinu.com/

အလင်းရောင်ဆိုလို့ အဲဒီ အရောင်တန်းလေးတွေပဲ ရှိတယ်၊ သူတို့ကို မြင်ရတော့ ကျွန်တော် အပြင်ထွက် ချင်လာတယ် '

' မင်း အပြင်ရောက်ရင် ဘာလုပ်မလဲ'

'ငါးမျှားသွားမယ်' ဟု နီကိုလတ်စ်က တုံ့ဆိုင်းခြင်းမရှိပဲ ပြန်ဖြေသည်။

'ငါးမျှားမယ်ဟုတ်လား' ဟု စိတ်ကုဆရာဂန် ဟေးလီးဗီးက ရေရွတ်သည်။

'ဟုတ်တယ်၊ ကျွန်တော် အဲဒါပဲလုပ်မယ်၊ ဘတ်စ်ကားကြီးစီးပြီး ဟို တောင်တန်းတွေပေါ် သွားမယ် ' ဟေးလီးဗီး၏ လက်ချောင်းများ အောက်ရှိ နီကိုလတ်စ်၏ မျက်နှာတွင် အပြုံးပန်းပွင့်လာသည်။ ' နောက်ပြီးတော့ ... လွင်ပြင်ထဲသွားမယ်၊ စက်ရုံ ရေကာတာပေါ်မှာ ထိုင်မယ်၊ တနေ့လုံး နေရောင် အောက်မှာ ထိုင်ပြီ ငါးမျှားမယ်၊ ကျွန်တော် ဒီတခါဆိုရင် ငါးကြီးကြီးတွေ မိချင်မိမှာ '

'မင်း တယောက်တည်း သွားမှာလား' ဟု ဟေးလီးဗီးက စိတ်ဂင်တစား မေးသည်။

'တယောက်တည်းတော့ မသွားပါဘူး၊ ဂျိုစီနဲ့ သွားမှဖြစ်မှာ၊ သူကသာ တတ်အောင် သင်ပေးနိုင်တာ '

'သူက ဘာသင်ပေးမှာလဲ'

http://www.shwezinu.com/



' ငါးမျှား တတ်အောင် သင်ပေးမှာပေါ့၊ သူက ငါးမျှားတဲ့နေရာမှာ သိပ်တော်တယ်၊ ဆန်ဖျော်ဂျီမြို့မှာ ဆိုရင် သူဟာ အကောင်းဆုံးပီလိုတာ ဘောလုံးသမား တယောက်ပဲ၊ သူက သဘောလဲ သိပ်ကောင်းတယ်၊ အလုပ်ကျတော့လဲ သိပ် လုပ်တာပဲ၊ ပန်းဥယျာဉ်ထဲမှာ သူလုပ်ရတာ သိပ်ပင်ပန်းတာပဲ'

' မင်း ဂျိုစီကို သိပ်ခင်သလား '

' ခင်တယ်၊ ဂျိုစီဟာ ကျွန်တော့် သူငယ်ချင်းပဲ '

ခဏမျှ ငြိမ်ဆိတ် သွားသည်။ မျက်နှာကျက်ပေါ်မှ အလင်းရောင်ကွက်များသည် တလှုပ်လှုပ် ဖြစ်နေကြလေသည်။ ဟေးလီးဗီး၏ အသံ ပြန်ပေါ်လာလေသည်။

' မင်းအဖေ ခရီးသွားနေတုန်းမှာ မင်း စောစောက ပြောတဲ့ မြစ်ဆီကို ဂျိုစီနဲ့အတူ သွားခဲ့တယ် မဟုတ်လား၊ မင်းအဲဒီတုန်းက ငါးမျှားအပြီးမှာ ဘာလုပ်သလဲ '

' အိပ်တယ် '

' ဂျိုစီနဲ့ အတူတူ အိပ်သလား '

' ဟုတ်တယ်၊ ဂျိုစီက ကျွန်တော့် ဘေးက ကပ်ပြီး မြက်ခင်းပေါ်မှာ လှဲနေတယ်၊ အိပ်လို့ သိပ်ကောင်း တယ်၊ နေရောင်အောက်မှာ ဆိုတော့ နွေးနေတာပဲ '

http://www.shwezinu.com/



' ဟုတ်တာပေါ့' ဟု ဟေးလီးဗီးက ထောက်ခံသည်။

'ငါနားလည်ပါတယ်၊ ငါကတော့ သိပ်ပြီး မတုန် လှုပ်ပါဘူးသားရယ်၊ မင်းအခု ပြောပြနေတာတွေအတွက် မင်းမကြောက်ဘူးလား '

'ဘာဖြစ်လို့ ကြောက်ရမှာလဲ '

နီကိုလတ်စ်က ချက်ချင်းအဖြေပေးသည်။

'ကျွန်တော် ဘာမှ မဟုတ်တာ မလုပ်ဘူး၊ ကျွန်တော် အမှန်အတိုင်း ပြောပြနေတာပဲ '

ဟေးလီးဗီးက သူ့နှုတ်ခမ်းကို ကိုက်ထားရာမှ စိတ်မရှည်သံဖြင့် ခပ်ငေါက်ငေါက်ပြောသည်။

' မင်းအဖေရဲ့ စကားကို မလိုက်နာပဲ လုပ်တာဟာ မင်းမဟုတ်တာ လုပ်တာပဲကွ '

'ကျွန်တော် အဖေ့စကားကို နားမထောင်ပဲလုပ်ဖို့ စိတ်ကူးခဲ့တာ မဟုတ်ဘူး၊ ဂရေစီယာကြောင့် အခုလို ဖြစ်သွားတာ '

'အေး... ဟုတ်ပြီ...၊ ဒါပေမယ့် အဲဒီအကြောင်းကို နောက်မှ ပြောရအောင်...၊ အခု လောလောဆယ်တော့ မင်း ဂျူစီကို သိပ်ခင်တယ်လို့ ဝန်ခံထားတယ် မဟုတ်လား '

http://www.shwezinu.com/



' ကျွန်တော့်စိတ်က ခင်တာ ကျွန်တော် မတတ်နိုင်ဘူး '

' ခင်လို့ မင်းကို ဘယ်သူကမှ အပြစ်မတင်ပါဘူး...ကလေးရယ် '

စိတ်ကုဆရာဂန်၏ အပြုအမူသည် ပြောင်းသွားပြန်သည်။ လေသံကပါ ပျော့လာသည်။ ချော့ချော့ မော့မော့ လေသံ။

'မင်းအနားမှာ ဂျူစီရှိစေချင်တယ်၊ ဂျူစီက မင်းကို ထိရင် ကိုင်ရင် သဘောကျတယ်၊ ဉပမာဆိုပါတော့ ဂျူစီ မင်းအနားမှာနေပြီး မင်းရဲ့ ဆံပင်တွေကို ဖွဖွကလေး ကိုင်ထားရင်... '

' ဒါပေါ့...၊ ကျွန်တော် သိပ်သဘောကျတယ် '

နီကိုလတ်စ်မျက်နှာပျက်သွားသည်။

ဒေါက်တာ ဟေးလီးဗီးကတော့ နီကိုလတ်စ် ရှက်သလို ကြောက်သလို ဖြစ်သွားသည်ကို မြင်ရသော အခါ ဂမ်းသာသည်။ သူ ဤအလုပ်မျိုးတွေကို လုပ်လာခဲ့သည်မှာ ကြာပြီ။ အဆိုးဆုံးသော စော်ကားမှုမျိုးနှင့် ကြုံရလျှင် လျစ်လျူရှုနိုင်သည်။ မကြားပံ့မနာသာ စကားများကိုလည်း သူ ဂရုမစိုက်။ အခုလို နီကိုလတ်စ်က ကလေးပီပီ ရှက်သလို ကြောက်သလို ဖြစ်သွားခြင်းကို သူ့အတွက် အခွင့်အရေးတရပ်အဖြစ် အသုံးချဖို့ အားထုတ်လေသည်။

'ဂျူစီကို မင်းအနားမှာ နေစေချင်တယ် ဟုတ်လား၊ ဒါကြောင့်မို့ သူ့အိမ်ကို မင်းလိုက်သွားတာပေါ့ ဟုတ်လား '

http://www.shwezinu.com/



နီကိုလတ်စ် လှုပ်ရှားလာသည်။ သူ့အား မေးနေသူ၏ မျက်နှာကို ကြည့်ချင်သည့်စိတ် ဖြစ်ပေါ် လာ သည်ဟုပင် ထင်ရသည်။

' ကျွန်တော် ... ဂျူစီကို သိပ်ခင်တယ် '

' မင်း သူ့ကို ချစ်တယ်လို့ ဆိုချင်တာလား ' ဟေးလီးဗီးက အလွန် သာယာချိုအေးသော လေသံဖြင့် မေးသည်။

' ဟုတ်တယ်၊ ကျွန်တော် သူ့ကို ချစ်..တယ်'

နီကိုလတ်စ်၏ မျက်နှာသည် နီရဲလာပြန်သည်။

'ဒါပေမယ့် ကျွန်တော် သူတို့အိမ် လိုက်သွားတာက ဂရေစီယာကြောင့် လိုက်သွားတာ '

ဟေးလီးဗီးကရယ်သည်။

' ဂရေစီယာ...၊ လာပြန်ပြီလားကွ... ဂရေစီယာ၊ ငါတော့ မင်းစကားကို မယုံဘူးကွာ '

' ခင်ဗျား ယုံတာ မယုံတာ ကျွန်တော့်အတွက် အရေးမကြီးပါဘူးဗျာ '

နီကိုလတ်စ် အသံက တည်ငြိမ် အေးဆေးသည်။

' အဲဒီကိစ္စ မှန်နေသမျှ ကာလပတ်လုံး ဘယ်သူတွေက မယုံယုံ ... ကိစ္စမရှိဘူး '

http://www.shwezinu.com/

ငြိမ်ဆိတ် သွားပြန်သည်။ ပါမောက္ခစဉ်းစားဝေဖန်ရခက်နေသည်။ နီကိုလတ်စ် ဘက်ကတော့ အခုအခံ ရှိနေဆဲပင်…။ သူ့လို အတွေ့အကြုံ ရင့်ကျက်သူ တဦးအနေဖြင့် ဤကလေး၏ စကားကို လွယ်လွယ်နှင့် လက်ခံ သင့်ပါသလား။ ဤကလေးအမှန်ပြောနေသည်ဟုပင် ယူဆရမလား…။ မည်သို့ပင် ဖြစ်စေ… အလျင့်အလျင်က ကလေးသူငယ်များစွာနှင့် သူ ရင်ဆိုင်ခဲ့ရဖူး၏။ နောက်ဆုံးကျတော့ အားလုံးလက်မြှောက်အရှုံးပေး သွားကြ ရသည်ချည်း ဖြစ်သည်။ နီကိုလတ်စ်၏ ခေါင်းမာမှုသည် မည်မျှ ကြာကြာ ခံနိုင်ပါမည်နည်း…။

သူနေရာ ပြင်ထိုင်သည်။ နီကိုလတ်စ်အား လှိုက်လှဲသော အပြုံးဖြင့် ကြည့်သည်။

' ကလေး…ရယ်…၊ မင်း ငါ့ကို မယုံကြည်ဘူး၊ အထင်လွဲနေတယ်၊ ငါ တကယ့်ကို စိတ်မကောင်း ဖြစ်ရပါတယ်၊ ငါက ဒီကိစ္စမှာ အမှားနဲ့ အမှန်ကို ဝေဖန်နေတဲ့လူ မဟုတ်ပါဘူး၊ မင်းကိုယ်မင်း အပြစ်လို့ ဒီလောကကြီး ခုခံကာကွယ်နေရတာလဲ၊ ဘာကြောင့် အပြစ်လွတ်အောင် လုပ်နေရတာလဲ၊ ငါက မင်းဘက်က လူပါကွာ၊ ယုံစမ်းပါ ကလေးရယ်၊ ဒီမကောင်းတဲ့ ကျူးလွန်မှု မျိုးဟာ အခုမှ ပေါ်လာတာ မဟုတ်ပါဘူး၊ ဟိုး… ရှေးလွန်လေပြီးတဲ့ အခါကတည်းက ရှိခဲ့တာပါ သားရယ်၊ တကယ်လို့ မင်း ပြုမှားမိခဲ့တယ် ဆိုရင်ကော ဘာဖြစ်လဲ…၊ ဒါဟာ လူသားတိုင်းပြုတတ်တဲ့ အမှားပါကွ၊ ကြောက်စရာကောင်းတာက အဖြစ်မှန်ကို မပြောပဲ ဖုံးကွယ် ထားတာပဲ၊

http://www.shwezinu.com/

တကယ်လို့ မင်းကသာ အမှန်ကို ပြောပြလိုက်ရင် မင်းလုပ်ခဲ့တဲ့အမှားဟာ အလကား ဘာမှမဟုတ်တဲ့ ကိစ္စတခု ဖြစ်သွားမှာပဲ၊ တို့နှစ်ယောက် အတူတူ ရယ်နေဖို့ပဲ ရှိတော့တယ် မဟုတ်လား'

' ဘာကို ရယ်ရမှာလဲ '

နီကိုလတ်စ်က နားမလည်သည့်နယ် ပြန်မေးသည်။

' ဥပမာ ဒီဟာမျိုးပေါ့ကွာ '

ပေးလီးဗီးက ပြောပြောဆိုဆိုနှင့် စာရွက်တရွက်ကို နီကိုလတ်စ်၏ မျက်စိရှေ့မှောက်သို့ ထိုးပြသည်။

ပထမတော့ နီကိုလတ်စ် တကိုယ်လုံး တောင့်တင်း သွားသည်။ နောက်တော့ တဖြည်းဖြည်းချင်းပင် ပြန်ပြေသွားသည်။ စာရွက်ပေါ် စူးစိုက် နေကြသည့် သူ့မျက်လုံးများကို တဘက်သို့ လွှဲဖယ်လိုက်သည်။

' အိုကွာ၊ ဒါကလဲ အရေးကြီးတဲ့ဟာ မဟုတ်ပါဘူးကွ' ဟု ပေးလီးဗီးက ကပျာကယာပြောသည်။

'ဒါပေမယ့်မင်းဒီစာမျိုး ရေးတောင်ရေးခဲ့သေးတာ၊ ဘာပြုလို့ လိမ်ပြောချင် နေရတာလဲ၊ မင်း ဂျိုစီနဲ့ နှစ်ယောက်တည်း ရှိနေတုန်းက ဆိုရင် ဒီထက်ပိုပြီး နူးညံ့တဲ့ စကားတွေ ပြောခဲ့မိမှာပေါ့၊ ဥပမာကွာ၊ မင်း သူ့အိမ်လိုက်သွားပြီး ညပိုင်း နှစ်ယောက်တည်း နေကြတဲ့အခါမျိုးပေါ့ကွာ '

http://www.shwezinu.com/

' ကျွန်တော်တို့ ဘာစကားမှ မပြောကြဘူး '

' ဒါပေမယ့် ... ကလေးရယ် ... '

ဟေးလီးဗီးက သူ့ဦးခေါင်းကို ခေါင်းအုံးနားအထိ တိုးကပ်ကာ ချော့မော့သော လေသံဖြင့် ပြောသည်။

' မင်းသူ့အိမ်ကို ရောက်တယ်...၊ မင်းတို့နှစ်ယောက် တည်းရယ်...၊ မှောင်ကြီးမည်းမည်းထဲမှာ...၊'

နီကိုလတ်စ် တကိုယ်လုံး အေးစက်သွားသည်။ ပထမတုန်းကတော့ သူနားမလည်။ အားလုံးရှုပ်ထွေး နေသည်။ အခုတော့ နားလည်သလို ရှိလာသည်။ နားလည်လာသည်နှင့်တပြိုင် နက် ကြောက်ခြင်း၊ ရှက်ခြင်းနှင့် စက်ဆုပ်ရွံရှာခြင်းများ ဖြစ်ပေါ်လာသည်။ ဤစကားကို ကြားချင်၍ သူ့အား သိမ်းသွင်းခေါ်ယူလာခြင်းပါတကား...။

အိပ်ရာပေါ်မှခုန်၍ ထချင်စိတ်၊ အခန်းထဲက ထွက်ပြေးချင်စိတ်၊ ဘယ်သူနှင့်မှ အတွေ့မခံတော့ပဲ ရှောင်ပုန်းနေချင်စိတ်များ ဖြစ်ပေါ်လာသည်။

သို့သော်လည်း သူ အိပ်ရာပေါ်မှမထနိုင်။ မထချင်။ ကိုယ်တွေ လက်တွေ မလှုပ်ချင် မသယ်ချင် ဖြစ်နေသည်။ ထိုအခိုက်မှာပင် သူ့ အတွင်းစိတ်က သူ့အား အမိန့်တခုပေးလာသည်။ သူသည် လက်သီးနှစ်ဘက်ကို ကျစ်ကျစ်ပါအောင် ဆုပ်ကာ အိပ်နေရာမှ ထထိုင်သည်။ သူ့မျက်နှာသည်

http://www.shwezinu.com/



ဖြူဖွေးလျက်ရှိ၏။ သူ့နှလုံးသည် ပြင်းစွာ ခုန်လျက်ရှိ၏။ သို့သော် လည်း သူသည် ပါမောက္ခ ပောလီးဖီး၏ မျက်နှာကို စူးစူးရဲရဲ စိုက်ကြည့်သည်။

'ခင်ဗျား ကျွန်တော့်ကို ဘာပြောစေချင်နေတယ် ဆိုတာ ကျွန်တော် မသိဘူး၊ ဒါပေမယ့် ကျွန်တော် မပြောဘူး၊ ကျွန်တော် ဂျိုစီနဲ့ လိုက်သွားတာဟာ ဂရေစီယာက ကျွန်တော့်ကို ကြောက်အောင် လုပ်လို့ သွားတာ၊ ဒါကိုလည်း ပြောခဲ့ပြီးပြီ၊ မယုံရင် မက်ဂ်ဒါလီးနားကို မေးနိုင်တယ်၊ သူ ပြောမှာပဲ၊ ကျွန်တော့် အဖေကိုယ်တိုင် မေးစေချင်တယ် '

ပောလီးဖီးသည် သူ့အရှက်ကို အေးစက်သော အပြုံးဖြင့် ဖုံးကွယ်ထားသည်။ သူသည် ထိုင်ရာမှ ထရပ်သည်။ အချိန်ကာလ အတန်ကြာက သူမျှော်လင့် စောင့်စားနေခဲ့သည့် စိန်ခေါ်မှုကို ဂမ်းသာ လှိုက်လှဲစွာ လက်ခံလိုက်သည့် ဟန်မျိုး…။

' ကောင်းပြီ…လေ၊ တို့များ မက်ဂ်ဒါလီးနားကို မေးကြည့်ကြတာပေါ့ '

ပောလီးဖီးသည် ပန်းပွားများ တပ်ထားသော ကြိုးစကို နှစ်ကြိမ်တိတိ ဆွဲလိုက်သည်။ အိမ် အောက်ထပ် မီးဖိုချောင်ဘက်မှ ခေါင်းလောင်းသံ သဲ့သဲ့ ကြားလိုက်ရ၏။ မိနစ်အနည်းငယ်မျှ ကြာ သောအခါ လှေကားဆီမှ လေးလံနှေးကွေးစွာ တက်လာနေသော ခြေသံများ ကြားရသည်။ ထို့နောက် တံခါးခေါက်သံတချက် ထွက်လာပြီး အခန်းတွင်းသို့ မက်ဂ်ဒါလီးနား ဝင်လာသည်။

http://www.shwezinu.com/



' မက်ဂ်ဒါလီးနား ' ဟု ပေားလီးဗီးက စကားစသည်။

'မင်းသခင်ခရီးသွားနေတုန်းက ဒီအိမ်မှာ မဖြစ် သင့်တာတွေ ဖြစ်ခဲ့တယ်လို့ ငါသိထားရတယ်၊ ပထမဆုံး ငါသိချင်တာက လွန်ခဲ့တဲ့ စနေညက ဂရေစီယာဟာ ဘာစီလိုးနား မှာ ညအိပ်ရဲ့လား '

မက်ဂ်ဒါလီးနားသည် အခန်းတံခါး ဘောင်ကို ပင်ပန်းကြီးစွာ မှီရပ်နေရာမှ ပေားလီးဗီးအား မော့် ကြည့်သည်။

' မအိပ်ပါဘူး၊ သူ ဒီမှာပဲ ရှိနေခဲ့ပါတယ် '

နီကိုလတ်စ် တကိုယ်လုံး တုန်သွားသည်။ သူသည် ရှေ့သို့ ဆတ်ကနဲ တိုးလာသည်။ သူ့နှုတ်ခမ်း များသည် တဆတ်ဆတ်လှုပ်လျက်ရှိသည်။

' ဒါပေမယ့် မက်ဂ်ဒါလီးနား...'

' မင်း ဘာမှ မပြောနဲ့ဦး '

ပေားလီးဗီးက နီကိုလတ်စ်ဘက်သို့လှည့်၍ ဟန့်သည်။ ပြီးတော့ သူ့မျက်နှာ သည် မက်ဂ်ဒါလီးနားဘက်သို့ ပြန်လှည့်သွားသည်။

'ငါသိချင်တဲ့ ဒုတိယအချက်က ဂရေစီယာဟာ တနင်္ဂနွေနေ့ညက အရက်တွေ သောက်ပြီး အလွန်အကျွံ မူးနေတယ်ဆိုတာ ဟုတ်သလား '

'မဟုတ်ပါဘူး...ဆီညော်၊ ဂရေစီယာဟာ အရက်မသောက်ပါဘူး '

http://www.shwezinu.com/

' အဲဒီညက ဂရေစီယာ မင်းကို မရိုက်ဘူးလား၊ နီကိုလတ်စ်ကိုရော ခြောက်လား လှန့်လား လုပ် သေးသလား '

အမျိုးသမီးက ခေါင်းယမ်းသည်။

' ဂရေစီယာဟာ လူကောင်းပါရှင်၊ အများက သိကြပါတယ်၊ ကျွန်မကို ဘယ်တုန်းကမှ မရိုက်ပါဘူး '

' အို...' ဟု နီကိုလတ်စ်ကအော်သည်။

' ခင်ဗျား လိမ်တယ်၊ သူ ခင်ဗျားကို ရိုက်တာ ခင်ဗျား ကိုယ်တိုင် ခံရတာပဲ၊ စတိုခန်းထဲမှာလေ၊ ခင်ဗျား ငိုနေတယ် မဟုတ်လား၊ သူ့လက်ထဲမှာ ဓားကြီးကိုင်လို့၊ သိပ်ကို ကြောက်စရာ ကောင်းတာ...'

နီကိုလတ်စ် စကား ဆက်မပြောနိုင်။

' ဒါပါပဲ မက်ဂ်ဒါလီးနား' ဟု ပေးလီးဗီးက ပြောသည်။

' ကျေးဇူးတင်ပါတယ် '

ထမင်းချက် အမျိုးသမီးသည် သူ့အား သွားခွင့်ပြု လိုက်သည်ကို မကြားသည့်နှယ် ကြောင်ပြီး ရပ်နေသည်။ သူ့အား မေးမြန်းနေသည့် တချိန်လုံး သူ့ မျက်လုံးများသည် နီကိုလတ်စ်ကို မကြည့်၊ ပါမောက္ခ မျက်နှာကိုသာ စူးစိုက်ထားသည်။ ယခုကျမှပင် နီကိုလတ်စ် ဘက် တချက် ခိုးကြည့်သည်။ အမူအရာ



http://www.shwezinu.com/

ကတော့ မပြောင်း။ သူသည် ဖြတ်ကနဲ နောက်လှည့်ကာ အခန်းထဲမှ ထွက်သွားလေ၏။ နီကိုလတ်စ် သည် သူ့အိပ်ရာပေါ်သို့ အရုပ်ကြိုးပြတ် ထိုင်ချလိုက်ကာ ကလေးပီပီ မခံချင်စိတ်ဖြင့် ရှိုက်ကြီးတငင် ငိုသည်။

' ဂျိုစီ ... ခင်ဗျား ဘယ်ရောက်နေသလဲ၊ ကျွန်တော့်ကို မကယ်နိုင်တော့ဘူး လားဗျာ...၊ ကျွန်တော်တို့ နှစ်ယောက်ကို သူတို့ ဘာလုပ်ကြမလို့လဲ မပြောတတ်ဘူး ' ဟု ဖမ်းနည်းပက်လက် တမ်းတသည်။

ပါမောက္ခ ပေါးလီးဗီးသည် နီကိုလတ်စ်ဆီသို့ ခြေတလှမ်းတိုးလာသည်။ ထို့နောက် လမ်းခုလတ် တွင်ပင် ရပ်သွားပြီး အတန်ကြာမျှ ငိုင်နေသည်။ ရုတ်တရက် သူ့စိတ်ဂေခွဲ၍မရ။ ချော့သင့် မချော့ သင့် ချီတုံ... ချတုံ။ တကယ်တော့ အခုလို အချိန်တွင် သူ တယောက်တည်း နေစေခြင်းသည် အကောင်းဆုံး...။ အားရအောင် ငိုကြွေးခွင့်ပေးထားခြင်းမှာလည်း အကောင်းဆုံး အသင့်ဆုံး...။ အားလုံးပြီးသွားလျှင် ခံနိုင်ရည်အားသည် ပျောက်သွားလိမ့်မည်။ သူသည် တရုတ်ကတ်များကို တချက်ငေ့ကြည့်သည်။ စောစောက သူ ပိတ်ထားသည့်အတိုင်းပင် ခြေရာ လက်ရာ မပျက်။ ထို့နောက် သူသည် သနားစဖွယ် ကောင်းလှသည့် ငိုရှိုက်သံများကြားမှပင် အခန်းတွင်းမှ အသာ ကလေး ခြေဖျားထောက်၍ ထွက်သွား လေ၏။

***************

http://www.shwezinu.com/



## အခန်း (၁၆)

ထိုနေ့မနက်တွင် ဟာရင်တန် ဘရန်းဒီးသည် ဂတ္တရားမပျက် ရုံးတက်သည် ရုံးတွင်ကြာကြာတော့ မနေ။ တစ်နာရီခန့် သာနေသည်။ နေသည့်အခိုက်တွင်လည်း ကြည်ကြည်လင်လင် မရှိ ညေ့သည်နှင့်နေ့လည်စာ စားရဦး မည်ဟု အကြောင်းပြ ချက်ဖြင့် ပြန်လာခဲ့သည်။ စားပြန်တော့လည်း တိတ်တိတ်ဆိတ်ဆိတ် နိုင်လွန်းလှ၏။ စားသောက်ပြီးသည့်အခါ နှစ်ယောက်သား ထမင်းစားခန်းထဲမှာပင် ထိုင်နေကြသည်။ ထိုအခါ ကျမှပင် ပါမောက္ခ ဟေးလီးဗီး နီကိုလတ်စ် ကိစ္စကို ပြောပြသည်။

'ဒီလိုဆိုတော့လဲ ခင်ဗျားစိတ်ထဲမှာ သံသယရှင်းသွားပြီ ဆိုပါတော့ ဟုတ်လား'

ကြည်လင်လန်းဆန်းမှု ကင်းမဲ့လျက် ရှိသော ကောင်စစ်ဂန်သည် သူ့ကော်ဖီပန်းကန်ကို အဓိပ္ပာယ် မရှိ စိုက်ကြည့် နေရာ မှ ပြောသည်။

'မရှိတော့ဘူးလို့ဆိုရမှာပဲ'

ပါမောက္ခက ကော်ဖီကို တစ်ကျိုက်မျှ ငုံလိုက်ပြီး အားရကျေနပ်သံဖြင့် ပြန်ဖြေ သည်။

http://www.shwezinu.com/



'ကိုယ့်အပြစ်ကို သူတပါးပေါ် ပြောင်းသွားအောင် လုပ်တာလေးကတော့ စံနမူနာ ထောက်ပြ သင့်တယ်၊ မက်ဂ်ဒါလီးနားနဲ့ဆုံလဲ ရှင်းလိုက်ရော... သူလဲ လက်မြှောက် အရှုံးပေးတော့တာပဲ'

'အခုလို ပေါ်သွားအောင် စစ်လိုက်တာ ကောင်းမှကောင်းပွဲမလား၊ သားရဲ့စိတ်မှာ သိပ်ပြီး ထိခိုက် သွား မလား'

'စိတ်မပူစမ်းပါနဲ့.... မိတ်ဆွေကြီးရယ်၊ ကလေးက ငိုတယ်ဆိုတာ ခဏပေါ့၊ စိတ်ထိခိုက်လဲ ခဏပေါ့'

'အခုကော သူ့အခြေအနေကောင်းရဲ့လား'

'အခုလောက် ဆိုယင် မောမောနဲ့ အိပ်ပျော်နေရောပေါ့၊ အပြစ် ဒဏ်ခံပြီးတာနဲ့ တပြိုင်နက် စိတ်မော လူမောဖြစ်ပြီး နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော် သွားတတ်တယ်၊ ဒါဟာ ဖြစ်ရိုးဖြစ်စဉ် တခုပါ မပူပါနဲ့၊ ဒါပေမယ့် သူ့အနား ကိုတော့ ခင်ဗျားမကပ်နဲ့ဦး၊ သူ့ဘာသာ သူတယောက်တည်းပဲ နေပါစေ။ နောက်ဆက်တွဲ ဘယ်လို တုံ့ပြန်မှုမျိုး လာဦးမလဲဆိုတာ စောင့်ကြည့်ရဦးမယ်။ အခုလို သာမန်ပြုနေကျမဟုတ်တဲ့ အပြုအမူ အလေ့ အကျင့် မျိုးဟာ တော်တော်နဲ့ မပျောက်တတ်ဘူး၊ ဒါတွေကို အမြစ်ကစပြီး ရှင်းမှဖြစ်မှာ'

စားပွဲအောက်ရောက်နေသော ကောင်စစ်ဝန်၏ လက်သည် လက်သုတ်ပဝါကို တအားဆုပ်ကာ လုံးချေလျက် ရှိသည်။ သူသည် ပေးလီးဗီးကို မကြည့်ပဲ မေးသည်။

http://www.shwezinu.com/

'ဂျီစီ ကျေတော့ကော'

ပါမောက္ခလက်ထဲမှ ကော်ဖီပန်းကန်ကို စားပွဲပေါ်သို့ ပြန်ချလိုက်သည်။

'ကနေ့ မနက်ပဲ သူနဲ့တွေ့ပြီး မေးစရာရှိတာတွေ မေးပြီးပြီ၊ ရိုးပုံရိုးလက် ယုတ်ကန်းတဲ့ တဲ့ ကောင် တစ်ယောက် ပဲဗျ'

သူသည် စကားကို ဖြတ်ထားပြီး စဉ်းစားနေဟန်ပြုသည်။

'သူနဲ့ပတ်သက်လို့ ခင်ဗျား စိတ်ထဲ ဘယ်လိုခံစားနေရတယ်ဆိုတာ ကျွန်တော်နားလည်ပါတယ၊ ဒါပေမယ့် လက်တွေ့ကျကျ အရေးယူ ဖို့ ကျတော့ခက်တယ်၊ ကျွန်တော်တို့ ဘာလုပ်ကြမလဲ...၊ ခင်ဗျားနဲ့ ခင်ဗျားသား နီကိုလတ်စ်ရဲ့ ဂုဏ်သိက္ခာ ကို မထိခိုက်ပဲနဲ့ အရေးယူလို့ဆိုတာ လုံး-မဖြစ်နိုင်ဘူး၊ လူသိရှင်ကြား အဖြစ်ခံပြီး လုပ်ဖို့ ဆိုတာ ဟာ စဉ်းကိုမစဉ်းသင့်တဲ့ ကိစ္စ'

'ဘာပဲဖြစ်ဖြစ် တခုခုတော့ လုပ်ရမှာပဲ'

ကောင်စစ်ဝန်က အံကိုကြိတ်၍ ရေရွတ်သည်။ သူ့ခေါင်းသည် ငိုက်စိုက် ကျလျက် ရှိလေသည်။

'ဒါတော့ သည်းခံပြီး အချိန်စောင့်ပါ၊ ဒီကောင်စားမျိုးဆိုတာက သူတို့နဲ့ထိုက်တန်တဲ့ကြိုး ကိုသာ ပေးဖို့ လိုပါတယ်။ ပေးသာပေးနိုင်ယင် သူရတဲ့ကြိုးနဲ့ သူ့လည်ပင်း သူတပ်မှာ သေချာတယ်၊ ကျွန်တော် ဂရေစီယာ

http://www.shwezinu.com/

နဲ့လဲ နေ့လယ်စာ မစားခင်ကလေးကပဲ စကားပြောခဲ့ပြီးပြီ၊ သူ့အခန်းထဲက ငွေနည်းနည်းပါးပါး ပျောက်တယ် ပြောတယ်၊ သူက စကားများများ မပြောဘူး၊ ပြောသမျှဟာလဲ အတတ်ကလေး ချင့်ချင့်ချိန်ချိန် ရှိပုံ ရတယ်၊ ဒါပေမယ့် သူပြောတဲ့ စကားထောက်ပြီး ကျွန်တော်စဉ်းစားလို့ရတဲ့ အချက်တချက် ရှိတယ် သူ့ပိုက်ဆံ ခိုးတဲ့ သူခိုးဟာ ဂျိုစီဖြစ်ရမယ်လို့ သံသယရှိနေတဲ့ သဘောပါတယ်'

'ဘာ...'

ကောင်စစ်ဂန်က နားမလည်လိုက်သည့် ပမာရေရွတ်သည်။ ထို့နောက်... ဟေးလီးဗီး ပြောသည့် စကားအဓိပ္ပာယ်ကို သဘောပေါက်သွားသည်။ သူ့မျက်လုံးအစုံသည် တောက်ပလာသည်။

'ဂရေစီယာရဲ့ ပိုက်ဆံ ကိုခိုးတယ်..ဟု ထပ်မံရေရွတ်ပြန်သည်။ 'ဒီကိစ္စကိုတော့ ဆိုင်းနေလို့ မဖြစ်ဘူး၊ ချက်ချင်း အရေးယူ ရမယ်'

ဟေးဗီးလီးထံမှ စကားပြန်မရသေးခင်မှာပင် ကောင်စစ်ဂန်၏ လက်သည် စားပွဲပေါ်မှ ဘဲလ်ပေါ် ရောက်သွား သည်။ ထို့နောက် ဘဏ္ဍာစိုး ဂရေစီယာ ရောက်လာသည်။ စားပွဲထိုး အင်္ကျီအဖြူကို ကြယ်သီး တပ်ယင်း... ပါးစပ်ထဲရောက်နေသည့် အစာတခုကို ကသောကမျော ဝါးမျိုယင်းနှင့် ဝင်လာခြင်းဖြစ်၏။

http://www.shwezinu.com/



'ကျွန်တော့်ကို ခွင့်လွှတ်ပါ ဆီညော်'ဟု တရိုတသေ တောင်းပန်သည်။ ဆီညော်တို့ စားသောက်ပြီးပြီထင်လို့ ကျွန်တော်နဲ့ မက်ဂ်ဒါလီးနား နေ့လယ်စာ...'

'ကိစ္စမရှိဘူး... ဂရေစီယာ ငါနားလည်တယ်'ဟု ကောင်စစ်ဝန်က ကြားဖြတ် ပြောသည်။

'မင်းကို စားသောက် နေတုန်း အနှောင့်အယှက်ပေးရတာ ဆောရီးပဲ ဒါပေမယ့် အရေးအကြီးဆုံး ပြဿနာတခု ပေါ်လာ တာ သိရလို့ ခေါ်တာ၊ မကြာသေးခင်က မင်းရဲ့ငွေပျောက်တယ်ဆိုတာ ဟုတ်သလား'

'ပျောက်တယ်...ဟုတ်လား...ဆီညော်'

ဂရေစီယာက ပခုံးကို အသာအယာတွန့်လိုက်သည်။

'လူတစ်ယောက် ဟာ သူ့ငွေကို အံဆွဲထဲထည့်ပြီး သော့ခတ်ထားယင် ပျောက်တယ်လို့ ပြောနိုင် ပါ့မလား...ခင်ဗျာ'

ဒီလိုဆိုယင် ငွေကို အခိုးခံရတယ်လို့ ဆိုပါတော့'

'မှန်ပါတယ်....ဆီညော်၊ သံသယဖြစ်စရာမရှိပါသည်၊ အံဆွဲသော့ကို ကျွမ်းကျွမ်းကျင်ကျင် ဖွင့်သွား တာပါ'

ကောင်စစ်ဝန်က သက်ပြင်းချသည်။

http://www.shwezinu.com/



'မင်းအတော့်ကို သည်းခံခွင့်လွှတ်နိုင်တာပဲ၊ မင်းတော်ပါပေတယ် ...ဂရေစီယာ'

ဂရေစီယာ သည် ပခုံးကို ထပ်တွန့်ပြသည်။ သူ့အမူအရာက ဘာမှ မထူးခြားသလိုပင် ဖြစ်သည်။

'ငွေက ချမ်းသာသွားနိုင်လောက်အောင် မများပါဘူး ဆီညော်၊ အားလုံးပေါင်းမှ ပီဆိုသုံးလေးဆယ်ပဲ ရှိမှာပေါ့၊ ကျွန်တော့ရဲ့ ဘဝ အတွေ့အကြုံအရ ပြောရယင်တော့ ဒီငွေလောကဟာ ဘဝပျက် လောက်တဲ့ ငွေ မဟုတ်ပါဘူး၊ ပြီးတော့လဲ၊ ကျွန်တော်နေခဲ့ရတဲ့ ဂုဏ်သရေရှိ လူကြီး လူကောင်း မင်းစိုးရာဇာတွေရဲ့ အိမ်တွေမှာ မရိုးသားတဲ့ အစေအပါးတွေနဲ့ ဆက်ဆံ ပေါင်းသင်းခဲ့ရဖူးပါတယ်၊ ဒါပေမယ့်... လို့...'

သူသည် ကောင်စစ်ဝန်အား တချက်ကြည့်၍ အကဲခတ်သည်။

'ဒါပေမယ့် ပစ္စည်းအခိုးခံရတာနဲ့ ပတ်သက်လို့ ကျွန်တော် ငြိမ်မနေပါဘူး... ခင်ဗျာ'

'မင်းပြောတာက...'

'ဒီလိုပါခင်ဗျာ'

ဂရေစီယာ၏ မျက်လုံးများသည် ကောင်စစ်ဝန်၏ မျက်နှာပေါ်သို့ စူးစိုက်ထားသည်။

http://www.shwezinu.com/

'ဒီထက်မက တန်ဖိုးရှိတဲ့ ပစ္စည်းတွေ အခိုးခံရမှာစိုးတဲ့အတွက် ကျွန်တော်က မျက်ခြည်မပြတ် စောင့်ကြည့် နေခဲ့ပါတယ်။ အခုဆိုယင် ဒီပစ္စည်းတွေ အခိုးခံရပြီလို့ ကျွန်တော်ထင်ပါတယ်'

အားလုံး ငြိမ်ဆိတ်သွားသည်။ ကောင်စစ်ဝန်သည် ပါးစပ်ဟောင်းလောင်း ဖြစ်လျက်ရှိ၏။ ဟေးလီးဗီးကမူ ကိုယ်ကို စားပွဲပေါ်သို့ ကိုင်းကာ ဂရေစီယာအား အလွန်စိတ်ဝင်စားသည့်ဟန်ဖြင့် ငေးကြည့်နေသည်။

ဂရေစီယာက ပါမောက္ခ၏ မျက်နှာကို တချက်မျှ လှည့်ကြည့်သည်။

'ကျွန်တော့အနေနဲ့ အလျက်ဆုံး ပြောရမယ့် စကားကို မပြောမိဘူးခင်ဗျ၊ အဖိုးတန်ပစ္စည်း ပျောက်နိုင်တာဟာ ကျွန်တော့အခန်း မဟုတ်ဘူး ဆိုတာ သတိပြုမိဖို့ လိုပါတယ်ခင်ဗျာ၊ ကျွန်တော်ကတော့ သူတပါး ဒုက္ခရောက်မှာကို မမြင်ချင်တာ အမှန်ပါ၊ ဒါပေမယ့် အခုလို ဂန်မင်းကစပြီး မေးလာတော့ ဒီကိစ္စကို ကျွန်တော်မပြောယင် မဖြစ် တော့ဘူး လို့ ယူဆပါတယ်၊ ဒါကြောင့် ကျွန်တော် ပြောပါရစေ၊ ဂန်မင်းရဲ့ မှန်တင်ခုံပေါ်က သေတ္တာလေးကို သတိထားပြီး ကြည့်စေချင်ပါတယ်၊ အထဲက ပစ္စည်းတွေဟာ အလွန်အဖိုးတန်တဲ့ ပစ္စည်းတွေပါခင်ဗျာ၊ အဲဒီ ပစ္စည်းတွေ အထဲမှာ ရှိပါသေးရဲ့လား ခင်ဗျာ'

'မင်းပြောတာ...ဟို...ငွေါအကျီကြယ်သီးနဲ့ လက်ကြယ်သီးတွေထည့်တဲ့ သေတ္တာလား'



http://www.shwezinu.com/

'ဂန်မင်းရဲ့စိန်စီထားတဲ့ အိပ်ဆောင်နာရီရယ်...၊ နီလာ အင်္ကျီကြယ်သီးတွေရယ်၊ ရွှေလက်စွပ်ရယ်...၊ အားလုံးဂန်မင်း အမြတ်တနိုး စုဆောင်းထားတဲ့ ပစ္စည်းတွေ ထည့်ထားတဲ့အခါမှာ ဧယျာဂစ္စ လုပ်ကိုင်ပေးယင်း နဲ့ ကျွန်တော်မြင်ခဲ့ဖူးပါတယ်'

ဂရေစီယာ၏ စကားမှာ မှန်နေသည်။ ညှော့ခံပွဲတွေသွားပြီဆိုလျှင် သူသည် ဤပစ္စည်းများကို အမြတ် တနိုး တပ်ဆင်သွားတတ်သည်။ သူ့ကိုယ်တွင် အဖိုးတန်ပစ္စည်းများ ဆင်ယင်သွားခြင်းအားဖြင့် အများထက်သာအောင် လုပ်ရမှာ ကျေနပ်သူဖြစ်လေသည်။

သူသည် ချက်ချင်းပင် ထိုင်နေရာမှ ဖြုန်းကနဲ ထရပ်သည်။ 'ကဲ....လာကြ၊နှစ်ယောက်စလုံး လိုက်ခဲ့ကြပါ'

သူသည် အပေါ်ထပ်သို့ တက်သွားကာ သူ့အခန်းထဲတန်းဂင်သည်။ သေတ္တာကလေးသည် မှန်တင်ခုံအလယ်တည့်တည့်တွင် နေရာမပျက်။ ဘေးတဘက်တချက်တွင် အဂါရောင် ဆင်စွယ် ဂက်မှင်ဘီးနှင့် ရေမွှေးပုလင်း။ ဘရန်းဒီး သည် တုံ့ဆိုင်းမနေပဲ သေတ္တာအဖုံးကို ဆွဲဖွင့်သည် သေတ္တာ ထဲ တွင် ဘာပစ္စည်း မှမရှိ။ ဟောင်းလောင်း...။

ကောင်စစ်ဂန်၏နှုတ်မှ ဘုရားတသံထွက်လာသည်။ ဦးခေါင်းမှာလည်း မိုက်ကနဲ ဖြစ်သွားသည်။ တကိုယ်လုံးဖိုးဖိုးဖတ်ဖတ် ဖြစ်လာသည်။

http://www.shwezinu.com/


'ခင်ဗျား..အတော်ကြီးကို ပေါ့တာပါလား၊ ဘာကြောင့် သော့ခတ် မထားတာလဲ ကောင်စစ်ဝန်၏ နောက်မှ ရပ်နေသော ပေးလီးဗီးက ယူကျုံးမရသံဖြင့် မြည်တမ်းသည်။

ဘရန်းဒီးက လှည့်ကြည့်သည်။

'ကိုယ့်တပည့်တွေ ကိုယ်ယုံကြည်လို့ ဒီ အတိုင်း ထားတာ၊ အလျင့်အလျင် ကလဲ ဒါမျိုး တခါမှ မဖြစ်ခဲ့ဖူးဘူး၊ အခုတော့ ကျွန်တော့ စိန်ထည် ပစ္စည်းတွေ၊ နည်းတဲ့တန်ဖိုး မဟုတ်ဘူး၊ ကြံကြံဖန်ဖန်နဲ့ ခက်ခက်ခဲခဲ စုဆောင်းထားတာ၊ အစားထိုးဖို့မလွယ်တဲ့ ပစ္စည်းတွေ၊ ဒီမယ်...ဂရေစီယာ၊ ဒီပစ္စည်းတွေကို ဘယ်သူ ယူတယ်လို့ မင်းထင်သလဲ...၊ ပြောစမ်း'

ဂရေစီယာက နှုတ်ခမ်းကိုမဲ့သည်။ ကောင်စစ်ဝန်၏ အမေးကို မဖြေ။ သို့သော်လည်း သူ့အကြည့်သည် ကောင်စစ်ဝန်၏ နောက်ဘက် ပြတင်းပေါက်မှ နေ၍ အပြင်ဘက် ပန်းဥယျာဉ်ဆီ သို့ ရောက်လျက်ရှိသည်။

'ဟုတ်တယ်၊ ဒီကောင်ပဲ ဖြစ်မယ်' ဟု ဘရန်းဒီးက ဒေါသကြီးကြီးနှင့် ခပ်ကျယ်ကျယ်ပြော သည်။

'ကဲ ဟေ့...ဂရေစီယာ၊ မင်းဒီမှာနေခဲ့၊ ကဲလာဗျာ ဒေါက်တာ ပေးလီးဗီး၊ ကျွန်တော်ခင်ဗျား ရဲ့အကူအညီတော့ ရမှ ဖြစ်မှာ'

http://www.shwezinu.com/



ကောင်စစ်ဝန်သည် ပေါးဗီးလီးနှင့်အတူ အိမ်ပြင်သို့ ထွက်လာပြီး ပစ္စည်းများထားရာ တဲဆီသိုက တန်းသွားသည်။ တဲထဲတွင် ဂျိုစီမရှိ။ ဘရန်းဒီးက အနီးအနားတဝိုက်သို့ လှည့်၍ရှာသည်။ ဒေါသရောင် လွှမ်းနေသော သူ့မျက်လုံးများသည် တဲတံခါး၏ အနောက်ဘက် သံငုတ်တခုတွင် ချိတ်ထားသော ဂျိုစီ၏ ဂျက်ကက် အင်္ကျီပေါ် ရောက်သွားသည်။ ဒေါသဖြင့် ရေရွတ်လိုက်သော အသံတသံသည် ဘရန်းဒီး၏ နှုတ်မှ ထွက်လာသည်။ အသံက မပီမသ…။ မသဲမကွဲ။ အမှန်တော့ ဘရန်ဒီးသည် အလွန်သတိကြီးသူ ဖြစ်သည်။

စည်းကမ်း ဥပဒေကိုလည်း တိတိကျကျ လိုက်နာတတ်သူ ဖြစ်သည်။ သို့သော်လည်း အခုတကြိမ်တွင်မူ သူ့ကိုသူ မထိန်းနိုင်။ ဂျိုစီအပေါ် မုန်းတီးရွံ့ရှာသော စိတ်ကြောင့် စည်းလွတ်ဝါးလွတ် ဖြစ်သွားသည်။ သူသည် တံခါးသံငုတ်မှ ဂျိုစီအင်္ကျီကို ဆွဲဖြုတ်လိုက်ပြီး အိပ်ကပ်များထဲသို့ နှိုက်၍ ရှာသည်။ အင်္ကျီအိပ်ကပ်များ အတွင်းမှ အဖိုးမတန်သော ပစ္စည်းများထွက်လာသည်။ ကြိုးထုံးတထုံး၊ ငါးမျှားချိတ်များ၊ သတင်းစာ စက္ကူဟောင်း တစဖြင့် ပတ်ထားသော ပေါင်မုန့်တစ်ချပ်၊ ပျားဖယောင်းတတုံး၊ ဖွန်းဟောင်း တချောင်း။ အင်္ကျီတွင်အိပ်ကပ်တွေက အများကြီး…။ အတွင်းဘက် လိုင်နင်တထပ်ခံ၍ ချုပ်ထားသည့် အိပ်ကပ် လည်း ရှိနေသည်။ ဘရန်းဒီး၏ လက်သည် တအိတ်ပြီး တအိတ်နှိုက်သည်။ နောက်ဆုံးတွင်

http://www.shwezinu.com/



မျက်နှာ ဖင်းကနဲဖြစ်သွားသည်။ သူ့လက်ထဲတွင် အဝါရောင်တပြောင်ပြောင် တလက်လက် တောက်ပ နေသော ရုပ်အင်္ကျီလက်ကြယ်သီးတစုံ...။

'ဒါကျွန်တော့ပစ္စည်းတွေ၊ ခင်ဗျား မြင်တယ်မဟုတ်လား၊ ဘာမှပြောစရာမလိုတော့ဘူး၊ ကျွန်တော့ ပစ္စည်းမှ ကျွန်တော့ပစ္စည်းအစစ်၊ အခုအတိုင်းဆိုယင် သူ့ဆီမှာ ဒီတစုံပဲ ကျန်တော့တဲ့ လက္ခဏာပဲ ပစ္စည်း အားလုံး ရောင်းစားပစ်ပြီနဲ့ တူပါတယ်။ အဖိုးတန်မှန်သမျှအားလုံး ရောင်းပြီးပြီ ထင်တယ်၊ ဒီပစ္စည်းတွေက သိပ်တန်းဖိုး ရှိတာမှမဟုတ်တာ'

ဟေးဗီးလီးကတော့ ကျေနပ်အားရလျက်ရှိသည်။

'ကျွန်တော် ခင်ဗျားကို ပြောခဲ့တယ်မဟုတ်လား၊ ဒီအကောင်မျိုးဟာ သူ့လည်ပင်းသူ ကြိုးတပ်မှာပါလို့၊ ဒါကြောင့် မို့ ခင်ဗျားရဲ့ကျန်းမာရေးအတွက် စိတ်ကိုအေးအေးထားပြီး လုပ်ပါလို့ တိုက်တွန်းခဲ့တာ အခုလဲ အေးအေး ဆေးဆေးပဲလုပ်ပါ'

'ကျွန်တော်အေးအေးဆေးဆေး မလုပ်နိုင်တော့ဘူး ဟေးဗီးလီး၊ ဒီကောင့်ကို ကျွန်တော် အများကြီး သည်းခံ ခဲ့ပြီ၊ သူ့ကြောင့် ကျွန်တော်ရော ကျွန်တော့်သားပါ ဒုက္ခရောက်ခဲ့ရတယ်'

သူသည် အသံကိုမြှင့်၍ အော်သည်။

'ဂျိုစီ...၊ ဟေ့...ဂျိုစီ၊ ဒီကို အခုချက်ချင်းလာခဲ့စမ်း'



http://www.shwezinu.com/

နောက်တကြိမ်ထပ်၍ အော်ခေါ်တော့မည်ဟု ဟန်ပြန်နေသည်မှာပင် အပြေးအလွှား လာနေသော ခြေသံများ ကြားနေရသည်။ တခဏအတွင်းမှာပင် ဂျိုစီသည် တဲအတွင်းသို့ မောတကောနှင့် ဝင်လာ သည်။ သူသည် ခေါင်းမှ ဦးထုပ်ကိုချွတ်၍ ချိတ်ပြီး ကောင်စစ်ဝန်၏ ရှေ့၌ ရပ်နေသည်။

'ကျွန်တော့ကို ခေါ်ပါသလား ဆီညော်'

'ဟုတ်တယ်၊ ငါမင်းကိုခေါ်တယ်'

ကောင်စစ်ဝန်က သူ့လက်ဖဝါးကို ဖြန့်ပြသည်။

'မင်းဒီပစ္စည်းတွေကို ဘယ်ကရသလဲ'

ဂျိုစီက ပစ္စည်းများကို သေသေချာချာ ငုံ့ကြည့်သည်။ သူ၏ နက်မှောင်သော မျက်လုံးများသည်။ ပေါးလီးဗီး ကို ကြည့်လိုက်...၊ ကောင်စစ်ဝန်ကို ကြည့်လိုက်....။

'ကျွန်တော်...ဂန်မင်းမေးတာကို နားမလည်ပါဘူးခင်ဗျာ၊ ဒီပစ္စည်းတွေကို ကျွန်တော် အလျင်က လုံးဂ မတွေ့ဖူး ခဲ့ပါဘူး'

' ဒီလိုဆိုယင် ဒီပစ္စည်းတွေ မင်းရဲ့ အင်္ကျီအိတ်ကပ်ထဲ ဘယ်လိုလုပ်ပြီး ရောက်နေသလဲ'

'ဒါလဲလုံးဂမဖြစ်နိုင်ပါဘူး ဆီညော်'

http://www.shwezinu.com/



ဂျိုစီက သူ့အကျီချိတ်ထားသော နေရာကို လှမ်းကြည့်သည်။

'ဒီနေရာ ကို ဒီပစ္စည်းတွေ မရောက်နိုင်ပါဘူး'

'ရောက်နေတယ်...ကွ၊ ရောက်နေတယ်'

ဂျိုစီ၏စကားကြားရသောအခါ ကောင်စစ်ဝန်၏ ဒေါသ အရှိန်တက်လာသည်။

'ငါဒီပစ္စည်းတွေကို မင့်အကျီအိတ်ကပ်ထဲက အခုပဲ တွေ့ခဲ့တာကွ'

'မဖြစ်နိုင်ပါဘူး ဆီညော်'

ဂျိုစီသည် နဖေတိမ်တောင် ဖြစ်လျက်ရှိ၏။ သူသည် ကောင်စစ်ဝန်၏ လက်ထဲမှ ပစ္စည်းများကို နားမလည်နိုင်လွန်းသည့် အမူအရာဖြင့် တွေဝေငေးမောလျက်ရှိ၏။

'တယောက်ယောက်က လာထည့်တာပဲဖြစ်မယ်'ဟု ရေရွတ်သည်။

ပါမောက္ခ၏ မျက်နှာတွင် လှောင်ပြောင် သရော်လိုဟန် အရိပ်လက္ခဏာများ ထင်ဟပ်လာသည်။ သူသည် နှုတ်ခမ်းကို တချက်မဲ့လိုက်သည်။

'ပေးလိုက်တဲ့ အဖြေကတော့ အလွန့်ကို ဂန္ထဝင်မြောက်ပါပေတယ်' ဟုလည်း ရေရွတ်သည်။

http://www.shwezinu.com/



သို့သော်လည်း သူ့စကားကို ဘရန်းဒီးမကြား။ ဒေါသကြောင့် နားနှစ်ဘက်စလုံး အူလျက်ရှိသည်။ သူ့ရင်မှာလည်း ပူလောင်လျက်ရှိ၏။ သူသည် စကားကို အထူးသတိထား၍ တလုံးချင်းပြောသည်။

'ငါရဲကို တိုင်ရလိမ့်မယ်၊ အခုလောလောဆယ်တော့ မင်းတို့နဲ့အတူ အိမ်ထဲကို လိုက်ခဲ့၊ ထွက်ပြေး ဖို့ကြိုးစားလဲအလကားပဲ'

ငြိမ်ဆိတ် နေပြန်သည်။ ဂျိုစီ၏ မျက်နှာသည် တိုး၍ ဖြူရော်ရော် ဖြစ်လာသည်။ အခံရခက်ခြင်းကို အထင်အရှား ဖော်ပြနေသော သူ့မျက်လုံးအစုံတွင် ဝမ်းနည်းသည့် အရိပ်အငွေ့များ ဝင်လာသည်။ သို့သော် လည်း သူသည် ထိတ်လန့်ကြောက်ရွံ့သည့် လက္ခဏာ မပြ။

'ကျွန်တော် ထွက်ပြေးဖို့ စိတ်မကူးပါဘူး ဆီညော်၊ ရဲတွေနဲ့လည်း ကျွန်တော် ခင်ပါတယ်၊ ကျွန်တော် သူခိုး မဟုတ်ဘူးဆိုတာ သူတို့ သိကြပါတယ်'

သုံးယောက်သား ရှေ့နောက်စီတန်း၍ အိမ်ဘက်သို့ ပြန်သွားကြသည်။ ရှေ့ဆုံးမှ ကောင်စစ်ဂန်၊ အလယ် မှဂျိုစီ၊ နောက်ဆုံးမှ ပေါးလီးဗီး...။ အိမ်ထဲရောက်သည့်အခါ ဂျိုစီကို ထမင်းစားခန်းထဲ ဝင် ခိုင်းပြီး အပြင်မှ တံခါး ပိတ်ထားလိုက်၏။

ဘရန်းဒီး ကိုယ်တိုင်ပင် ဆန်ဂျော်ဂျီရဲစခန်းသို့ ဖုန်းဆက်ပြီး အကြောင်းကြားသည်။ ကြာကြာ မစောင့်လိုက်ရ။ နာရီဝက် မပြည့်မီ

http://www.shwezinu.com/

တပ်ကြပ်တဦး ရောက်လာ သည်။ ရဲတပ်ကြပ်မှာ အသက်ငယ်ငယ်...။ လူလုံး လူဖန် ကောင်းကောင်း။ အစိမ်းပုပ်ရောင် ယူနီဖောင်း ဝတ်စုံနှင့်။ ဦးထုပ်က အနက်။ ဂရေစီယာက ရဲတပ်ကြပ် ကို ကောင်စစ်ဝန်ထံခေါ်လာ သည်။ ကောင်စစ်ဝန်သည် ယူနီဖောင်း ဝတ်စုံကို စမတ်ကျကျ ဝတ်လာသော ရဲတပ်ကြပ်ကို မြင်လျှင် မြင်ချင်း သဘောကျလျက်ရှိလေသည်။

'မင့်ကို အနှောင့်အယှက်ပေးသလိုဖြစ်ရတာ စိတ်မကောင်းပါဘူး တပ်ကြပ်ကြီး...၊ ဒါပေမယ့် ... ငါ့ အလုပ် ထဲ မှာ သူခိုးတယောက် ရှိနေလို့ '

အခုကျတော့လည်း ကောင်စစ်ဝန်၏စိတ်သည် အေးဆေးတည်ငြိမ်လျက် ရှိသည်။ သူသည် အဖြစ်အပျက် ကို အစမှအဆုံး စေ့စပ်သေချာစွာ ရှင်းပြသည်။ ရဲတပ်ကြပ်ကလည်း အေးအေးဆေးဆေး နားထောင်သည်။ သို့သော်လည်း ဂျိုစီ ဟူသော နာမည်ကို ကြားလိုက်ရသည့်အခါ ရဲတပ်ကြပ် ဆတ်ကနဲ ဖြစ်သွားသည်။ ချက်ချင်း ပင် သူ့မျက်နှာထားပြောင်းသွားသည်။ သူသည် သူ့ ရှူးဖိနပ် များကို ငေးစိုက်ကြည့်ရင်း တွေဝေ ငေးမော လျက်ရှိ၏။

'ကြားရတဲ့အဖြစ်ကတော့ အတော့်ကို ဆိုးတာပဲ ဆီညော်' ဟု ရဲတပ်ကြပ်ကပြောသည်။

' ဒါပေမယ့် ဒီကိစ္စ ဟာ ခိုင်လုံပါရဲ့လား ဆီညော် ...၊ ကျွန်တော် ဒီ ဂျိုစီ ဆန်တီရိုကို ကောင်းကောင်း သိတယ်၊ ကောင်လေးက ခပ်ကြမ်းကြမ်း ခပ်ရမ်းရမ်းလေးပဲ၊ ဒါပေမယ့်လည်း သူခိုးတယောက် ဖြစ်၍ ဆိုတာ ကတော့...'

http://www.shwezinu.com/



ကောင်စစ်ဝန်၏ မျက်နှာထားသည် ချက်ချင်းပင် တင်းမာသွားသည်။ သူ့ လေသံကလည်း ဩဇာ အာဏာသံ ပါလာသည်။

'မင်းက တာဝန်နဲ့ ဂတ္တရားထက် လူချင်း ရင်းနှီးခင်မင်မှုကို ဦးစားပေးချင်တယ် ထင်ပါရဲ့ ဟုတ်လား '

' ဟာ ... မဟုတ်ပါဘူး ဆီညော်၊ ကျွန်တော် ဆိုလိုတာက အဲဒီအဓိပ္ပာယ် မဟုတ်ပါဘူး'

ရဲတပ်ကြပ် က ကပျာ ကယာ ရှင်းသည်။

' ကျွန်တော်သူ့ကို အခုချက်ချင်း တွေ့ပြီး အရေးယူပွဲမယ်၊ သူ အခု ဘယ်မှာ လည်း '

သူတို့သည် ထမင်းစားခန်းထဲသို့ ဝင်ခဲ့ကြသည်။ ဂျိုစီသည် တယောက်တည်း ရပ်လျက်ရှိ၏။ သူ့ မျက်နှာသည် စိတ်ရှုခြင်းနှင့် အကြံရခတ်ခြင်းများကို ဖော်ပြလျက်ရှိလေသည်။

***************

http://www.shwezinu.com/

## အခန်း (၁၇)

နီကိုလက်စ်အဖို့တော့ မိုးရွာပြီး နေသာသလိုဖြစ်လျက်ရှိသည်။ ထိုနေ့သည် အဂတ်အစားလဲပြီး အခန်း ထဲမှ ထွက်ခွင့်ရသောနေ့…။ သူ့အဖေတို့နှင့်အတူ နံနက်စာစားခွင့်ရသော နေ့…။ အခန်း ထဲတွင် တယောက် တည်း နေခဲ့ရပြီး အခုလို အပြင်ထွက်ခွင့်ရလာတော့လည်း ပတ်ဂန်းကျင်သည် အသစ်အဆန်း ဖြစ်လျက် ရှိရ၏။ စိတ်လက် မပျော်မရွှင်ဖြစ်ခဲ့ရသော အချိန်များသည် ကုန်ဆုံးသွားပြီ ဟုထင်ရသည်။ သို့သော်လည်း စိတ်ထဲကတော့ စနိုးစနောင့်ဖြစ်ဆဲ…။ သူ့အခန်းထဲမှ မထွက်ရ သည့်နေ့များ အတွင်းက တစုံ တခုများ ဖြစ်ခဲ့လေသလား…။

မည်သို့ပင်ဖြစ်စေ အခုလောလောဆယ် တွေ့နေရသည့် အခြေအနေ ကတော့ သာတော့သာယာရှိ သည်။ သူ့အဖေရော၊ ဆရာဂန်ဟေးလီးဖီးရော နှစ်ဦးစလုံးက သူ့ကို ချိုသာစွာ ဆက်ဆံလျက် ရှိ ကြ၏။ သူ့အဖေ သည် ပါရီပွဲတင်သံဂျာနယ်ကို ဖတ်နေရာမှ သူ့အား မကြာ…မကြာ လှမ်း၍ကြည့် သည်။ ပါမောက္ခကတော့ သူ့ကို စကားအမျှင်မပြတ်အောင် ပြောလျက်ရှိ၏။ နံနက်စာ စားပြီးသော အခါ နီကိုလက်စ်သည် ရုတ်တရက် ထိုင်ရာမှမသေးပဲ သူ့အဖေ၏အမိန့်ကို စောင့်သည်။ ကောင် စစ်ဂန်သည် သူ့စာအုပ် အပေါ်မှ ကျော်၍ နီကိုလက်စ်အား လှမ်းကြည့်သည်။

http://www.shwezinu.com/



'ငါ့သား ကနေ့မနက် ဥယျာဉ်ထဲ သွားချင်ယင် သွားနိုင်တယ်'

ကောင်စစ်ဝန်၏ မျက်နှာ ဟေးလီး ဗီးဘက်သို့ ချက်ချင်း ပြန်လှည့်သွားသည်။

'ကျွန်တော် ကနေ့မနက်ပိုင်း ရုံးမတက်ဘူး၊ တကယ်လို့ ခင်ဗျား မငြီးငွေ့ဘူးဆိုယင်တော့ ကျွန်တော်ရဲ့ လက်ရေးစာမူ နောက်ဆုံးပိုင်းကို ဆက်ဖတ်စေချင်တယ်'

'မငြီးငွေ့ပါဘူးဗျာ၊ ဆက်ဖက်မှာပေါ့'

လက်သုတ်ပဝါဖြင့် သူ့နှုတ်ခမ်းများကို သုတ်နေယင်း ဟေးလီးဗီး နှင့် သူ့အဖေတို့ အပေါ်ထပ် တက်ကြပေတော့မည်။ ထိုအချိန် သူလွတ်လပ်စွာ နေနိုင် ခွင့်ရသည့်အချိန်...။ သူသည် ချက်ချင်းပင် အိမ်ရှေ့တံခါးကိုဖွင့်၍ အပြင်သို့ ထွက်ခဲ့သည်။

သန့်စင်အေးမြသော လေသည် သူ့အား ဆီးကြိုနှုတ်ဆက်သည် အပြင်လောက၌ လွတ်လပ်စွာ နေရခြင်း သည် မည်မျှကောင်းပါသနည်း။ ဂျီစီထံချက်ချင်း သွားလို့ကတော့မဖြစ်သေး ဟု သူတွေးသည်။ သူသည် တဖြည်းဖြည်း မှန်မှန်လျှောက်ကာ ပန်းဥယျာဉ်အတွင်းသို့ ဝင်ခဲ့သည်။ ပန်းများကတော့ ဝေဝေဆာဆာ ဖူးပွင့်လျက် ရှိကြပေပြီ။ တနေရာရောက်သော် သူသည် ပန်းကိုင်းတကိုင်းပေါ်၌ တွားသွား နေသော ပတ်ကျိတစ်ကောင်ကို

http://www.shwezinu.com/



မြင်သည်။ သူသည် ပတ်ကျိ၏ လှုပ်ရှားသွားလာပုံကို စိတ်ဝင်တစား ရပ်ကြည့်နေမိသည်။

ထိုအခိုက်မှာပင် ထိုင်ခုံတစ်ခုကို လက်တဘက်ဖြင့် ကိုင်၍ သူ့အဖေ၏စာမူကို ချိုင်းတွင် ညှပ်ကာ အိမ်ထဲမှ ထွက်လာသော ဒေါက်တာပောလီးဗီးကို မြင်လိုက်ရ၏ ပန်းရုံတခုဘေးတွင် အသင့်ချထားသည့် ပက်လက် ကုလားထိုင်တွင် ပောလီးဗီးဝင်ထိုင်လိုက်သောအခါ နီကိုလတ်စ်သည် အသာကလေး ခြေဖျားထောက်၍ မြင်းဇောင်းဘက်သို့ ထွက်လာခဲ့သည်။ မြင်းဇောင်းဘက်ဆီမှ ထွက်ပေါ်လာသော ထင်းဖြတ်သံ ကို နီကိုလတ်စ်အား ဆွဲဆောင်လျက်ရှိသည်။

သို့သော်လည်း ထင်းဖြတ်နေသူမှာ ဂျိုစီမဟုတ်။ ဂရေစီယာ....။ ဂရေစီယာသည် ကြံခုတ် ဓားတစ်ချောင်း ဖြင့် အလုပ်ရှုပ်လျက်ရှိသည်။ နီကိုလတ်စ်သည် ဂရေစီယာကို မြင်သောအခါ လန့်သွား သည်။ စိတ်လည်းပျက်သွားသည်။ သူသည် ဂျိုစီ မကြာသေးခင်ကမှ အပြီးသတ်သွားသော ကျောက်ပန်းတောင်း ဉယျာဉ်ဆီသို့ အသာကလေး ဆက်လျှောက်လာခဲ့၏။ ထိုနေရာတွင်လည်း ဂျိုစီမရှိ။ နီကိုလတ်စ် သည် အိုလင်ဒါပန်းရုံကို ကျော်ဖြတ်ကာ ပစ္စည်းထားရာ တဲအနီးမှ ဖြတ်လျှောက်သည် တဲအတွင်း ၌ လည်း လူမရှိ။ သူသည် နောက်ပိုင်းသို့ ပြန်လျှောက်လာခဲ့သည်။ နောက်ဆုံးတွင် ဒေါက်တာ ပောလီးဗီး ထိုင်နေသည့် ပန်းရုံဘေးသို့ ရောက်လာခဲ့လေ၏။

http://www.shwezinu.com/

ဖတ်နေသည့်စာအုပ်အပေါ်တွင် များစွာ စိတ်ဝင်စားနေဟန်ရှိသော ပေါးလီးဗီးအနီးသို့ ရုတ်တရက် ချက်ချင်း မသွားပဲ့။ အသာကလေးရပ်၍ အကဲခတ်နေသည်။ သို့သော်လည်း သူကြာရှည်ရပ်မနေနိုင်။ အရဲစွန့် ကာ အနားသို့ကပ်သွားခဲ့သည်။ ပေါးလီးဗီးက သူ့အားမော်ကြည့်သည်။ 'ဒီအနီးအနားမှာ ရေပန်း ကရားကြီး တလုံးမတွေ့မိဘူးလား...ခင်ဗျာ'

'မတွေ့ဘူးကွ' ဟု ပေါးလီးဗီးက လိုလိုချင်ချင်ဖြေသည်။

'မင်းရှာမတွေ့လို့လား' ဟု ပြန်မေးသည်။

'မတွေ့လို့၊ ပီးတူးနီးယားပန်းတွေ ညှိုးကုန်ပြီ၊ ရေလောင်းပေးဖို့ လိုနေတယ်'

'ဟုတ်လား.....၊ ဒါဆိုယင်... ထပ်ရှာကြည့်ဦးလေ၊ တွေ့ချင်တွေ့မှာပေါ့'

'ဘယ်နေရာမှာ ထားမှန်း ကျွန်တော်လဲ မသိဘူး၊ တကယ်လို့ တွေ့လဲ ကျွန်တော်နိုင်မှာ မဟုတ်ဘူး ရေပုံးက အကြီးကြီး၊ သိပ်လေးတယ်'

'ဒီလိုဆိုယင်တော့ ရေလောင်းဖို့ဆိုတဲ့ စိတ်ကူး မင်းခေါင်းထဲက ထုတ်ပစ်လိုက်တာက အကောင်းဆုံး ပဲကွ'

'ဒါပေမယ့် ပီတူးနီးယား ပန်းတွေ သေကုန်လိမ့်မယ်၊ တစ်ယောက်ယောက်ကို ရေလောင်းခိုင်းယင် ကောင်းမယ်'

http://www.shwezinu.com/

'မသေပါဘူးကွာ၊ စိတ်မပူပါနဲ့၊ မင်းပန်းတွေရှင်မှာပါ'

နီကိုလတ်စ်ဘာပြောရမှန်းမသိ။ စိတ်ရှုပ်ဟန်ဖြင့် ပေးလီးဗီးအား ကြည့်နေသည်။ ပါမောက္ခ ပေးလီးဗီး ကတော့ ဘာမှတန်ဖိုးမရှိသည့် သူ့လက်ထဲက စာမူကို ပြန်ဖတ်ကြည့် နေသည်။ ပြီးတော့ မော့မကြည့်ပဲ ဆက်ပြောသည်။

'မင်း ဆက်လျှောက်ဦးမှာမဟုတ်လား၊ ဆက်လျှောက်လေကွာ၊ ကနေ့ညပိုင်း ကျမှ မင်းနဲ့စကားပြောမယ်၊ အခုတော့ မပြောနိုင်သေးဘူး၊ ငါ့ကို မနှောင့်ယှက်တော့နဲ့'

နီကိုလတ်စ်သည် ပေးလီးဗီး အပါးမှ ခွာလာခဲ့သည်။ သူ့ခြေထောက်များသည် အိမ်နောက်ဖေး မီးဖိုချောင် ဘက်သို့ ဦးတည်နေသည်။ သူ့ခေါင်းထဲသို့ မက်ဂ်ဒါးလီးနားအကြောင်း ဝင်လာသည်။ မနေ့က သူမြင်တွေ့ ခဲ့ရသည့် မက်ဂ်ဒါးလီးနား၏ အပြောအဆိုနှင့်အပြုအမူများ အံ့ဩဖွယ် ကောင်းလှ၏။ မက်ဂ်ဒါးလီးနား မှ ဟုတ်ရဲ့လားဟုပင် စိတ်ထဲက သံသယ ဖြစ်ခဲ့မိ၏။ အခုသူဒီဘတ်ရောက်လျှင် မက်ဂ်ဒါးလီးနားနှင့် ဆုံမိတော့မည်။ မည်သို့ပင် ဖြစ်စေခဲ့ကာမူ မက်ဂ်ဒါးလီးနားသည် သူ့အပေါ် အခင်မင် ပျက်ဦးမည် မဟုတ်။

သူတွက်သွားသည့်အတိုင်းပင် မက်ဂ်ဒါးလီးနားသည် မီးဖိုချောင်အထွက် တံခါးဝ လှေကားခုံတွင် ထိုင်၍ ကြက်တကောင်ကို ပေါင်ပေါ်တင်ကာ

http://www.shwezinu.com/



အမွေးနုတ်လျက် ရှိလေသည်။ သူ့နောက်ဘက်မီးဖိုပေါ်တွင်မူ အိုးတလုံး ပွက်ပွက်ဆူလျက်ရှိ၏။ နီကိုလတ်စ်သည် သူ့အင်္ကျီအိတ်များတွင် လက်နှိုက်ထား၍ ရပ်ကာ မက်ဂ်ဒါး လီးနားအားကြည့်နေသည်။ မက်ဂ်ဂါးဒါးလီးနား ကြက်မွေးနုတ်ပုံမှာ ဖိုးဖိုးဖတ်ဖတ် နိုင်လှ၏ လုပ်ကိုင် နေပုံမှာ စိတ်မရှည်သည့်ပုံ...။ မျက်နှာကလည်း အောက်သိုးသိုး စူတူတူ...။ မက်ဂ်ဒါလီးနား စိတ်တို နေမှန်းချက်ချင်း ရိပ်မိသည်။ နီကိုလတ်စ်က ချော့မော့သော လေသံဖြင့် လှမ်းမေးသည်။

'မက်ဂ်ဒါးလီးနား....၊ ဂျိုစီဘယ်ရောက်နေလဲ'

မက်ဂ်ဒါလီးနားက ခေါင်းကို ခပ်ကြမ်းကြမ်း ယမ်းခါပြီး လက်ထဲမှ ကြက်သေကို လက်ဂါးတဘက်ဖြင့် တအား ပုတ်လိုက်သည်။

'သွား....သွား....၊ ငါဘာမှမသိဘူး၊ ဘာမှလဲ မသိချင်ဘူး ငါ့မှာမနက်ရော၊ နေ့လည်ရော၊ ညရော လုပ်စရာ အလုပ်တွေ အများကြီး ရှိနေတယ်၊ ငါလူအားမဟုတ်ဘူး၊ ကျွန်မကြီးတစ်ယောက်လို အလုပ် လုပ်နေရတဲ့လူ....၊ သိလား၊ ငါပြောတာကြားရဲ့လား၊ သွား၊ သွား၊ ငါ့ခြိမလာနဲ့'

နီကိုလတ်စ်သည် ထိပ်လန့်တကြားဖြစ်ကာ ပြန်လှည့်လာသည်။ သူသည် ထိကရုံး ချုံးကြီးနောက်သို့ ဂင်ရောက်ပျောက်ကွယ်သွားသည်။ တစ်ဘက်တွင် အိမ်ဂင်းခြံ၏ နံရံသဖွယ်ဖြစ်သော ကျောက်ဆောင် ကြီးရှိရာသို့ ရောက်လာသည်။ သူသည် ကျောက်ဆောင်ပေါ် တက်၍ထိုင်ကာ

http://www.shwezinu.com/



ပင်လယ်ဘက်သို့ စိတ်ပျက် လက်ပျက်ဖြင့် ငေးကြည့်နေသည်။ ပင်လယ်ပြင်ဘက်တွင် ဘာမှမရှိ။ ဘာဆိုဘာမှမရှိ။ ဂျိုစီ ဘယ်ရောက် နေသနည်း။ သူ့အမေကများ ကိစ္စတခုရှိ၍ အပြင်သို့ခိုင်းလိုက်လေသလား။ ဘာပဲဖြစ်ဖြစ် နေ့ခင်းပိုင်း ကျလျှင်တော့ ဂျိုစီပြန်ရောက်လာမည်ထင်၏။

စီးကရက်မီးခိုးများကို မြင်လိုက်ရသဖြင့် နောက်သို့ လှည့်၍ ကြည့်လိုက်မိ၏။ အားလွန်ပြီး ကျောက်တုံးပေါ်မှ ကျသွားတော့မည့်နယ် ဖြစ်သွားသည်။ သူ့နောက်တွင် ရောက်နေသူမှာ ဂရေစီယာ.....။ ဂရေစီယာသည် မြင်းဖောင်းဘက်မှ ထွက်လာခြင်းဖြစ်၏ သူစီးထားသည့် ဖိနပ်ကညှပ်ဖိနပ်မို့ သူ့ခြေသံကို နီကိုလတ်စ် မကြားရခြင်းဖြစ်သည်။ ဂရေစီယာသည် နီကိုလတ်စ်ဘေး၌ လာရပ်ပြီး ပင်လယ်ပြင်ဘက်သို့ လှမ်းမျှော် ကြည့်သည်။ ဂါထိန်နေသော သူ့လက်ညှိုးနှင့် လက်ခလယ်ကြားမှ စီးကရက်မီး သည် တငွေ့ငွေ့.....။

'ပင်လယ်ကြီးကိုကြည့်စမ်း' ဟု သူကစကားစသည်။

'မကြီးကျယ်၊ မခန့်ညားဘူးလား၊ ရောမ သတ္တဂါကြီး တကောင် လဲလျောင်းနေတဲ့အတိုင်းပဲ လှိုင်းလုံးကြီးတွေကတော့ လျှာကြီးနဲ့ တူတယ်'

တုန်လှုပ် ချောက်ချားလျက်ရှိသော နီကိုလတ်စ်သည် စကား ပြန်မပြောပံ့။ သူသည် ကျောက်တုံးပေါ်တွင် ငြိမ်ကုပ်ပြီး ထိုင်နေသည်။ သို့သော်လည်း ဂရေစီယာ၏ စိတ်ကြည်လင်ရွှင် လန်းနေမှန်းသူ အကဲခတ်

http://www.shwezinu.com/



မိသည်။ တစုံတခုသော အကြောင်းကြောင့် သူ့စိတ်ပျော့ပျောင်းနေဟန် တူ၏ ပီတိဖြစ်နေပုံလည်းရ၏။ သူ့မျက်လုံး အစုံသည် ရီဝေလျက်ရှိသည်။ သူသည် စီးကရက်ကို အားရပါးရ ဖွာလိုက်လေသည်။

'လူတွေနဲ့ဝေးရာကို သွားနေရတာအကောင်းဆုံးပဲကွ သိလား၊ လူတွေဟာ အလကားပဲ၊ ဘာမှ အသုံးကျတဲ့သတ္တဝါတွေ မဟုတ်ဘူး၊ အလွန် ရယ်စရာကောင်းတဲ့ သတ္တဝါတွေ....၊ ငါပင်လယ်အကြောင်း ကောင်းကောင်း သိတယ်၊ ငါဟာ ကမ္ဘာ သမုဒ္ဒရာတွေထဲမှာ သင်္ဘောနဲ့ ခရီးသွားခဲ့ဖူးတယ် ၊ ငါဆာဂိတ်ဆိုး ဘက်ကိုလဲ ရောက်ခဲ့ဖူးတယ်၊ ဘယ်ကိုပဲ ကြည့်....ကြည့်၊ စိမ်းစိုနေတဲ့ ပေါင်းပင်တွေချည်းပဲ၊ ရေမျက်နှာပြင် အောက်မှာ တပင်ကို တပင်တွယ်ပတ်ပြီး ပေါက်နေကြတာကွ၊ အော်တိုပတ် ရေသူရဲရဲ့ လက်ချောင်း တွေနဲ့တူတာပဲ' သူသည်လက်မှ စီးကရက်တိုကို လွှင့်ပစ်လိုက်သည်။ ထို့နောက် သူ့အိပ်ကပ်မှ ဆေးအိတ် ကို ထုတ်ကာဇစ်ကြိုးကို ပါးစပ်နှင့်ကိုက်၍ ဖွင့်လိုက်ပြီး နောက်ထပ် အသစ်တလိပ်ထပ်လိပ်နေသည်။

'ကျွန်တော်က ခင်ဗျားကို စစ်သားလုပ်ခဲ့ဖူးတယ်လို့ ထင်ခဲ့တာ' ဟု နီကိုလတ်စ်က မပံ့မရဲ လေသံဖြင့် ပြောသည်။

'ဟား... ငါဆိုတယ့်အကောင်ဟာ အကုန် ဖြစ်ခဲ့ဖူးတာပဲ၊ သင်္ဘောသား လည်း ဖြစ်ခဲ့သေးတယ်၊ ရှန်ဟဲ မှာပေါ့ကွာ နှစ်နှစ်လောက် ကြာခဲ့တယ်၊ မင်းငါပြော မယုံဘူးလားကွ... ဟင်'

http://www.shwezinu.com/


သူသည်ပြောပြောဆိုဆို ရင်ဘတ်ကြယ်သီးများ ဖြုတ်၍ ဟထားသော ရုပ်အင်္ကျီကို လက်တဘက်ဖြင့် ဆွဲလှန်ပြီး သူ့ကျောပြင်ကို နီကိုလတ်စ် ဘက်သို့ လှည့်ပြသည်။ ကျော်ပြင်တွင် ဖြူဖွေးသော အမာရွတ် များသည် အစင်းလိုက် တန်းလျက်ရှိလေသည်။

'ကဲ....အခုလို ကြိမ်နဲ့ အရိုက်ခံထားရတဲ့ ငါ့ကျောပေါ်က ဒဏ်ရာတွေကို မင်းအခုမြင်ပြီမဟုတ်လား၊ ရိုက်တာမှပေ့ါသေးသေးရိုက်တာမဟုတ်ဘူး၊ ကျောပေါ်မှ သွေးချောင်း စီးနေအောင်ရိုက်တာ၊ အဲဒီ ဟာကော ရာဇဝတ်မှုပဲမဟုတ်လား၊ ဒါပေမယ့် ဒီကောင်တွေ ငါ့ကို ဒူးထောက် အရှုံးပေးအောင် မလုပ်နိုင် ခဲ့ပါဘူးကွာ၊ ဘယ်တော့မှမရဘူးမှတ်ပါ၊ သူတို့ ပေါင်မုန့်နဲ့ ရေလာပို့တဲ့အခါမှာ ငါက ခပ်တည်တည်ပဲ ရွှေပလ္လင်ကြီးပေါ်မှာ ဘုရင်တပါးထိုင်နေသလို ငါ့အချုပ်ခန်းမှာ ဣန္ဒြေမပျက် ထိုင်လိုက်တယ်။"

'အချုပ်ခန်း ဟုတ်လား' ဟု နီကိုလတ်စ်က ရေတွက်သည်။ ဤစကားကြောင့် သူ့မှာ ကြောက်စိတ်လည်း ဂင်သည်။ စိတ်ဂင်စားမှုလည်း တိုးလာသည်။

'ခင်ဗျား ထောင်ကျခဲ့လို့လား'

ဂရေစီယာ ငြိမ်သွားသည်။ သူသည် မတုန်မလှုပ်ကျောက်ရုပ် တရုပ်သဖွယ် တောင့်တောင့်ကြီး ရပ်ကာ နီကိုးလတ်စ်အား ကြည့်နေသည်။

http://www.shwezinu.com/



သူ့မျက်နှာထားသည် တင်းမာလျက်ရှိ၏။ ခြစ်ပြီးစ မီးခြစ်ဆံသည် တရဲရဲ တောက်လောင်လျက်ရှိသည်။ သူ့လက်ချောင်းများသည် ပူ၍ ပူမှန်းသိဟန်မတူ

'ငါ့ ကိုယ်ရေးကိုယ်တာ ကိစ္စမှာ မင်းကမဆိုင်ဘဲ ဂင်ရှုပ်ချင်နေသလား မရှုပ်ချင်နဲ့ကွ'ဟု ကြိမ်းဝါးသည်။ ထို့နောက် စီးကရက်မီးညှိပြီး ဟက်ဟက်ပက်ပက် ရယ်ချလိုက်သည်။

'ထောင်...ထောင်...၊ ဟော့... ဒီမှာ ထောင်ထဲ မှာ နေထိုင်ရတာ ကောင်းတယ်လို့ မင်းထင်သလား'

'ဟင့်အင်း...မထင်ပါဘူး'

'မထင်...ဘူး'

ဂရေစီယာက ရယ်ပြန်သည်။

'နောက်ဆုံးကျတော့လဲ မင်းအမှန်ကို မြင်တတ်သားပဲကွ၊ ငါတို့ စပိန်ထောင်တွေ အကြောင်း မင်းသိသလား၊ နံရံတွေဟာ အမြဲအစိုပြန် နေတယ်၊ အမြဲ ညစ်ပတ် နံစော်နေတာပဲ၊ ပိုးဟပ်ကြီးတွေ များကွာ တကောင် တကောင် မြေကြွက်ကြီးတွေလောက် ရှိတယ်၊ ညပိုင်း လူတွေ အိပ်နေပြီဆိုယင် ကိုယ်ပေါ်မှာ အနံ့လျှောက်သွားနေတာပဲ၊ အခန်းထဲမှာဆိုယင် ပုပ်ဟောင် နေတာပဲ၊ ဘယ်ကမှာလဲ အလင်းရောင်မဝင်ဘူး၊ အမှောင်တခုတည်းနဲ့ပဲ တဖြည်းဖြည်း ပိန်ခြောက်ပြီး သေသွား နိုင်တယ်၊ အပြင်က ကာထားတဲ့

http://www.shwezinu.com/

အုတ်နံရံကြီး တွေကလဲ အမြင့်ကြီးပဲ၊ အဲဒီအပေါ်မှာ ရိုင်ဖယ် သေနတ်ကြီး တွေ တကားကားနဲ့ ရပ်နေတဲ့ အစောင့်တွေကလဲ အများကြီးပဲ၊ အို...ကွာ၊ ဟောဟို မိုးကောင်းကင်ကြီးနဲ့ ထိတွေ့ သွားမှာစိုးလို့၊ ဟန့်တား စောင့်ရှောက် ထားသလိုပဲ၊ မင်းကိုမင်း ထောင်ကျ အောင် များတော့ မလုပ်လိုက်နဲ့ သခင်လေး... ရေ၊ ငါလို လူလည်ကျအောင် နေနိုင်ရမယ်၊ ငါဆိုယင် အပြင် မှာပဲ နေလို့ရအောင် လုပ်ပြီးနေတယ်၊ သိလား'

'ကျွန်တော်လဲ ခင်ဗျားနေသလိုပဲ နေမှာပေါ့' ဟု နီကိုလတ်စ်က သူ့အကြိုက်လိုက်ပြောသည်။

' ဒီလောက် ဆိုးတဲ့ နေရာမျိုးကို သွားချင်တဲ့သူ တစ်ယောက်မှ ရှိမှာ မဟုတ်ပါဘူးဗျာ'

'ဟီး...ဟီး...ဟီး...'

ဂရေစီယာက အသံတမျိုးဖြင့်ရယ်သည်။

'သခင်လေးက တော်သားပဲ၊ သခင်လေး ပြောတာ သိပ်မှန်တာပေါ့ဗျာ၊ ဒါပေမယ့် တခါတရံကျတော့လဲ ထောင်ကိုသွားစရာအကြောင်းက ပေါ်လာ တတ်တယ်၊ အဲဒါဆိုယင်တော့ ရဲရောက်လာပြီး လက်ထိတ်ကြီးနဲ့ခတ်၊ လူကို တရွတ်သီ ဆွဲခေါ် သွားရော....'

http://www.shwezinu.com/

သူသည် ဆက်ပြောတော့မလိုလိုနှင့် ဆက်မပြောဘဲ ရပ်ထားသည်။ ပြီးမှ ခပ်တိုးတိုး ပြောသည်။

'မနေ့က ဖြစ်သလိုမျိုးပေါ့'

'မနေ့က...'

နီကိုလတ်စ်က တအံ့တသြရေရွတ်သည်။

'မင်း....မသိဘူးလား'

အခုကျတော့ ဂရေစီယာသည် ရယ်မောခြင်း မပြုတော့ပေ။ မျက်နှာထား ခပ်တည် တည်။ နီကိုလတ်စ်အား ကြည့်နေပုံမှာ ပြောင်သလို လှောင်သလို လူမဆန်သောအကြည့်....။

'ဂျိုစီ ကို မနေ့က ဖမ်းသွားပြီကွ၊ မင်းအဖေရဲ့ ပစ္စည်းတွေ ခိုးလို့'

နီကိုလတ်စ် တကိုယ်လုံး တုန်သွားသည်။ အံ့အားသင့်လွန်းသဖြင့် နောက်သို့ လန်လဲလုမတတ်ဖြစ် သွားသည်။ သူသည် ကျောက်တုံးပေါ်မှ ခုန်ချလိုက်သည်။

'မဖြစ်နိုင်ဘူး....' ဟု ပြောသည်။

'အမှန်ပဲကွ'ဟု ဂရေစီယာက အခုင်အမာထပ်ပြောသည်။

http://www.shwezinu.com/



'အခုသူ ထောင်ထဲရောက်နေပြီ၊ အနည်းဆုံး ထောင်ငါးနှစ် တော့ အချခံရမှာ သေချာတယ်၊ မင်းဂျိုစီက သူခိုးတယောက်ကွ'

ဂရေစီယာက ရင်ကို ကော့ လိုက်သည်။

'ဂရေစီယာရဲ့လမ်းမှာ လာပြီးရပ်လို့မရဘူးသိလား၊ ငါ့လမ်းကို လာပိတ်တဲ့ လူမိုက် ပဲ၊ ဂလေစီယာကတော့ ဒီလူမိုက်ကို ရှင်းပစ်ရမှာပဲ'

ဂရေစီယာသည် ခပ်တောင့်တာင့် မတ်တတ် ရပ်ကာ ကောင်းကင်ကို မော့်ကြည့်သည်။ ထို့နောက် စကားတစ်ခွန်းမှ ထပ်မပြောဘဲ နီကိုလတ်စ်၏ မျက်နှာကို ခပ်စိမ်းစိမ်းကြည့်သည်။ သူအကြည့်တွင် ခြိမ်းခြောက်မှု အပြည့်ပါသည်။ ထို့နောက်တော့ နီကိုလတ်စ်ကို ကျောပေးကာ ထွက်သွားသည်။

နီကိုလတ်စ်သည် သူရပ်နေသောနေရာမှ ရွေ့လျားခြင်းမရှိ။ ကျောက်ချထားသည့်နှယ် ရပ်လျက်ရှိသည်။ သူ့နှလုံးသား သည် နာကျင်သော ဝေဒနာတရပ်ကို ခံစားနေရသည်။ အခုလိုဆိုတော့... ရှင်းနေသည်။ သူ့ အဖေက သူ့ကို ကြည်ကြည်သာသာ ဆက်ဆံသည်၊ လိုက်လျောသည်။ အခွင့်အရေးပေးသည်။ ပါမောက္ခ ဒေါက်တာ ဟေးလီးဗီးကလည်း သူ့ကို အလွန်ခင်မင်ရင်းနှီးစွာ ဆက်ဆံ ပြောဆိုလျက်ရှိသည်။ ပြီးတော့ ဂရေစီယာ တယောက် ရွှင်လန်းမြူးထူးလျက်ရှိသည်။

http://www.shwezinu.com/

ဒါတွေအားလုံးကို ခြုံကြည့်လိုက်တော့ အဖြေက ထွက်လာသည်။ ဂျိုစီထောင်ထဲရောက်နေပြီ။ ဂျိုစီ သူခိုး...။ သူခိုး..ဂျိုစီ။ ဖြစ်နိုင်ပါမည်လော....။ သူကတော့မယုံ။ လုံးဝမဖြစ်နိုင်ဟု ထင်သည်။ သူတို့က သူ့အား သူ့ မိတ်ဆွေ ဂျိုစီအပေါ်တွင် အယုံအကြည်ကင်းမဲ့သွားအောင်၊ အခင်မင်ပျက်သွားအောင် လုပ်ကြံခြင်း ဖြစ်ပေ လိမ့်မည်။ သူ့ကို အခုလို လုပ်၍ ဘယ်တော့မှမရ။

ခပ်လှမ်းလှမ်းမှ စကားပြောသံများ သူ့ဆီသို့ ရောက်လာသည်။ သူသည် နောက်သို့လှည့်ကာ နံရံပေါ်မှ ကျော်၍ ကြည့်သည်။ အိမ်ကြီးဘက်သို့ လျှောက်လာနေသော လူနှစ်ယောက်...။ ခပ်ဖြည်းဖြည်း ခပ်မှန်မှန် လျှောက်လာနေသော လူနှစ်ယောက်....။ နှစ်ဦးစလုံး အဘိုးကြီးတွေ ဖြစ်၏။ နှစ်ဦးလုံး အနက်ရောင် အဝတ်အစားများ ဝတ်ထားသည်။ စီးထားသည့် ဖိနပ်များကလည်း အရောင်အဆင်း ကင်းမဲ့ လောက်အောင် ပင် ညစ်ပတ်ပေရေလျက်ရှိသည်။ သူတို့နှစ်ယောက် ကြည့်ရသည်မှာ ကျီးကန်း အိုကြီး နှစ်ကောင် နှင့် တူလှသည်။

အရပ်မြင့်မြင့် အဘိုးကြီး၏ လက်ထဲတွင် အရောင်လွင့်နေပြီဖြစ်သော ထီးအနက်တလက်ကိုင် ထားသည်။ သူ့ကိုယ်ပေါ်မှ ဝတ်ရုံရှည်ကြီးကို မြင်ရုံမျှဖြင့် ဘုန်းကြီးတပါးမှန်း သိသာနေ၏။ နီကိုလတ်စ် သည် အံ့အား သင့်ကာ ပါးစပ်အဟောင်းသားဖြင့် ငေးကြည့်နေမိ၏။ ရုတ်တရက် သူသည် နံရံပေါ်သို့ ခုန်၍ တက်လိုက်သည်။ နံရံပေါ် ရောက်ခါမှပင် အဘိုးအို နှစ်ယောက်ကို ပို၍ သဲသဲကွဲကွဲ မြင်လာရသည်။ ဒုတိယ အဘိုးအိုမှာ

http://www.shwezinu.com/

တခြားလူမဟုတ်။ ပက်ဒရိ....။ နီကိုလတ်စ်သည် နံရံပေါ်မှ ခုန်ဆင်းကာ ဥယျာဉ်ကို ပတ်၍ အဘက် ချုံဖုတ်များ နောက်ရှိ လမ်းအတိုင်း ကဆုန်ပေါက်၍ ပြေးသည်။ သူ့ကို မမြင်အောင်လည်း သတိထား ရသေးသည်။

'ပက်ဒရိ....' ဟု သူက လှမ်းခေါ်သည်။

'နေကောင်းရဲ့လား ဂျီစီကော.... ဘယ်လိုနေသလဲ၊ အဘိုး ဘာကိစ္စ နဲ့ ဒီကိုလာတာလဲ'

အဘိုးအို ပက်ဒရိက ဂမ်းနည်းကြေကွဲသော မျက်နှာထားဖြင့် နီကိုလတ်စ်ကို ကြည့်သည်။

'အဘိုးတို့ မင်းအဖေနဲ့ တွေ့ချင်လို့ လာတာပါ'

'ဒါပေမယ့်.... ဘာကိစ္စလဲ၊ ကျွန်တော့်ကို အလျင်ဆုံး ပြောပြစမ်းပါ၊ အခုဂျီစီ ဘယ်ရောက်နေလဲ'

ဘုန်းကြီးသည် လမ်းလျှောက်ရာ၌ ပို၍ နေးကွေးလေးလံသည်။ သူ့လက်ထဲမှ ထီးကိုအားပြုနေရသည်။ ပက်ဒရိက သူ့ကို လှမ်းကြည့်ပြီး အဖြေပေးသည်။

'မင်းကိုပြောလို့ အလကားပဲ နီကို၊ အခြေအနေက သိပ်ဆိုးတယ်၊ ဒါပေမယ့် ပြန်ကောင်းလာပါစေလို့ အဘိုး ဘုရားသခင်ဆီမှာ ဆုတောင်းနေပါတယ်'

http://www.shwezinu.com/



ပက်ဒရိုက စကားကို မဆက်သေးဘဲ ရှေ့သို့ လှမ်းမျှော် ကြည့်သည်။

'ကဲ....ရော့၊ ဒါကိုယူပြီး ငါ့မြေးသွားတော့၊ ဘာမှ ထပ်မပြောနဲ့ တော့'

ပက်ဒရိုက သူ့လက်ထဲမှ စာတစောင်ကို နီကိုလတ်စ်လက်တွင်းသို့ ထိုးထည့်ပေးသည်။ ထို့နောက် အဘိုးအို ပက်ဒရိုသည် သူ့အဖော်နှင့်အတူ အိမ်တံခါးဆီသို့ လျှောက်သွားသည်။

နီကိုလတ်စ်သည် ချက်ချင်းပင် လာလမ်းအတိုင်း ပြန်ပြေးကာ ချုံဖုတ်နောက်ကွယ်သို့ ဝင်သည်။ သူသည် ချုံဖုတ်တခု နောက်ကွယ်တွင် ထိုင်ချလိုက်ကာ စာကို ဖြန့်၍ ဖတ်သည်။

ချစ်လှစွာသော နီကို

ဒီစာမင်းဆီကို ရောက်လိမ့်မယ်လို့ ငါမျှော်လင့်ပါတယ်။ သူတို့ကတော့ ငါ့ကို ထောင်ကို ပို့ထားကြပြီ။ ရယ်စရာ မကောင်းဘူးလား။ အခုငါရောက်နေတဲ့ နေရာကတော့ ရှုးလောက်တယ်။ လေ့ကျင့်ခန်း လုပ်တဲ့အနေနဲ့ ငါတော့ မကြာ...မကြာ ကင်းမြီးကောက် ထောင်နေရတယ်ကွာ။ ဒါပေမယ့် ဒီလိုလုပ်လို့လဲ ထူးခြားမလာပါဘူး။ ဒီအမှားကြီးကို ဘယ်သူကပဲ လုပ်လုပ် အရေးမကြီးပါဘူးကွာ။ အရေးကြီးတာက ငါမြန်မြန် အပြင်ပြန်ရောက်လာဖို့ပါပဲ။ မင်းအားယင်တော့ ငါစိုက်ထားခဲ့တဲ့ ပန်းပင် အပင်ပေါက် လေး တွေကို ရေလောင်းလိုက်ပါကွာ။ မင်းကို ထပ်ပြီးသတိပေးရဦးမယ်။ ဂရေစီယာနဲ့တော့ ကင်းကွာအောင် နေပါကွာ။

http://www.shwezinu.com/

မင်းကို ငါနှုတ်ဆက်လိုက်ပါတယ်။ ငါတို့ ငါးများထွက်ကြသေးတာပေါ့။ ဒီစာကို မင်းဖတ်ပြီးယင် ဆုတ်ပစ် လိုက်ကွာ။ အဲဒါအကောင်းဆုံးနည်းပဲ။

မင်းရဲ့သူငယ်ချင်း

ဂျိုစီ

နီကိုလတ်စ်သည် စာကိုသုံးခေါက် တိတိဖတ်သည်။ ထို့နောက်စာကို အစိတ်စိတ် အမွှာမွှာဖြစ် သွားအောင် ဆုတ်ပစ်လိုက်ပြီး ပါးစပ်ထဲသို့ ထည့်၍ ညက်နေအောင် ဝါးသည်။ နောက်ဆုံးကျတော့ သူသည် ဘာကိုမှ စဉ်းစားမနေတော့ပဲ မျိုချလိုက်သည်။ သူသည် ချုံဖုတ်များနောက်မှ ဂပ်ကာ အပြင်သို့ ချောင်းကြည့်သည်။ အဘိုးအိုနှစ်ယောက်စလုံ အိမ်ရှေ့ဆင့်ဝင်အောက်မှာပင် ရပ်နေဆဲ...၊ ဂရေစီယာက အိမ်ထဲ သို့ ဝင်ခွင့်မပြုဘဲ တားထားသည်ကို မြင်ရ၏။ ခဏမျှအကြာတွင် ကောင်စစ်ဝန်သည် အိမ်ထဲမှ ထွက်လာပြီး ဧည့်သည်အဘိုးအို နှစ်ယောက်ရှေ့၌ ရပ်သည်။ မျက်နှာထားမှာ မှုကုပ်ကုပ်....။

နီကိုလတ်စ်သည် သူလှမ်းမြင်ရသော ရှုခင်းကို စိတ်ဝင်တစား ကြည့်နေမိ၏။ သူ့ရင်ထဲတွင် စောစောက ရှိနေသော ကြောက်စိတ်သည် ပြေသွားသည်။ သူသည် လေးဘက်ထောက်၍ ချုံဖုတ်များကို တိုးဝှေ့သွားသည်။ သူ့အဖေနှင့် အဘိုးအိုနှစ်ယောက် ပြောဆိုနေသမျှကို

http://www.shwezinu.com/



ကြားနိုင်လောက်သည့် နေရာလောက်တွင် အသာကလေး ငြိမ်၍ နားစွင့်ထားလေသည်။

'ကျွန်တော်တို့ အခုလိုလာပြီး အနှောင့်အယှက်ပေးရတာကို ခွင့်လွှတ်ပါ ဆီညော်'

အလွန် ခယ အောက်ကျို့သံဖြင့် တောင်းပန်စကား ပြောနေသည့် ပက်ဒရို၏ အသံကို ကြားရသောအခါ နီကိုလတ်စ်မှာ ဂမ်းနည်းပက်လက် ဖြစ်သွားသည်။

'ဂန်မင်းမှာ အလွန်အရေးကြီးတဲ့ တာဂန်တွေနဲ့ အလုပ်ရှုပ် နေလိမ့်မယ် ဆိုတာ ကျွန်တော်တို့ မသိလို့မဟုတ်ပါဘူး ခင်ဗျာ၊ ဒါပေမယ့်...'

'ကျုပ်မှာ အလုပ်သိပ်များတယ်' ဟု ကောင်စစ်ဂန်က ကြားဖြတ်ပြောသည်။

'မှန်ပါတယ်ခင်ဗျာ၊ ကျွန်တော်လဲ သိပါတယ်၊ ဒါပေမယ့် အခုကိစ္စက ကျွန်တော်တို့ အတွက် သေရေးရှင်ရေး လောက် အရေးကြီးတဲ့ ကိစ္စတစ်ခု ဖြစ်နေလို့ လာရတာပါခင်ဗျာ၊ ကျွန်တော်ဟာ အလွန် ဆင်းရဲ ပါတယ် ခင်ဗျာ၊ ပညာဗဟုသုတလဲ လုံးဝမရှိပါဘူး၊ ဂန်မင်း အိမ်ကိုတောင် တယောက်ထဲ လာပွံ့တဲ့ သတ္တိ မရှိပါဘူး၊ မခုလဲ ဖာသာလင်မာဇာက ကျွန်တော့်ကို သနားလို့ ကျွန်တော်နဲ့ အတူတူလိုက်လာပြီး ကျွန်တော့ ကိုယ်စား ပြောဆိုပေးမယ် ဆိုတာနဲ့...'

http://www.shwezinu.com/

'လိုရင်းသာပြောပါ'

နီကိုလတ်စ်သည် မြင်နေကြားနေရသမျှ မမြင်ရက် မကြည့်ရက် ဖြစ်လာသည်။ သူ့အဖေ ရပ်နေပုံမှာ ခန့်ညား ထည်ဝါလှပါ၏။ သို့သော်လည်း မောက်မာသော အပြုအမူက ပေါ်လွင်လျက်ရှိသည်။ ပက်ဒရို ကတော့ ကုပ်ကုပ်ရုပ်ရုပ်....။ လက်နှစ်ဘက်ကို ယှက်ကာ တောင်းပန် အသနားခံသည့် မျက်နှာဖြင့် ကောင်စစ်ဝန် အား မော့ကြည့်လျက်ရှိသည်။

'ကိစ္စကတော့ ဂျိုစီကိစ္စပါ ဆီညော်၊ ကျွန်တော့်မြေးကလေးပါ၊ သူဟာ အခု ဒုက္ခ ရောက်နေပါတယ်'

ကောင်စစ်ဝန်က နားသာ ထောင်ရသော်လည်း စိတ်မရှည်သည့် လက္ခဏာကို ဖော်ပြလျက်ရှိ၏။

'ဒီကိစ္စကို ကျုပ်သိပါတယ်၊ ကိစ္စက ကျုပ်လက်ထဲမှာ မဟုတ်တော့ဘူး။ ခင်ဗျားတို့ ရဲဆီ ဘာကြောင့် မသွားကြတာလဲ'

'ဆင်းရဲသား တွေဟာ ရဲအပေါ်မှာ ဩဇာမရှိပါဘူး ဆီညော်၊ တကယ်လို့ ဆီညော်လို ပုဂ္ဂိုလ်ကြီးကသာ စကား တခွန်း ပြောလိုက်ယင်....'

'ကျုပ်မှာ တရားဥပဒေကို တားဆီးနိုင်တဲ့ တန်ခိုးအာဏာမရှိဘူး ရှိသည့် တိုင်အောင် ကျုပ်မလုပ်ချင်ဘူး၊ ခင်ဗျားမြေး ဟာ သူပြုတဲ့အမှုအတွက် ထိုက်သင့်သလောက်တော့ ခံရမှာပဲ'

http://www.shwezinu.com/



'ဒါပေမယ့်... ဆီညော်၊ သူပြုခဲ့တဲ့ကိစ္စကလဲ'

ပက်ဒရိုသည် ဘာဆက်ပြောရမှန်း မသိသည့်နယ် ထစ်တီး ထစ်အ ဖြစ်လျက်ရှိသည်။

'ဒီကိစ္စနဲ့ ပတ်သက်လို့လဲ ကျွန်တော်တို့ အားလုံး နားမလည်နိုင်အောင် ဖြစ်နေ.....'

'ဂျိုစီဟာ လူကောင်းလေးတယောက်ပါ ဆီညော်'

ဘုန်းတော်ကြီး လင်မာဇာက တည်ငြိမ်အေးဆေး သော အသံဖြင့်ဝင်ပြောသည်။

'သူ့အကျင့်စာရိတ္တနဲ့ ပတ်သက်လို့ ကျုပ်အာမခံနိုင်ပါတယ်၊ သူ့ကို ကျုပ် ငယ်ငယ် ကလေးတည်း သိလာခဲ့တာပါ'

ဘုန်းတော်ကြီး ၏ လေသံနှင့် ပြောဟန်မှာ အားရှိစရာကောင်းသည်ဟု နီကိုလတ်စ်က တွေးသည်။ သူသည် ဘုန်းတော်ကြီးဘက် လှည့်ကြည့်သည်။ ဘုန်းကြီးအို၏ အဝန်အစားများမှာ သစ်လွင် တောက်ပခြင်း မရှိ။ တချို့နေရာတွင် ဟင်းစက်တွေ ပေျကျံလျက်ရှိ၏။ လက်ထဲကထီးမှာလည်း ထီးအို ထီးဟောင်း ....။ စီးထားသည့် ဖိနပ်ကျတော့လည်း ရွှံ့များ အခဲလိုက်ကပ်လျက်ရှိ၏။ ဂျိုစီဘက်မှ ရှေ့နေ လိုက်လာသည့် ပုဂ္ဂိုလ်၏

http://www.shwezinu.com/



အသွင်အပြင်လက္ခဏာသည် သူ့အဖေအထင်အမြင်ကြီးမည့် ပုံစံမျိုး မဟုတ်ပါတကား...။

'ကျုပ်ကိုယ်တိုင်ပဲ ဒီကလေးကို နှစ်ခြင်းမင်္ဂလာ ပြုပေးခဲ့ရပါတယ် ဆီညော်၊ ကင်းပွန်းတပ်ပေးတာလဲ ကျုပ် ပါပဲ'

'အတော်လွမ်းစရာကောင်းတဲ့ ဇာတ်လမ်းတခုပေါ့လေ'

ကောင်စစ်ဝန်က သရော် ရွတ်ချသည့်လေသံဖြင့် မလိုတမာ ပြုံးနေ၍ ပြောသည်။

'သူခိုးတယောက်ဘဝရောက်အောင် အတော်ကြီး ပြုစု ပျိုးထောင် ပေးခဲ့ ရတယ် ထင်ပါရဲ့'

'အမှန်တော့ ကျုပ်တို့အားလုံး ဒုစရိုက်သမားတွေချည်းပါ၊ ဒါပေမယ့် ဂျိုစီ သူခိုးတယောက်ဖြစ်တယ် ဆိုတာ တော့ ကျုပ်မယုံနိုင်ပါဘူး'

'ဒီလိုဆိုယင် ကျုပ်ရဲ့စိန်တွေဟာ လေထဲ ပျံတက်သွားတယ်လို့ ဆိုရမှာလား'

'ဒါဟာလဲ မဖြစ်နိုင်တဲ့ကိစ္စမဟုတ်ပါဘူး ဆီညော်၊ ဘုရားသခင်ရဲ့ ကောင်းကင်ဘုံအောက်မှာ အထူး အဆန်း တွေ အများကြီးဖြစ်ပျက်နေပါတယ်'

http://www.shwezinu.com/



'ဒီလိုဆိုတော့လဲ လက်ကြယ်သီးတွေကို သူ့အင်္ကျီအိတ်ကပ်ထဲ ရောက်အောင် လုပ်ပေးတဲ့ ကောင်းကင်ဘုံ အရှင်ဟာ သနားစရာ ကောင်းတယ်လို့ ပြောရတော့မှာပဲ'

'မှန်ပါတယ် ဆီညော်၊ ဒါပေမယ့် ဂျိုစီက အဲဒီလက်ကြယ်သီးတွေကို သူယူပြီး ထည့် ထားတာ မဟုတ် ပါဘူးလို့ ငြင်းနေပါတယ်'

ကောင်စစ်ဂန်က ပြုံးသည်။

'တရားသူကြီးက သူ့စကားကို လက်ခံလာအောင် ပြောဖို့တော့ အခက်အခဲတွေ့မှာ သေချာ သလောက် ပါပဲ'

'မှန်ပါတယ် ဆီညော်၊ ဒါပေမယ့် ကျုပ်တို့ဟာ သူ့ရဲ့ တရားသူကြီး မဟုတ်ပါဘူး'

ဖာသာလင်မာဇာ သည် တရိုတသေ လေးစားစွာဖြင့် ယဉ်ကျေးချိုသာစွာ ပြောသည်။

'ဂျိုစီဟာ ဒီအမှုကို ကျူးလွန် တယ် ဆိုပါဦးတော့...။ ဆိုကြပါစို့ရဲ့၊ ဒီလောက်ဆိုးဂါးမိုက်မဲတဲ့ အမှုကို သူပြုမိတယ်ဆိုယင်လဲ တစ်ကြိမ် တစ်ခါ အနေနဲ့ ခွင့်လွှတ်ပေးလို့ မရနိုင်တော့ဘူးလား'

'ခင်ဗျားက ကျုပ်ကို အရူးတယောက်လိုများ ထင်နေသလား' ဘရန်းဒီးက ဒေါသတကြီး ပြန်ပြောသည်။

http://www.shwezinu.com/



'တန်ဖိုး ဖြတ်လို့ မရနိုင်လောက်အောင် အဖိုးတန်တဲ့ ကျုပ်ပစ္စည်းတွေကို သူကခိုးသွားတယ်၊ ပစ္စည်းတွေက အများကြီး...၊ ကျုပ်ရဲ့ နီလာလက်စွပ်ရယ်၊ ဆွစ်သံအမတ်ကြီးက လက်ဆောင်ပေးခဲ့တဲ့ အိတ်ဆောင် နာရီ ရယ်၊ အဲဒီပစ္စည်းနှစ်ခုကိုပဲ စဉ်းစားကြည့် အစားထိုးလို့ရမယ့် ပစ္စည်းတွေလား၊ ကျုပ်ဆီက ဒီလောက် တန်ဖိုး ရှိတဲ့ ပစ္စည်းတွေကို လုယူခိုးပုက်သွားတာကို ကျုပ်က ဘာမှမပြောဘဲ ငြိမ်နေရမှာလား'

'ခင်ဗျားရဲ့ ဆုံးရှုံးမှုဟာ အဆမတန် ကြီးမားတယ်ဆိုတာ သဘာဝကျပါတယ်...ဆီညော်၊ ဒါပေမယ့် လူသား တစ်ယောက်ရဲ့ စိတ်ဓာတ်အင်အား ဆုံးရှုံးမှုဟာ ခင်ဗျားရဲ့ ပစ္စည်းတွေ ဆုံးရှုံးမှုထက် ပိုပြီး တန်ဖိုး ကြီးမားပါတယ်၊ ကျုပ်ဂျိုစီကို ကောင်းကောင်းသိတယ်လို့ ပြောခဲ့ပြီးပါပြီ၊ တကယ်လို့ သူ့ကို ထောင်ချ လိုက်မယ်ဆိုယင် အပြင်လောကမှာ လွတ်လွတ်လပ်လပ်နေရတဲ့ အခွင့်အရေးကို မြတ်နိုးလှတဲ့ သူ့စိတ်ဟာ ပျက်ပြား ရပါတော့မယ်'

'ဒါက ကျုပ်နဲ့ လုံးဝဆိုင်တဲ့ကိစ္စမဟုတ်ဘူး'

'နောက်တခု ပြောပါရစေဦး ဆီညော်' ဟု ဖာသာလင်မာဇာက ဖွတ်တိုး၍ ပြောပြန်သည်။

'နောက်တချက် စဉ်းစားသင့်တာက အရွယ်မရောက် လူလားမမြောက်သေးတဲ့ ကလေးတွေ ဒုက္ခရောက်ကြပါလိမ့်မယ်၊ သူတို့ ခမျာ

http://www.shwezinu.com/


ဘာမှလဲ မသိ၊ ဘာအပြစ်မှလဲမရှိတဲ့ ကလေးတွေပါ၊ ဒီကိစ္စမှာ ဂျိစီသာ ဒုက္ခရောက်သွားယင် သူတို့ အားလုံး ဒုက္ခရောက်သွားကြပါလိမ့်မယ်၊ ဂျိစီဟာ သူ့နှမလေးတွေနဲ့ သူ့အဘိုးပက်ဒရိုကို လုပ်ကျွေး နေတဲ့ လူငယ်လေး တယောက်ဆိုတာ လူကြီးမင်းလဲ သိနေပါတယ်'

'ဒီလိုဆိုတော့လဲ ခင်ဗျားရဲ့မိတ်ဆွေ အဘိုးကြီးပက်ဒရိုကို သူ့ဘာသာသူ ရှာစားပစေပေါ့ဗျာ' ဟု ဘရန်ဒီးက ရက်ရက်စက်စက် ပြောသည်။

'သူဒီကိုလာတဲ့ ရည်ရွယ်ချက်က သူ့မြေးလုပ်စာကို အပျင်းထူပြီး ဆက်စား ဖို့ ပဲ ထင်ပါတယ် ဒါဆိုယင်တော့ သူ့ရည်ရွယ်ချက်ဟာ အလကားပဲ'

ချက်ချင်း ငြိမ်သက်သွားသည်။ ခေါင်းငိုက်စိုက်ကျလျက်ရှိသော အဘိုး ပက်ဒရိုလည်း သူ့အဖော်ဖာသာလင်မာဇာအား မော့ကြည့်သည်။

'ရမယ် မထင်ပါဘူး၊ ပြောမနေပါနဲ့တော့၊ ကျွန်တော်တို့ ပြန်ကြရအောင်'

ဖာသာလင်မာဇာ၏ သိမ်မွေ့နူးညံ့သော မျက်လုံးများသည် မှုန်မှိုင်း သွားသည်။ သူသည် ခါးကို ဆန့်ကာ ကိုယ်ကို မတ်လိုက်၏။

'ကျုပ် နောက်ဆုံး အကြိမ်အနေနဲ့ ထပ်ပြီး တောင်းပန်ပါတယ်... ဆီညော်၊ ကျုပ်တို့အပေါ်မှာ ကရုဏာ တရား ထားဖို့အတွက် ဒီလောက်အထိ

http://www.shwezinu.com/



ကတ်သီးကတ်သတ်လုပ်ပြီး နမြောတွန့်တိုနေတာဟာ မတော်ပါဘူး၊ မာန ဆိုတာဟာ အမြင်မှားနေတဲ့ တရားတခုပါ၊ ကျုပ်တို့ ခင်ဗျားတို့ဟာ ဘုရားသခင်ရဲ့ အလိုတော်အတိုင်း ဖြစ်ပျက်နေရတဲ့ လူတွေပါ၊ ဘုရားသခင်ရဲ့ အလိုဆန္ဒကို ထောက်ထားသောအားဖြင့် ဂျီစီအပေါ် မှာ တိုင်ထားတဲ့အမှုကို ရုပ်သိမ်း ပေးစေချင်ပါတယ်၊ တကယ်လို့ မရုပ်သိမ်းဘူးဆိုယင်တော့... လူကြီးမင်း အတွက် ကံဆိုးမိုးမှောင် ကျစရာ အကြောင်းတခုဟာ ပေါ်ပေါက်လာပါလိမ့်မယ်'

'ကျုပ် မရုပ်သိမ်းနိုင်ဘူး' ဟု ကောင်စစ်ဝန်က ခါးခါးသီးသီး ငြင်းသည်။

ကြောက်မက်ဖွယ် ကောင်းလောက်အောင်ပင် ငြိမ်ဆိတ်သွားသည်။ ဖာသာလင်မာဇာ၏ သက်ပြင်းချသံကို ကြားလိုက်ရ၏။ နီကိုလတ်စ်၏ တကိုယ်လုံး နှံးခွေသွားသည်။ သူသည် ချုံဖုတ်နောက်ကွယ်တွင် ခြေပစ်လက်ပစ် ထိုင်ချကာ ဝမ်းနည်းကြေကွဲသော စိတ်ဖြင့် မျက်ရည်ကျမိသည်။ သူသည် မျက်လုံးများကို စုံမှိတ် လိုက်မိ၏။

သူ့အဖြစ်မှာ လွတ်မြောက်ရာ လမ်းပိတ်နေသော လှောင့်ချိုင့်တွင်းမှာ ငှက်ကလေး တကောင်နှင့် တူလှ ချေသည်။ အိမ်ရှေ့တံခါးကို ဆောင့်ပိတ် လိုက်သည့်အသံ......။ သူ့အဖေ အိမ်ထဲ ပြန်ဝင် သွားခြင်း ပေတည်း။ ထို့နောက် နေးကွေးလေးလံစွာ လျှောက်သွားနေကြသော အဘိုးအိုနှစ်ဦး၏


http://www.shwezinu.com/

ဖိနပ်သံ....။ ဖိနပ်သံ များသည် တဖြည်းဖြည်းနှင့် ဝေး၍ဝေး၍သွားကာ နောက်ဆုံးတွင် ပျောက်ကွယ် သွားလေသည်။

***************

http://www.shwezinu.com/

## အခန်း (၁၈)

နောက်သုံးရက်အကြာတွင် ပါမောက္ခ ပေါးလီးဗီး ပါရီသို့ ပြန်သည်။ ကောင်စစ်ဝန်၏ အစီအစဉ်အရ ဂရေစီယာက မော်တော်ကားနှင့် ဘာစီလိုးနားမြို့အထိ လိုက်ပို့ပေးရမည်ဖြစ်၏။ ခရီးလမ်းမှာ အနည်းငယ် ကြမ်းသဖြင့် သည်းခံပြီး စီးသွားဖို့ ကောင်စစ်ဝန်က ပေါးလီးဗီးအား တောင်းပန်စကား ဆိုသည်။ နှစ်ယောက်သား ခန်းမထဲတွင် ရပ်နေကြသည်။ ဘရန်းဒီးက သူ့မိတ်ဆွေ စိတ်ကုဆရာဝန်ကြီး၏ လက်ကို ဆွဲ၍ နှုတ်ဆက်သည်။

'ဒေါက်တာ ပေါးလီးဗီး...၊ ကျွန်တော့်အနေနဲ့ မိတ်ဆွေကြီးရဲ့ ကျေးဇူးကို ဘယ်လိုတုံ့ပြန်ရမှန်း တောင် မသိတော့ဘူး '

ပါမောက္ခပေါးလီးဗီးက ပြုံးသည်။ နံနက်ခင်းအလင်းရောင်အောက်တွင် ခရီးသွား ဂတ်ရုံအနက်ကြီး ကို ခြုံထားသော သူ၏ ကိုယ်ခန္ဓာသည် ပို၍ ကြုံလှီသေးကွေးသည်ဟု ထင်ရသည်။ ဖြူဖပ်ဖြူရော် ဖြစ်နေသော သူ့မျက်နှာပေါ်ရှိ မျက်လုံးများ၏ အကြည့်မှာ အစာရေစာကို အငမ်းမရ ဆာလောင် မွတ်သိပ်နေသော ကိုက်ဂါး စားမျိုတတ်သည့် တိရစ္ဆာန် တကောင်နှင့် တူနေသည်။

http://www.shwezinu.com/


'သိပ္ပံပညာရှင် တယောက်အနေနဲ့ ကျွန်တော်ဟာ ကျေးဇူးတင်ခံရအောင် လုပ်ဖို့ဂါသနာမရှိပါဘူး' ဟု ပြောသည်။

'ဒါပေမယ့် ကျွန်တော့်ရဲ့ ရှာဖွေတွေ့ရှိချက်ဟာ ခင်ဗျားအတွက် အများကြီး အထောက် အကူဖြစ်သွားတာ တွေ့ရလို့ ဂုဏ်ယူမိတာ အမှန်ပဲ၊ ကျွန်တော် ... ခင်ဗျားသားနဲ့ နောက်ဆုံး နှစ်ကြိမ် စစ်ဆေးမေးမြန်း ကြည့်ပြီးတဲ့ အခါမှာ ကျွန်တော့်ရဲ့ ရှာဖွေတွေ့ရှိချက်ဟာ လုံးဝ မမှားနိုင် တော့ဘူးလို့ ပိုင်ပိုင် နိုင်နိုင် ဆုံးဖြတ်လို့ ရခဲ့တယ်၊ ဒီအကောင်ကို ရှင်းပစ်နိုင်တာနဲ့အမျှ ခင်ဗျားတို့ ရင်ဆိုင် နေရတဲ့ ပြဿနာတွေဟာ ပျောက်သွားမှာပါ '

သူသည် ဘရန်းဒီး၏ မျက်နှာကို တချက်မော့်ကြည့်သည်။

'ပြီးတော့ ခင်ဗျားရဲ့ ကျန်းမာရေးကို ဂရုစိုက်ဖို့လည်း ကျွန်တော် ထပ်ပြီး မှာခဲ့ပါရစေ'

' ကျွန်တော့် ကျန်းမာရေး... '

ဘရန်းဒီးက တအံ့တသြ ရေရွတ်သည်။

' ဟုတ်တယ် ဘရန်းဒီး၊ ခင်ဗျားက ဒီ စပိန် လူငယ်ကောင်လေးကိစ္စကို သိပ်အလေးအနက်ထားပြီး ခေါင်းထဲသွင်းလိုက်တော့ ကျန်းမာရေးထိခိုက်စရာ အကြောင်း ဖြစ်လာတာပေါ့ '

' အိုဗျာ၊ ကျွန်တော့် ကျန်းမာရေးအတွက်ကတော့ သိပ်ပြီး စိတ်မပူပါနဲ့' ဟု ကောင်စစ်ဝန်က ရယ် မောချ၍ ပြောသည်။

http://www.shwezinu.com/

'ခင်ဗျားဟာ ကျွန်တော့်အပေါ်မှာ သံယောဇဉ်ရှိနေတဲ့ လူဆိုတော့ စိတ်ပူသင့် တာထက် ပိုပြီး ပူမိမှာပေါ့၊ ကျွန်တော် နားလည်ပါတယ်၊ ဒီလောက်လည်း မပူပါနဲ့၊ အခုတလော နေလို့ထိုင်လို့ သိပ်ကောင်းတယ်၊ ဘယ်တုန်းကမှ အခုလောက် နေလို့ ထိုင်လို့ မကောင်းဖူးသေးဘူး'

'အင်းပေါ့လေ၊ လက်စားချေခွင့်ရခြင်းဟာ လူတယောက်ကို အခိုက်အတန့် အားဖြင့်တော့ အားဖြစ်စေနိုင်တဲ့ အမျက်ဒေါသမျိုးပဲ မဟုတ်လား၊ ဒါပေမယ့် ဒီဟာမျိုးက ဈေးကြီးကြီး ပေးပြီးမှ ရတတ်တဲ့ သဘောရှိတယ် ဘရန်းဒီး...၊ ဒီ တချက်ကိုတော့ ခင်ဗျား သတိထားဖို့ လိုလိမ့်မယ်၊ ဘာပဲ ဖြစ်ဖြစ်ပေါ့လေ...၊ ခင်ဗျားအနေနဲ့ အစွန်းမရောက်အောင် သတိထားပါ၊ အလယ်အလတ် လမ်းဟာ ခင်ဗျားနဲ့ အသင့်ဆုံးလမ်းပဲ '

ပေားလီးဗီးသည် ရပ်နေရာမှ အိမ်ရှေ့တံခါးဆီသို့ ရွေ့ရှားသွားရန် ဟန်ပြင်သည်။

'ကဲ... ကျွန်တော်သွားမယ်၊ တနေ့နေ့ တချိန်ချိန် ပါရီမှာ လူချင်းပြန်ဆုံကြသေးတာပေါ့၊ လူချင်း ပြန်တွေ့ဖို့ သေချာတာ ကတော့ ခင်ဗျားရဲ့စာအုပ် ပုံနှိပ်ထုတ်ဝေတဲ့ အချိန်ပေါ့၊ မဟုတ်ဘူးလား... '

ဘရန်းဒီးသည် သူ့မျက်စိအောက်မှ ထွက်သွားတော့ မော်တော်ကားကို လှမ်းမျှော်ကြည့်ရင်း အိမ် ရှေ့ဆင်ဝင်အောက်၌ ရပ်လျက်ကျန်ခဲ့လေသည်။ ပထမတော့ ရုံးမသွားခင် သူ့သား နီကိုလတ်စ်ကို တက်၍ တွေ့လိုက် အံ့းမည်ဟု စိတ်ကူးသည်။ သို့သော်လည်း ချက်ချင်းပင် ထိုစိတ်ကူးကို

http://www.shwezinu.com/



သူ့ခေါင်းထဲမှ ထုတ်ပစ်လိုက်၏။ လောလောဆယ်တော့ဖြင့် အခုလို ခပ်စိမ်းစိမ်း လုပ်ထားလိုက်ခြင်း သည်သူ့အတွက် အကောင်းဆုံးဖြစ်လိမ့်မည်ဟု သူ ထင်မိသည်။

နီကိုလတ်စ်သည် သူ့ကို ပစ်ထားမှန်း သိလေ၊ စိတ်အားငယ်လေ ဖြစ်လာ လိမ့်မည်။ ထိုအခါတွင် နီကိုလတ်စ်ကစ၍ သူ့အား လက်ကမ်းလာလိမ့်မည်။ ထိုအခါကျမှ သူကပြန်၍ အရေးတယူ လုပ်လိုက်မည် ဆိုလျှင် နှစ်ဦးနှစ်ဘက် ပို၍ အဆင်ပြေသွားမည်။ ဘရန်းဒီးသည် သူ့အတွေးနှင့်သူ ကျေနပ်လျက် ရှိသည်။ သူသည် ဦးထုတ်နှင့် တုတ်ကောက်ကို ကောက်ယူကာ မြို့ဘက်သို့ ထွက်လာခဲ့သည်။

နံနက်ခင်းမှာ သာယာကြည်လင် နေသည်။ နေပူရှိန်ကလည်း မပြင်းသေး။ ကောင်စစ်ဝန် အဖို့တော့ လမ်းလျှောက်လို့ ကောင်းရုံမျှသာရှိ၏။ သူ့စိတ်ကြည်လင် လန်းဆန်းနေသည်နှင့် အမျှ သူက ခြေလှမ်း များသည် သွက်လက် ဖျတ်လတ် နေပေသည်။

ရုံးရောက်သည့်အခါ ကောင်စစ်ဝန်သည် သူ့အခန်းသို့ တန်းဝင်သည်။ သူ့ကုလားထိုင်တွင် ဖင်ချမိ သည်နှင့်တစ်ပြိုင်နက် စပိန်လူမျိုး စာရေးဖာနန်ဒိုသည် တံခါးကို ခေါက်၍ အသံပေးပြီး ဝင်လာသည်။

'မစ္စတာ ဘာတန်ပေါ်တိုအေလီဂျီးကို သွားပြီခင်ဗျ…၊ အီစတင်းစတား ကုန်တင်သင်္ဘောဆီကို သွားတာပါ၊ ဂန်မင်းကို အရေးကြီးတဲ့ စကားတခွန်း ပြောစရာရှိနေတယ်လို့ ပြောသွားပါတယ်'

http://www.shwezinu.com/



'စာမရေးခဲ့ဘူးလား.........'

'မရေးခဲ့ဘူး ခင်ဗျ၊ သူညနေငါးနာရီ အရောက်ပြန်လာမယ်လို့ ပြောသွားပါတယ်....၊ သူ ပြောချင်တဲ့ စကားကလဲ အရေးကြီးတယ်လို့ သိရပါတယ်'

'အရေးကြီးတယ်....ဟုတ်လား'

'ဟုတ်ကဲ့......၊ မစ္စတာဘာတန်ကို ကြည့်ရတာ တခုခုအတွက် စိတ်ပူနေသလို ဖြစ်နေပါတယ်'

'ကောင်းပြီလေ၊ သူပြန်ရောက်တဲ့အခါ ငါ့ဆီလွှတ်လိုက်ပေါ့'

'နောက်တခုရှိပါသေးတယ်....ခင်ဗျ'

စပိန်စာရေးသည် မျက်လွှာချထားသည်။

'ဒီမနက် ကိုးနာရီ ထိုးလောက်မှာ ရဲက ဖုန်းဆက်ပါတယ်၊ ဂျူစီဆန်တီရိကို ဘာစီလိုးနား မြို့ပို့ပြီး တရားရုံး တင်မယ်လို့ အကြောင်း ကြားတာပါ၊ ဂျူစီကို ကြာသပတေးနေ့ နေ့လယ်ရထားနဲ့ပို့မယ်လို့ ပြောပါတယ်'

ဤသတင်းကတော့ သူကြားချင်နေသော သတင်းဖြစ်၏။ ဂျူစီ၏ အမှုကို ဆန်ရော်ဂျီမြို့ တရားရုံး၌သာ တင်၍ စစ်လျှင် မမှန်မကန် ဖြစ်ဖွယ်ရာရှိသည်ဟု သူတွက်ထားသည်။ ဂျူစီသည် ပီလိုတာ ဘောလုံးသမား တဦးအဖြစ်

http://www.shwezinu.com/



လူသိများနေသူတဦးဖြစ်ရာ မြို့ပေါ်မှ လူများစုသည် ဂျိစီဘက်မှ ရပ်တည်ကြလိမ့်မည်ဖြစ်သည်။ သို့ဆိုလျှင် တရားသူကြီးသည် ဂျိစီအား တဘက်သတ်မျက်နှာသာပေး၍ စစ်ဆေးဖွယ်ရာ ရှိ၏။ ဘာစီလိုးနားမြို့က တရားရုံးမှာဆိုလျှင်တော့ ဤအဖြစ်မျိုး ပေါ်စရာအကြောင်း မရှိ။ ချမှတ်သောအမိန့်သည် မှန်လည်းမှန်ကန်မည်။ တရားဥပဒေနှင့် အညီအညွတ်ရှိလှသော ပြင်းထန်ကြီး လေးသည့် ပြစ်ဒဏ်မျိုးလည်းဖြစ်မည်။ ဘရန်းဒီးသည် ဂမ်းသာလွန်း၍ စိတ်လှုပ်ရှားလာသည်။ သို့သော် လည်း သူ့စိတ်သဘောထားကို သူ့ လက်အောက်ငန်ထမ်း မရိပ်မိအောင် ထိမ်းချုပ်ထားသည်။ သူသည် အထက် အရာရှိကြီးတဦးဟန် နှင့် လေသံကိုမပျောက်စေရ။

'ကျေးဇူးတင်တယ် ဖာနန်ဒို၊ မင်းမှာပြောစရာဒါအကုန်ပဲ မဟုတ်လား'

စာရေးက ဦးခေါင်းတချက် ညွှတ်၍ အရိုအသေပေးကာ ပြန်ထွက်သွားသည်။ ကောင်စစ်ဝန်သည် ထိုင်ရာမှ ထကာ အခန်းကျဉ်းကလေးထဲတွင် ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်ခြင်းပြုသည်။ မကောင်းစိတ် နှင့်ယှဉ်သော ဂမ်းသာမှုအရှိန်သည် သူ့ရင်ထဲတွင် လှိုင်းထလျက်ရှိသည်။ ဤစိတ်သည် သူ့အား ငြိမ်ငြိမ် ဆိတ်ဆိတ် နေ၍မရအောင် လှုံ့ဆော်လျက်ရှိသည်။ သူ မုန်းတီးစက်ဆုပ်နေသူအပေါ်၌ ပြန်လည်၍ လက်စား ချေလိုစိတ်သည် ပြင်းထန်စွာ ဖြစ်ပေါ်လျက်ရှိ၏။ တဘက်သားကို ထိထိခိုက်ခိုက် ဖြစ်စေချင် သောဆန္ဒ ပြင်းပြလေလေ ငြိမ်ငြိမ်သက်သက် နေ၍ မရလေလေ။

http://www.shwezinu.com/

သူသည် လက်နှစ်ဘက်ကို နောက်ပစ်ကာ လျှောင်းချိုင့်အတွင်း ရောက်နေသည့် သားရဲ တိရစ္ဆာန်တကောင် သဖွယ် အဆက်မပြတ် လှည့်ပတ်လျှောက်လျက်ရှိသည်။ တရားရုံးသို့ သူကိုယ်တိုင် တက်ရောက် မှ ဖြစ်မည်ဟု တွေးလိုက်မိသောအခါ တရားရုံးမြင်ကွင်းသည် သူ့စိတ်ကူး အာရုံထဲတွင် ပေါ်လာသည်။ နောက်ပြီး တော့ သူကိုယ်တိုင် ဘာစီလိုးနား မြို့သို့သွားသည့်အခါ တရားခံကိုပို့မည့် နေ့ခင်းရထားနှင့်ပင် သူ လိုက်ချင်သည်။ တရားခံနှင့်အတူ တတွဲတည်းစီးပြီး တရားခံနှင့် မနီးမဝေးမှ ထိုင်၍လိုက်ကာ လက်ထိတ်တန်းလန်းနှင့် တရားခံဂျိုစီ ခံစားနေရသည့် ဆင်းရဲဒုက္ခများကိုလည်းကောင်း၊ အရှက်တကွဲ အကျိုး နည်းဖြစ်နေသည့် ပုံကိုလည်းကောင်း အရသာခံ၍ ကြည့်မြင်ချင်သည်။

သူ့စားပွဲပေါ်တွင် အလုပ်အနည်းငယ်ရှိသေးသည်။

အရေးကြီးသော အလုပ်များတော့ မဟုတ်။ သာမန် လုပ်ရိုးလုပ်စဉ်များသာ ဖြစ်သည်။ ပြည်ဝင်ခွင့် ဗီဇာ လျှောက်လွှာများ၊ ထုတ်ကုန်များအတွက် အကောက်ခွန် တောင်းခံသော ပြေစာများနှင့် ဆယ့်ငါးရက် တကြိမ် ပို့ရသည့် ဆန်ဂျော်ဂျီဆိပ်ကမ်း၏ ကုန်သွယ်မှု အခြေအနေ အစီရင်ခံစာ။ သို့သော် လည်း သူလုပ်၍ မရ။ လုပ်ချင်စိတ်လည်းမရှိ။ စိတ်မငြိမ်သက်မှု အရှိန်သည် အခုထိ ကျဆင်းသွားခြင်း မရှိသေး။ တက်ပြီး ယင်းတက်ယင်း....။ အရှိန်မြင့်သည်ထက်သာ မြင့်လာလျက်ရှိသည်။ သူသည် စားပွဲ၌ ပြန်ထိုင် သည်။ သူတို့ လျှောက်လအာများကို ကြည့်ရှုစစ်ဆေးပြီး လက်မှတ်ထိုးလိုက်သည်။

http://www.shwezinu.com/

ထို့နောက် ထိုင်ရာမှ ပြန်ထကာ ချန်တာကိုး ကဖီးသို့ နေ့လယ်စာစားရန် ထွက်ခဲ့လေသည်။

ပုံမှန် အလေ့အကျင့်အတိုင်းဆိုလျှင် သူသည် နေ့လယ်စာကို များများ စားသောက်လေ့မရှိ။ တခါ တရံ တွင် ကော်ဖီတခွက်နှင့်သာ ပြီးတတ်သည်။ သို့သော်လည်း ယနေ့တော့ သူ့ စိတ်သည် တမျိုး တဖုံ ဖြစ်လျက် ရှိသည်။ ဗိုက်ထဲက ဆာလောင်သလို ဖြစ်လျက်ရှိသည်။ အမဲကြော်တပွဲ၊ ကြက်ဥကြော် တပွဲ နှင့် ဆိတ်နို့ ဒိန်ခဲ စသည်များကို မှာလိုက်၏။ နေ့ခင်းနေ့လည်တွင် အရက်သောက်လေ့မရှိသော ဘရန်းဒီး သည် အရက်သုံးပက်ကို ဆက်တိုက် သောက်ချလိုက်သည်။ တံငါလေ့သူကြီး တစုသည် သူနှင့် မနီးမဝေးမှ စားပွဲတွင် ထိုင်ကာ ဘီယာ သောက်နေကြသည်။

အားလုံးက သူ့အားဆီး၍ နှုတ်ဆက်ကြသည်။ အရက်ကောင်တာ၏ နောက်ဘက်မှ လက်ဆွဲ ဘာဂျာသံ သည် မှန်မှန်ထွက်ပေါ်လျက်ရှိ၏။ သီချင်းက အလွန်မြူးမြူး ကြွကြွရှိသည့် ကက်တလန် တေးသီချင်း....။ သူ့အာရုံသည် တေးဂီတတွင် နစ်မျောလိုက်ပါသွား နေသည်။

သူသည် ဆေးလိပ်တလိပ်ကို မီးညှိဖွာကာ မက်ဒရစ်နေ့စဉ် သတင်းစာဖတ်ဖို့ အားထုတ်သည်။ သို့သော်လည်း ဖတ်၍မရ။ သတင်းစာအပေါ်တွင် လုံး၀ စိတ်ဝင်စားခြင်းမရှိ။ သူသည် ငွေစက္ကူတရွက်ကို စားပွဲပေါ်၌ ချထားခဲ့ပြီး ခြေဦးတည့်ရာသို့ လျှောက်သွားသည်။ သင်္ဘောဆိပ်ရှိ ဆိပ်ခံ ဗောတံတား များအောက်တွင် လူသွားလူလာကင်းမဲ့ကာ

http://www.shwezinu.com/


တိတ်ဆိတ်ခြောက်သွေ့ နေကြပေသည်။ မွန်းတည့်နေသည့် အရှိန်ပြင်းစွာ ကျရောက်လျက် ရှိ၏။ ဆီချေးနံ့များသည် လေနှင့် လိုက်ပါလာပြီးသူ့နာခေါင်းသို့ တိုးဝှေ့ ကြသည်။

ဟေးလီးဗီးမပြန်ခင် တညနေခင်းက သူ့အား ပြောခဲ့သည့် စကားတခွန်း....။ သူ့နားတွင် ပြန်၍ ကြားယောင် လာသည်။

'မိတ်ဆွေကြီးရယ်...၊ ခင်ဗျားဟာ သန်တုန်း မြန်တုန်း သွေးသာကောင်းတုန်း အရွယ်ပါဗျာ၊ အရွယ် ကလည်း အရွယ်ကောင်းပဲ ရှိပါသေးတယ်၊ ဒါနဲ့တောင်မှ ခင်ဗျားအခုလို နေနိုင်တာ ကျွန်တော် အံ့ဩလို့ မဆုံး ဘူး'

ရုတ်တရက် သူ့အတွင်းစိတ်သည် ပြင်းထန်သော အရှိန်ဖြင့် တစုံတခုသော အမှုကို ပြုရန် လှုံ့ဆော် တိုက်တွန်းလျက်ရှိသည်။ သူသည် ခေါင်းမှဦးထုပ်ကို မျက်နှာဖုံးသွားအောင် အရှေ့သို့စိုက်၍ ဆောင်း လိုက်ပြီး သူ့ခြေထောက်များကို မြို့ထဲဘက်သို့ ဦးတည်ပေးလိုက်၏။ ထူးဆန်းသော လမ်း တလမ်း...။ အခုလို အချိန်မျိုးတွင် လူသွားလူလာ မရှိ။ အနည်းငယ်တော့ စိုးရိမ်စရာ ကောင်းသည်။ သူသည် ထိုလမ်း ထဲသို့ ဝင်လာခဲ့သည်။ ပြီးတော့... မှောင်ရိပ်သန်းနေသည့်....။

သူရုံးသို့ ပြန်ရောက်သောအခါ ငါးနာရီထိုးလုနေပြီဖြစ်၏။ သူ၏ ခက်ထန်တင်းမာနေသော မျက်နှာသည် မလှုံမလဲ ဖြစ်လျက်ရှိသည်။ သူသည် သူ့ရုံးခန်းအတွင်းသို့ပင် တောက်လျှောက်ဝင်လာခဲ့သည်။ ဘေးပတ်ဝန်း

http://www.shwezinu.com/


ကျင်ကို မကြည့်မိအောင် သတိထားလာသည့် ကြား မှပင် သူ့မျက်လုံးများသည် အေလ်ဗင် ဘာတန် ပြန်ရောက်နေသည်ကို မြင်ခဲ့လေသည်။

သူ့လက်ထောက် ဖြစ်သူ ဘာတန်သည် ကောင်စစ်ဂန် ပြန်ရောက်အလာကို တမျှော်မျှော် ဖြစ်နေခဲ့သည်မှာ ကြာပြီ ဖြစ်သည်။ သူသည် လည်ပင်းမှ နက္ကတိုင်ကို သပ်သပ်ရပ်ရပ်ဖြစ်သွားအောင် ပြင်လိုက်သည်။ သဘော်ဆိပ် သွားစဉ်ကတင်လာခဲ့သော သူ့အင်္ကျီ နှင့်ဘောင်းဘီပေါ်မှ ဖုန်များကို လက်ဖဝါးဖြင့် ရိုက်၍ ခါသည်။

ဘရန်းဒီး သည် သူ၏ဆံလည်ကုလားထိုင်တွင် လေးလံထိုင်းမှိုင်းစွာ ဝင်ထိုင်သည်။

လက်ကိုင်ပဝါကို ထုတ်၍ နဖူးမှ ချွေးစီးများကို သုတ်သည်။ ထို့နောက် သူ့ရှေ့ တည့်တည့်သို့ မိနစ်ပေါင်းများစွာ ငေး စိုက်၍ ကြည့်နေသည်။ အဓိပ္ပာယ်ကင်းမဲ့စွာဖြင့် ပြုလုပ်ခဲ့သော သူ၏ စွန့်စားမှု ့ အတွက် သူ့ကိုယ်သူ ဒေါပွ၍ မဆုံးနိုင်အောင်ဖြစ်လျက်ရှိသည်။ သူပြုခဲ့မိသော ကိစ္စအတွက် စိတ်၏ ဆင်းရဲခြင်းလည်း ဖြစ်နေရ၏။ နောက်ဆုံးကျတော့လည်း သူ့ကိုယ်သူ ဖြေသိမ့်၍ ရလာသည်။ သူသည် စားပွဲပေါ်မှ ဘဲလ်ကို နှိပ်လိုက်၏။ ချက်ချင်းလိုလိုပင် ဘာတန် ဝင်လာသည်။ ကောင်စစ်ဂန်သည် မတုန်မလှုပ် ကျောက်ရုပ်သဖွယ် တောင့်တောင့်မတ်မတ်ကြီး ထိုင်နေရာမှ သူ့ရှေ့မှောက်သို့ ရောက်လာ သော ဘာတန်ကို မော့်ကြည့်သည်။

' ကဲ... မင်း ငါ့ကို ပြောစရာရှိတယ်ဆိုတဲ့ ကိစ္စကဘာလဲ၊ ဆိုစမ်း '

http://www.shwezinu.com/



မကြည်မလင် ဖြစ်နေသော ကောင်စစ်ဝန်၏ မျက်နှာကို ကြည့်ကာ ဘာတန်မှာ အနေရခက်လျက် ရှိ၏။

' ဝန်မင်းကို စိတ်ပူအောင် လုပ်မိတဲ့အတွက် ကျွန်တော့်ကို ခွင့်လွှတ်ပါခင်ဗျာ၊ ကျွန်တော် တကယ့် ကိုစိတ်မကောင်းပါဘူး၊ ဒါပေမယ့် ကိစ္စကလည်း စိတ်ပူစရာ ဖြစ်နေလို့ပါ၊ ကျွန်တော့်ဆီကို အေဂျင် စီက စာတစောင် ရောက်လာပါတယ်ခင်ဗျာ '

'ဘာ ... အေဂျင်စီလဲ '

'အိမ်တွင်းမှု အလုပ်သမား ရှာဖွေရေး အေဂျင်စီကပါ ခင်ဗျာ ' ဟု ဘာတန်က ဖြေသည်။ ' အမှန် တော့ ကျွန်တော် တတ်နိုင်သမျှ အဆင်ပြေအောင် လုပ်ခဲ့ပါတယ်၊ မက်ဒရစ်မြို့ပေါ်က အကောင်း ဆုံးဆိုတဲ့ အေဂျင်စီနဲ့ ဆက်သွယ် ဆောင်ရွက်ခဲ့တာပါ၊ ဝန်မင်း စိတ်ကျေနပ်မှုရအောင် လုပ်ချင်တဲ့ ဆန္ဒနဲ့ အထူးတလည် ကြိုးစားပြီး လုပ်ခဲ့တဲ့ ကိစ္စတခုပါ၊ ဒီလိုဖြစ်လာလိမ့်မယ်လို့ လုံးဝ မထင်ခဲ့ပါ ဘူး'

'မင်း ဘာပြောနေတာလဲ၊ ဒီထက်ရှင်းအောင် ပြောမပြနိုင်တော့ဘူးလား'

'ကိစ္စက ဝန်မင်းရဲ့ ဘဏ္ဍာစိုး ဂရေစီယာနဲ့ ပတ်သက်နေပါတယ်ခင်ဗျာ၊ ကျွန်တော် ငှားပေးခဲ့တဲ့ လူကို ပြောတာပါ၊ သူ့မှာ အကျင့်စာရိတ္တ ကောင်းကြောင်း ထောက်ခံစာတွေ ပါခဲ့ပါတယ်၊ ခုကျတော့ အေဂျင်စီဌာနမှူးက ကျွန်တော့်ဆီ အတွင်းစာတစောင်ရေးပြီး အကြောင်းကြားပါတယ်၊ ဂရေစီယာရဲ့

http://www.shwezinu.com/



ထောက်ခံစာ တွေဟာ အတုတွေ ဖြစ်ပါတယ်တဲ့၊ ပြီးတော့ သက်ဆိုင်ရာ ရဲတွေက ရော့ဒရီး ဂိုးအီစပန်တာဂိုး ဆိုတဲ့ လူတယောက်ကို ဖမ်းဖို့ လိုက်ရှာနေပါတယ်တဲ့၊ အဲဒီ လူဟာ ဂရေစီ ယာပဲ ဖြစ်လိမ့် မယ်လို့ ယူဆနိုင်စရာ ရှိနေပါတယ်တဲ့၊ သူ့ကို ရဲ့ အလိုရှိနေတာက လုယက်မှုနဲ့ တပ် ပြေးအမှု နှစ်မှုကြောင့် ဖြစ်ပါတယ်တဲ့၊ သူ့ကို စစ်ဆေးဖို့ဆိုပြီး မာလာဂါမြို့က အကျဉ်းထောင် စိတ္တဇ ဆေးကုခန်းမှာ ပို့ထားတုန်း ထွက်ပြေး သွားခဲ့ပါတယ်တဲ့'

ဘာရန်းဒီး ငြိမ်ဆိတ်သွားသည်။ သူသည် အတန်ကြာမျှ တွေဝေ စဉ်းစားလျက် ရှိ၏။

'စာပြစမ်းပါဦး'

သူသည် မလှုပ်မယှက် လုပ်နေရာမှ စာကို တောင်းသည်။

ဘာတန် က စာကို ထုတ်ပေးသောအခါ နှစ်ကြိမ်တိတိ စေ့စပ်သေချာစွာ ဖတ်သည်။ ထို့နောက် မိနစ် အနည်းငယ်မျှကြာ စဉ်းစားနေပြန်သည်။ ပြီးတော့မှ မျက်ခုံးများကိုပင့်၍ ဘာတန်အား ကြည့် သည်။

'စာထဲမှာတော့ ဘာမှ တိတိကျကျ မရှိပါဘူး၊ ခိုင်လုံတဲ့ အထောက်အထားလဲ မပြနိုင်ဘူး '

'ဟုတ်ပါတယ် ခင်ဗျာ၊ ဒါပေမယ့် အားလုံးကို ခြုံကြည့်လိုက်ရင် မသင်္ကာစရာ အခြေအနေမျိုး ဖြစ်နေ ပါတယ်၊ ကျွန်တော့်မိန်းမ ဘာလိုနဲ့ တိုင်ပင်ကြည့်တော့လဲ သူက သိပ်ပြီး စိတ်ပူလာပါတယ်၊ ဂန်မင်းဆီ ချက်ချင်း

http://www.shwezinu.com/



သွားပြီး အသိပေးထားဖို့ တိုက်တွန်းပါတယ်၊ ဒီအခြေအနေအတိုင်းဆိုရင် ဂန်မင်းတခုခုလုပ်ဖို့ လိုမယ် ထင်ပါတယ် ခင်ဗျာ'

ဘရန်းဒီး က နှုတ်ခမ်းကို မဲ့လိုက်သည်။

'မင်းနဲ့ မင်းမိန်းမက ငါလာလုပ်သင့်တယ်ဆိုတာ ညွှန်ကြားနေတဲ့ သဘောလား '

'အို ... ဒီလိုသဘောနဲ့ ပြောတာ မဟုတ်ပါဘူးခင်ဗျာ' ဟု ဘာတန်က ကသောကမျော တောင်းပန် သည်။

' ဒါပေမယ့် ... ဒီ ... ဒီ ... အကောင်ဟာ ကြောက်စရာကောင်းလောက်အောင် အန္တရာယ် ပြုနိုင်တဲ့ လူမျိုး ဖြစ်တယ်လို့ ယူဆမိတာနဲ့'

ကောင်စစ်ဂန်က ငြိမ်ဆိတ်နေပြန်သည်။

' အခုဆိုရင် ဂရေစီယာ ငါ့အိမ်မှာနေတာ လပေါင်းအတော်ကြာခဲ့ပြီ၊ ငါနဲ့ နီးနီးကပ်ကပ်နေခဲ့တာပဲ၊ ငါကိုယ်တိုင် သူ့ကို လေ့လာခွင့်ရခဲ့တယ်၊ အပွင့်လင်းဆုံးထားပြီး ပြောရမယ်ဆိုရင်တော့ ဂရေစီယာ လောက်တော်တဲ့ အခိုင်းအစေမျိုး၊ ယုံကြည်စိတ်ချရတဲ့ တပည့်မျိုး ငါဘယ်တုန်းကမှ မရခဲ့ဖူးသေးဘူး၊ အတိုချုပ်ပြီး ပြောရရင်တော့ ဒီစာဟာ သိပ်ပြီး ခိုင်လုံတဲ့စာ မဟုတ်ဘူးလို့ပဲ ငါထင်တယ် '

http://www.shwezinu.com/

' ဒါပေမယ့် ဂန်မင်းအနေနဲ့ စုံစမ်း စစ်ဆေးကြည့်ဖို့တော့ လိုလိမ့်မယ် ထင်ပါတယ်ခင်ဗျာ၊ ဒီကိစ္စက ကျွန်တော့် မှာလဲ တာဝန်မကင်းသလို ဖြစ်နေတော့...'

ငါ လုပ်သင့်လုပ်ထိုက်တာ မှန်သမျှကိုတော့ ငါ လုပ်သွားမှာပဲ ' ဟု ကောင်စစ်ဂန်က သိပ်ပြီး မကျေ နပ်သော လေသံဖြင့် ပြန်ပြောသည်။

' ဒီကိစ္စအတွက် မင်းမှာ အင်မတန် ကြီးမားတဲ့ တာဝန်ကြီးတခု ကိုထမ်းဆောင်နေရသလိုတော့ လုပ်မနေပါနဲ့ '

သူသည် လက်ထဲမှစာကို ခေါက်၍ အင်္ကျီအိတ်ထဲသို့ ထည့်လိုက်သည်။

' ဒီစာနဲ့ပတ်သက်လို့ တခြား ဘယ်သူ့ကိုမှ မပြောသေးဘူး မဟုတ်လား၊ အခုလို လျှို့ဝှက်ထားရမယ့် ကိစ္စမျိုးမှာ ကျရင် ငါ အလေးအနက်ထားပြီး စဉ်းစား တတ်တယ်ဆိုတာ မင်း သိထား စေချင်တယ် '

' မပြောသေးပါဘူး ခင်ဗျာ ' ဟု ဘာတန်က ဖြေသည်။

' ဒါမျိုးကျတော့ ကျွန်တော့်အပေါ် ယုံကြည် စိတ်ချနိုင်ပါတယ် '

'အေး ... ငါကလဲ ယုံကြည်ထားပါတယ် ' ဟု ဘရန်းဒီးက ပြောသည်။ သူသည် ကုလားထိုင်ပေါ်မှ ထရပ်ကာ ဦးထုပ်ကို ကောက်၍ ဆောင်းလိုက်သည်။ တံခါးဝသို့ အရောက်တွင် ရုတ်တရက် ထွက် မသွား သေးပဲ ခဏမျှ ရပ်နေသေးသည်။ ထို့နောက် ရုံးခန်းအတွင်းမှ အပြင်သို့

http://www.shwezinu.com/



ထွက်သည်။ သစ်သား လှေကားပေါ် နင်းသွားနေသော သူ့ခြေလှမ်းများသည် နေးကွေးလေးလံလျက်ရှိလေ သည်။

***************

http://www.shwezinu.com/

## အခန်း (၁၉)

ထိုနေ့ မွန်းမလွဲမီ စောစောပိုင်း အချိန်တွင် နီကိုလတ်စ်သည် အဂတ်အစားကို ပြည့်ပြည့်စုံစုံ ဝတ်ကာ သူ့အိပ်ခန်း ထဲရှိ အိပ်ရာပေါ်၌ လဲလျောင်းနေသည်။ သူ့စိတ်မှာ တည်ငြိမ်ခြင်း မရှိ။ ဖြစ်ပေါ် လာသည့် အခြေအနေ အရပ်ရပ်ကို သူဉာဏ်မီသလောက် စဉ်းစားကာ ဘဝင်မကျ ဖြစ်လျက် ရှိ၏။

ပါမောက္ခ ဒေါက်တာ ပောလီးဗီးကတော့ ကနေ့မနက် ပြန်သွားပြီ။ ပောလီးဗီး ပြန်သွားသည့် အတွက် သူ့မှာ များစွာ စိတ်ချမ်းသာခဲ့ရ၏။ နေ့စဉ်နှင့်အမျှ သူ့အား မေးခွန်းပေါင်းသောင်းခြောက် ထောင် အမေးခံနေရသဖြင့် သူစိတ်ညစ်စိတ်ရှုပ်ခဲ့ရ၏။ ဤမေးခွန်းများကို မည်သည့် ရည်ရွယ်ချက် ဖြင့် မေးသနည်း။ ဒါကိုတော့ သူမသိ။ တိကျသော အဖြေရဖို့အတွက် သူဉာဏ်မီသလောက် စဉ်းစားကြည့်သည်။ စဉ်းစား လိုက်တိုင်း ရှက်ကြောက်သော စိတ်သည် သူ့ရင်ထဲတွင် ဖြစ်ပေါ်လာစ မြဲ...။ အခုဆိုလျှင် အိမ်တွင် ဂရေစီယာ လည်း မရှိ။ ပောလီးဗီးကို ဘာစီလိုးနားမြို့သို့ မော်တော်ကားဖြင့် လိုက်ပို့နေသည်။ မက်ဂိဒါလီးနား ကလည်း ယခင်ကလို မဟုတ်။ ခင်မင် ရင်းနှီးမှုဆိုသည် လုံးဝ မဖြစ်နိုင်တော့သည့် အခြေသို့



http://www.shwezinu.com/

ဆိုက်နေပြီ။ မက်ဂ်ဒါလီးနားသည် သူ့အခန်းထဲမှ အပြင်သို့ မထွက်။ အိမ်တွင်းပုန်းလုပ်လျက် ရှိ၏။

တအိမ်လုံး ကြောက်မက်ဖွယ် ကောင်းလောက်အောင် တိတ်ဆိတ်ငြိမ်သက်လျက် ရှိသည်။ ကလေး တယောက် အနေဖြင့် ဤမျှလောက် တိတ်ဆိတ်ခြောက်သွေ့နေပြန်တော့လည်း မနေတတ် မထိုင် တတ်ဖြစ်လာသည်။ တစုံတခု လုပ်ရလျှင် ကောင်းလေမလားဟူသော စိတ်သည် သူ့ခေါင်းထဲ၌ ပေါ်လာသည်။ သူသည် အခန်းထဲမှထွက်ကာ အောက်ထပ်သို့ ဆင်းခဲ့ပြီး ဥယျာဉ်ဘက်သို့ သွား သည်။ ပန်းဥယျာဉ် ထဲတွင်လည်း အသက်ကင်းမဲ့လျက် ရှိ၏။ သူသည် တဒင်္ဂမျှ တွေဝေငေးမောနေ သည်။ ပြီးတော့ သူ့စိတ်ကို တင်းကာ ဥယျာဉ်ထဲမှနေ၍ ပင်လယ်ကမ်းခြေဘက်ရှိ လမ်းမပေါ်သို့ ထွက်လာခဲ့သည်။ ထိုလမ်းသည် မြို့ဘက်သို့ ဦးတည်သော လမ်း...။ သူသည် ထိုလမ်းအတိုင်း လျှောက်သည်။ ပထမတော့ မည်မည်ရရ စိတ်ကူးနှင့် လျှောက်ခြင်းမဟုတ်။ လုပ်စရာမရှိ၍ ကြံဖန် လုပ်သည့်သဘော...။ နောက်တော့လည်း သူ့စိတ်ထဲတွင် ရည်မှန်းချက်တခုရှိလာလေသည်။

နေကတော့ ပူပြင်းလှ၏။ အပူရှိန်သည် သူ့ကိုယ်ပေါ်သို့ အညှာအတာကင်းမဲ့စွာ ကျရောက်လျက် ရှိ၏။ အခု သူလျှောက်သွားနေသော လမ်းသည် ဘယ်တုန်းကမှ မရောက်ဖူးသော လမ်း...။ လမ်း ကို မျှော်ကြည့် လိုက်သည့်အခါ တမျှော်တခေါ်ကြီး...။ ဆုံးမှ ဆုံးပါဦးမည်လော...။ ဆန်ရျော်ဂျီမြို့ ထဲသို့ ရောက်သောအခါ သူသည် အဆမတန် ပင်ပန်းနွမ်းနယ်လျက် ရှိလေပြီ။

http://www.shwezinu.com/


ဖုန်ထူလွန်းလှသော ကွင်းပြင်၊ နေပူလွန်းလှ၍ တရုတ်ကတ်များ ပိတ်ထားရသည့် အိမ်ရှေ့မျက်နှာစာများ။ ညစ်ပတ် ပေရေလျက် ရှိသော လမ်းကြို လမ်းကြားများ...။

စိတ်ထဲက မပွံ့မရဲဖြစ်နေမိသော်လည်း နောက်ကို ဆုတ်ဖို့တော့ မစဉ်းစား။

သူ့ရှေ့တည့်တည့်မှ ကွင်းပြင်ကို ရဲဂုံ့စွာ ဖြတ်ပြီး တဘက်အိမတန်းများဆီ အရောက်သွားသည်။ ထိုနေရာ တွင် သူ ရည်မှန်းထားသော ခရီလးမ်းဆုံး တည်ရှိပေသည်။ သို့သော်လည်း ထိုနေရာသို့ ဆိုက်ရောက်သွား သော အခါ စိတ်ပျက်လက်ပျက် ဖြစ်သွားသည်။ သူမြင်နေရသည့် အကျဉ်းထောင်ကြီး၏ အသွင် အပြင်မှာ ကြောက်စရာ ကောင်းနေသည်။ သူတွေးထင်ထားသလို လွယ်လွယ်နှင့် ဂင်၍ ရလိမ့်မည် လည်းမဟုတ်။ ပတ်ပတ်လည် တွင် အုတ်နံရံကြီးများ ကာထားသည်။ တဘက်တချက်တွင် မားမား မတ်မတ် ရပနေသော မျှော်စင်ကြီးနှစ်ခု...။

အမှန်တော့ နီကိုလတ်စ်သည် ကလေး အတွေး၊ ကလေး စိတ်ကူးဖြင့် အပင်ပန်းခံ၍လာခဲ့ခြင်း ဖြစ်သည်။ သူထောင်သို့ ရောက်လျှင် မလွယ်ပေါက် တခုတော့ တွေ့လိမ့်မည်ဟု ထင်ခဲ့၏။ မလွယ် ပေါက် ရှာတွေ့ခဲ့ သည်ရှိသော် ထိုမလွယ်ပေါက်မှ နေ၍ သူ့ သူငယ်ချင်း ဂျိုစီ နှင့် စကားပြောမည်ဟု အားခဲ ထားသည်။ အခုတော့ သူ့စိတ်ကူးသည် ပျောက်သွားခဲ့လေပြီ။

http://www.shwezinu.com/



သူသည် ထောင်နှင့်မနီးမဝေးမှ ရပ်ကာ မျှော်ကြည့်နေသည်။ ကံကောင်းလျှင် သူ့ဆန္ဒ ပြည့်နိုင်မည့် အခြေအနေ တခု ဖြစ်ပေါ်လာတန်ကောင်းရဲ့ ဟူသော အတွေးဖြင့် မျှော်လင့်ချက်ထားနေမိသည်။ သို့သော်လည်း ဘာတခုမှ ဖြစ်မလာ။ အုတ်နံရံကြီး၏ နောက်ဘက်တွင် သက်ရှိသတ္တဝါရှိမှ ရှိပါလေ စဟုပင် သံသယ ဝင်လောက်သည်။ သူသည် ကြည့်နေယင်းမှ ရုတ်တရက် ချက်ချင်း ကြောက်စိတ် ဝင်လာကာ နောက်သို့ ပြန်လှည့်ပြီး လာလမ်းအတိုင်း ကဆုန်ပေါက်၍ ပြေးသည်။

ပြေးနေယင်းမှပင် သူ့နောက်တွင် ကျန်ရစ်ခဲ့သည့် မျှော်စင်ကြီး နှစ်ခုဆီမှ အလွန်ရှည်လျားသော လက်ကြီး နှစ်ဘက်ထွက်လာပြီး သူ့အား ဖမ်းဆီးလေမလားဟူသော စိတ်ကူး ဝင်လာလိုက်သေး၏။ အလန့်တကြားနှင့် ခြေဦးတည့်ရာသို့ ပြေးခြင်းဖြစ်၍ ကွေ့ကောက်လွန်းလှသော လမ်းကြို လမ်းကြားများအတွင်းသို့ ရောက်ကာ လမ်းစ ပျောက်သွားသည်။ အနားကျယ် မဂ္ဂဆီကန် ဦးထုပ် နက်ကြီးကို အော်ဟစ် ကြိမ်းမောင်းကာ ကျန်ခဲ့သည်။ သူသည် ရေခပ်လာသော အဘွားကြီး တဦး အပေါ်သို့ လဲကျလုမတတ် ဖြစ်သွားသည်။

မည်သို့ပင်ဖြစ်စေ ဟူသည် ကံအားလျော်စွာပင် သူရောက်ခဲ့ဖူးသော လမ်းမြောင် တခုအတွင်း သို့ ရောက်သွားသည်။ ထိုလမ်းကို သူမှတ်မိနေသည်။ ထိုလမ်းသည် မြစ်ဘက်သို့ ထွက်ရာလမ်း တလမ်း...။

http://www.shwezinu.com/



ခပ်ဝေးဝေးမှ နာရီထိုးသံ သုံးချက်နှင့် လက်မှတ်ရောင်းသော လမ်းဘေး ဈေးသည် တဦး၏ အော်သံများကို ကြားရသည်။

ဤလမ်းပေါ် ရောက်လာပြီး ဤအသံများကို ကြားရသည့်အခါ စောစောက ရှိနေသော ကြောက် စိတ်သည် ပျောက်သွား သည်။ သူ့ကိုယ်သူ ယုံကြည်စိတ်ချမှုသည် ပြန်ဝင်လာသည်။ သူသည် ပြေးနေသော အရှိန် လျှော့လိုက်၏။ ခပ်ဖြည်းဖြည်း မှန်မှန်လျှောက်ကာ ကော်ရီယင်တီ လမ်းထဲသို့ ချိုးဝင်ခဲ့၏။ ဂျူစီ၏ အိမ်ကို အလွယ်တကူ ပင် တွေ့သည်။ အခုအချိန်အထိ အသက်ရှူ မမှန်သေး။

သူသည် လမ်းတဘက် ပလက်ဖောင်းပေါ်၌ ရပ်ကာ မျက်နှာချင်းဆိုင် အဆောက်အအုံ၏ အပေါ် ဆုံးထပ်သို့ မျှော်လင့်ချက် ကြီးစွာဖြင့် လှမ်းကြည့် နေမိသည်။ ထိုအခန်းငယ်ဆီသို့ တက်သွားရာ လှေကားမှာ ကြောင်လိမ် လှေကားသဖွယ် ကွေ့ကွေ့ကောက်ကောက် နိုင်လွန်းသဖြင့် သူ မတက်ရဲ။

သူသည် ပလက်ဖောင်းပေါ်၌ တနာရီကျော်ကျော် ကြာမျှ ရပ်နေသည်။ နေစွယ် ကျိုးသွားလေပြီ။ လေသည် အေးစ ပြုလာသည်။ သို့သော်လည်း ဂျူစီအခန်းမှ လူတဦးတယောက်မှ ပေါ်မလာ။ သူသည် စိတ်အား ငယ်လာ သည်။ လာလမ်းအတိုင်း ပြန်တော့မည်ဟု စိတ်ကူးသည်။ ထိုအခိုက်မှာ ပင် ဂျူစီတို့အခန်းကို သွားရာ ပေါင်းကူးကလေးအတွင်းမှ အဘိုးပက်ဒရို ထွက်လာသည်ကို မြင်လိုက်ရလေ၏။ သူသည် ရုတ်တရက်

http://www.shwezinu.com/



ကြက်သေသေကာ ငေးနေမိသေးသော်လည်း ချက်ချင်းပင် သတိပြန်ဝင်လာကာ လမ်းတဘက် သို့ ကူးခဲ့လေသည်။

"ပက်ဒရီ"

သူက လှမ်းအော်သည်။

"ကျွန်တော်လေ နီကို၊ အဘိုး ဘာသတင်းရသေးလဲ"

အဘိုးအိုက သူ့အား လှမ်းကြည့်သည်။

"သတင်းတော့ ရတယ် ... နီကို" ဟု ဆိုကာ ခေါင်းကို ဖြည်းလေးစွာ ယမ်းပြသည်။

"ဒါပေမယ့် သတင်းကောင်း မဟုတ်ဘူး၊ ဂျူစီကို အချုပ်နဲ့ ဘာစီလိုးနား မြို့အထိ ပို့ပြီး စစ်လိမ့်မယ်။ ဟိုမှာ စစ်မယ်ဆိုယင်တော့ ဂျူစီအတွက် သက်သာစရာလမ်း မရှိတော့ ဘူး"

"အို... "

"ဟုတ်တယ်၊ အားလုံးအတွက် အမင်္ဂလာ သတင်းပဲ"

အဘိုးအိုက သက်ပြင်းချသည်။

"ဂျူစီအတွက် တော့ အဆိုးဆုံးအခြေအနေပဲကွာ"

http://www.shwezinu.com/



"သူကော နေကောင်းရဲ့လား"

"သိပ်မကောင်းဘူး...၊ အချုပ်အနှောင်နဲ့ နေရတာကို သူမနေချင်ဘူး၊ သူက ငယ်ငယ်လေးကတည်း က အပြင်မှာ လွတ်လွတ်လပ်လပ် နေခဲ့တဲ့ လူတယောက်ဆိုတော့ သူသည်းမခံနိုင်ဘား၊ တကယ် လို့ သူတို့က အခုလိုပဲ အချိန်ကြာကြာကြီး ပိတ်လှောင်ထားမယ် ဆိုယင်တော့... "

ပက်ဒရိုက စကားကို ဆက်မပြောပဲ ရပ်လိုက်ကာ သက်ပြင်းတချက် ချပြန်သည်။

နှစ်ဦးစလုံး ညှိုးငယ်သော စိတ်ဖြင့် ငြိမ်ဆိတ်နေကြ၏။

"သူ ... ကျွန်တော့်ကိုကော မေးရဲ့လား" ဟု နီကိုလတ်စ်က မေးသည်။

"မေးပါတယ် ... " အဘိုးအိုက ခေါင်းညိတ်သည်။

"မင်းကို သတိရကြောင်း ပြောဖို့ အမြဲ မှာပါတယ် ကွာ၊ ဘယ်နည်းနဲ့မဆို သူ လွတ်မှာပါလို့ ပြောပေးဖို့လဲ အမြဲမှာတယ်"

"ဒါပေမယ့်... "

နီကိုလတ်စ်က အသံကို တိုးလိုက်သည်။

"လွတ်ဖို့ဆိုတာ ဖြစ်နိုင်ပါ့မလား အဘိုးရယ်"

http://www.shwezinu.com/

ပက်ဒရီသည် လမ်းဘေးဂဲယာကို ကျီးကန်းတောင်းမှောက် ကြည့်၍ အကဲခတ်သည်။ ထို့နောက် နီကိုလတ်စ်အနီးသို့ ကပ်၍ ခပ်တိုးတိုး ပြောသည်။

"ငါ ဒီအကြောင်းကို မပြောသင့်တာ အမှန်ပဲ နီကို၊ ဒါပေမယ့် မင်းကလဲ ဂျူစီကို အဘိုးတို့ ချစ်သလို ချစ်နေတာဆိုတော့ မင်းဟာ ငါတို့ မိသားစုထဲက လူတစ်ယောက်လို ဖြစ်နေတယ်၊ ငါမပြောပဲ မနေ နိုင်ဘူး...၊ ကဲ...နားထောင်၊ ဂျူစီအတွက် လွတ်မြောက်နိုင်တဲ့ နည်းလမ်းက တလမ်းတည်း ရှိတယ်၊ တကယ်လို့ သူ့ကို ဘာစီလိုးနားမြို့ ပို့ပြီး စစ်မယ်ဆိုယင် သူ့ဘဝဟာ ဆုံးပြီး၊ ဒါကြောင့်မို့ ဒီကိစ္စကို ငါတို့အားလုံးကပါ သဘောတူကြတယ်၊ နောက်တချက် သူ့ကို ဟိုမပို့ပဲ ဒီမှာပဲထားမယ်ဆိုပါတော့၊ ဒါပေမယ့် ထားမယ့် နေရာက ထောင်ထဲမှာပဲဆိုယင် ဘာမှလုပ်နိုင်မှာ မဟုတ်ဘူး၊ တခုရှိတကာ ဘာစီလိုးနားမြို့ကို အသွားမှာ... "

အဘိုးအို၏ အသံသည် ပို၍ တိုးသွားသည်။

"အဲ... အဲဒီကို အသွားလမ်းမှာ တစုံတခုတော့ ဖြစ်လာကောင်း ဖြစ်လာနိုင်တယ်လို့ တွက်ရမှာပဲကွ၊ ငါတို့ အနေ နဲ့ သိပ်ပြီး မျှော်လင့်ချက် ထားလို့တော့ မဖြစ်ဘူးပေါ့ကွာ၊ ဒါပေမယ့် မျှော်လင့်တာကတော့ မျှော်လင့် ရမှာပဲ၊ တကယ်လို့ ငါတို့တွက်ထားတဲ့အတိုင်း အောင်မြင်မယ်ဆိုယင်တော့ ဂျူစီဟာ ဟို တောင်တန်း တွေဘက် ထွက်ပြေးမှာပဲ၊ မင်းနဲ့သူနဲ့ ငါးသွားမျှားခဲ့တဲ့

http://www.shwezinu.com/

ဂျုံစက်ဟောင်းကြီးကိုပဲ ခိုရမှာ၊ အဲဒီနေရာမှတော့ ရက်ပေါင်း အတော်ကြာကြာ ခိုနေနိုင်မှာပေါ့၊ ပြဿနာပြီးပြတ်သွားတဲ့ အချိန် အထိပေါ့ကွာ"

နီကိုလတ်စ်၏ ရင်သည် လှုပ်ရှားလာသည်။ သူ့မျက်နှာသည် ဂင်းလက်လာသည်။ သူ့မျက်နှာသည် ဂင်းလက်လာသည်။ မြစ်ကမ်းဘေးမှ ဂျုံစက်ဟောင်းကြီး ....။ ဂျိုစီလုံလုံခြုံခြုံ ပုန်းနေနိုင်မည့် နေရာ....။ ထိုနေရာသည် အကောင်းဆုံးနေရာ.....။ သူလည်း ဂျိုစီကိုသွား၍ တွေ့နိုင်မည်။ သူ့အတွေးနှင့်သူ များစွာ အားရနေသဖြင့် ရုတ်တရက် စကားပြန်မပြောနိုင်။ သူသည်မလှုပ်မယှက် ရပ်ကာပက်ဒရို၏ မျက်နှာကို ငေးမောကြည့်နေသည်။ အတန်ကြာမှ အဘိုးအို၏ လက်ကိုဂင်းသာအားရ လှမ်းဆွဲသည်။

"ဟုတ်တယ်.... ဟုတ်တယ် ...၊ သူ့ကိုပြောပါ၊ သူ့ကိုဆက်ဆက်ပြောပါ၊ အဲဒီအတိုင်း မလုပ်လို့မဖြစ်ဘူး၊ လုပ်ကိုလုပ်မှ ဖြစ်မှာလို့ပြောပါ" ဟု အားတက်သရော ပြောသည်။

စောစောက ပင်ပန်းနွမ်းနယ်မှု ဟူသမျှကို မေ့သွားသည်။ နီကိုလက်စ်သည် လာလမ်းအတိုင်း ပြန်လှည့်ကာ အိမ်သို့ ဒုန်းစိုင်း၍ ပြေးသည်။ ထိုကဲ့သို့ ပြန်ပြေးမိခြင်းသည်ပင်လျှင် သူ့အတွက် ကံကောင်းသည်ဟု ဆိုရမည်။ ရုံးပြန် နောက်ကျနေသော သူ့အဖေအလျင် အိမ်ပြန် ရောက်သည်။ ဂရေစီယာတယောက်လည်း အိမ်ပြန် ရောက်နေပြီ ဖြစ်၏။ တခဏတော့ဖြင့် သူသည် ကြောက်လန့် နေဆဲ.....။ သူ့အဖေက

http://www.shwezinu.com/



သူ့အား ယနေ့ နေ့ခင်းပိုင်း ဘာလုပ်နေသလဲဟုများ မေးလေမလား.....။ တကယ်၍ မေးခဲ့ပါမူ...။ သို့သော်လည်း သူ့အဖေကမမေး။ သူ့အဖေသည် အလွန် နှုတ်ဆိတ်လျက် ရှိ၏။ သူ့အဖေ၏မျက်နှာသည် တစုံတခုကို တွေးနေသည့်ဟန် ရှိသည်။ ညစာစားကြသည့် အချိန်တွင်လည်း သူ့အဖေသည် စကားတခွန်းတလေမျှပင် ပြောဖော်မရ။ နီကိုလတ်စ်အဖို့တော့ ဤနည်းဖြင့် အသည်းရှူးပေါက် ချောင်ခဲ့ရလေ၏။

လွန်ခဲ့သော အပတ်တွင်းကမူ ဘရင်းဒီးသည် သူ့သားအားမေးထူးခေါ်ပြောလောက်တော့ ဆက်ဆံခဲ့သည်။ သူ့သားကိုချစ်သောစိတ်ကြောင့် ပစ်ပစ်ခါခါတော့ မပြုနိုင်ခဲ့။ တခါတရံတွင်မူ သူ့သားအား ယခင်ကလိုပင် တယုတယ ပိုက်တွေး၍ နေလိုသောဆန္ဒရှိခဲ့ပါ၏၊ သို့သော်သူ့မာနနှင့် နာကျည်းမှုများက ထိုဆန္ဒအတိုင်း မလုပ်မိအောင် တားမြစ်ပိတ်ပင်ထားခဲ့သည်။ အကယ်၍ ဆန္ဒရှိ သည့်အတိုင်းပြုခဲ့ပါမူ သူ့သားရောင့် တက်လာမည် ကိုလည်း စိုးရိမ်သည်။

ဤသို့ဖြင့် သူသည်သူ့သား အားဖက်လှဲတကင်း သိပ်မလုပ်ပဲ ခပ်တန်းတန်း လုပ်ထားခဲ့သည်။ သူ့သား နောင်တ ရလာအောင်၊ သူ့အပေါ် ပြန်၍ လေးစားလာအောင် စောင့်နေပြီးမှ ယခင်ကပုံစံမျိုး ပြန်လည် တည်ဆောက်မည်ဟု ပိုင်းဖြတ်ထားခဲ့၏။

http://www.shwezinu.com/



မည်သို့ပင် ဖြစ်စေ တနေ့ညတော့ဖြင့် နောက်ထပ်ပေါ်ပေါက်လာသော ပြဿနာ အသစ်တခုသည် သူ့စိတ်ကို များစွာ အနှောင့်အယှက် ပြုနေဟန်တူ၏၊ ထုံးစံအတိုင်း နီကိုလတ်စ်အား နှုတ်ဆက်စကား ဆိုပြီးသော် နောက်ထပ်စကား တခွန်းမှ မပြောတော့ချေ၊ သူ့အဖေကို ကြည့်ရသည်မှာ ထူးထူးဆန်းဆန်း။ ဂရေစီယာ အပေါ်တွင် စိတ်ဝင်စားနေဟန် တူ၏။ သူ့အဖေသည် ဂရေစီယာ လှုပ်ရှားမှုမှန်သမျှကိုသာ မျက်ခြည်မပြတ် လိုက်၍ ကြည့်လျက် ရှိသည်။ ဂရေစီယာသည် သူတို့အတွက် လိုအပ်သမျှကို လုပ်ပေး လျက်ရှိသည်။ သူ့အဖေသည် အကြောင်းထူး မရှိပါက ညနေစာစားနေခိုက်တွင် အခိုင်းအစေများနှင့် စကား ပြောတက်သော အလေ့အထမရှိ။ အခုကျတော့ နောက်တကြိမ် ဂရေစီယာအခန်းထဲ ပြန်ဝင်အလာတွင် ဖြတ်ကနဲ လှမ်းမေးသည်။

"ပါမောက္ခပေးလီးဗီးရဲ့ ရထားထွက်ချိန်အထိ မင်းစောင့်ခဲ့ရဲ့လား"

"စောင်ခဲ့ပါတယ်ဆီညော်"

"သူ့ရထားက အချိန်ကောမှန်ရဲ့လား"

"ဒီရထားတွေ အချိန်မမှန်တာ ရှိခဲ့ဖူးပါသလား ဆီညော်" ဟု ဂရေစီယာက ဖြေသည်။ သူ့လေသံနှင့် ဟန်အမူအရာများမှာ မခန့်တရန့် နိုင်သလို ရှိနေသည်။

"မကြားတော့ မကြားခဲ့ဖူးပါဘူး"

http://www.shwezinu.com/

ဘရန်းဒီးမျက်နှာ တချက်ပျက်သွားသည်။ သူသည်ဂရေစီယာ၏ အပြုအမူကို ဝေခွဲ၍ မရသော မျက်နှာထားဖြင့် ငေးကြည့်နေသည်။

"ရထားပေါ် ကောင်းကောင်းမွန်မွန် ပါသွားတယ် မဟုတ် လား"

"သံသယရှိစရာ မလိုသလောက်ပါပဲ ဆီညော်၊ ကျွန်တော့်ဘက်က တာဝန်ပျက်ကွက်မှု ရှိမယ်လို့ ကော ထင် နေပါသလား ခင်ဗျား၊ ဆယ့်တနာရီတိတိမှာ မီးရထားထွက်ပါတယ်"

သူ့အဖေနှင့် ဂရေစီယာတို့ အပြန်အလှန် ပြောဆိုနေကြသည့် အသံများမှာ နီကိုလတ်စ်၏ နားထဲ တွင် အထူးအဆန်း ဖြစ်နေသည်။ မည်သည့်အဓိပ္ပာယ်ဆောင်နေမှန်း နားမလည်သော်လည်း စိတ်ထဲက စနိုး စနောင့် ဖြစ်လျက် ရှိသည်။ နောက်ဆုံးတွင် သူ့အဖေက သူ့ဘက်ကို လှည့်၍ ခေါင်း တချက်ဆတ်ပြသည်။ သူ့အား သွားချင်သွားတော့ ဟု ခွင့်ပြုခြင်း ပေတည်း။

နီကိုလတ်စ်သည် ချက်ချင်းပင် ထိုင်ရာမှထကာ သူ့အခန်းသို့ တက်လာခဲ့သည်။ အဂတ်အစား လဲနေခိုက်တွင် သူနှင့်အဘိုး ပက်ဒရိုတို့ ပြောခဲ့ကြသည့် စကားများသည် သူ့ခေါင်းထဲသို့ နောက်တကျော့ ပြန်ဝင် လာသည်။

အောက်ထပ်တွင်မူ ကောင်စစ်ဝန်သည် အခုအထိ ညစာစားပွဲမှ မထသေး။ သူသည် ဖန်ခွက်တလုံးကို လက်နစ်ဘက်ဖြင့်ကိုင်၍ လှည့်နေရင်းက

http://www.shwezinu.com/

တစုံတခုသောကိစ္စကို အလေးအနက်ဆင်ခြင်စဉ်းစား နေဟန်ရှိ၏။ သူ့ မျက်နှာထားသည် မငြေခွဲနိုင်ခြင်းကို ဖော်ပြနေသည်။ ထမင်းစား စားပွဲကို သိမ်းဆည်းလိုသော ဂရေစီယာ သည် အခန်းထို့ နှစ်ကြိမ်တိတိ ဝင်လာပြီး သူ့သခင်၏ အရိပ်အခြည်ကို ကြည့်သည်။ ကောင်စစ်ဝန် ကတော့ထိုင်ဆဲ...။ တတိယအကြိမ် ဂရေစီယာ ဝင်လာ သောအခါ ကောင်စစ်ဝန်က ခေါင်းထောင် ၍ ကြည့်သည်။

' ဂရေစီယာ '

' ဟုတ်ကဲ့ပါ ဆီညော် '

မျက်ခုံးနှစ်ဘက်ကို ပင့်၍ကြည့်လိုက်သော ဂရေစီယာ၏ အကြည့်မှာ ဟန်ပါ လွန်းလှ၏။ ကောင်စစ် ဝန်၏မျက်လုံးများနှင့် ယှဉ်ပြိုင်ကြည့်နေသော သူ့မျက်လုံးအစုံမှာ အရောင်အဆင်း ကင်းမဲ့လျက်ရှိသည်။ လူမဆန် သော အကြည့်မျိုးဖြစ်သဖြင့် ဘရန်းဒီး ကိုယ်တိုင်ပင်လျှင် နောက်တွန့်သွားသည်။ ဂရေစီယာ၏ ဤအကြည့်မျိုး ကို သူ အလျင်ကမမြင်ဖူးခဲ့။

အခုတကြိမ်သည် ပထမဆုံးမြင်တွေ့ရခြင်းဖြစ်သည်။ ယခင်က တင်ထားသော ဟန်ဆောင်မျက်နှာဖုံးသည် ကွာကျ သွားပြီထင်၏။ အခု သူမြင်နေရသည့် ဂရေစီယာ မျက်နှာထားမှာ သူ့အား ပြောင်ချင်သလိုလို၊ သရော်ချင် သလိုလို...။ ပြီးတော့မခန့်တရန့် မထီမဲ့မြင်...။ သူ့သား နီကိုလတ်စ် ကြောက်ရွံ့ခဲ့ခြင်းသည် ဤ အကြည့်မျိုးဖြစ် ကောင်းဖြစ်ပေလိမ့်မည်။

http://www.shwezinu.com/


သူ့သားပြောပြခဲ့သော စကားများသည် မှန်များ မှန်လေမလား…။ ဘရန်းဒီး ၏ ရင်ထဲတွင် သံသယ ဖြစ်လာသည်။ သင်္ကာရန့်မကင်းမှုများ ပေါက်ဖွား လာသည်။

' ဒီမယ် … ဂရေစီယာ' ဟု ကောင်စစ်ဝန်က ထပ်မံအသံပြုသည်။

' ငါ မင်းနဲ့ စကားပြောချင်တယ် '

ဂရေစီယာက ခေါင်းတချက်ညွတ်လိုက်သည်။ သို့သော်လည်း တခုတကြိမ် သူ့ဦးခေါင်းညွတ်ပုံမှာ လိုတာထက် ပိုနေသည်။ တမင်သက်သက် အရွဲ့တိုက်၍ လုပ်နေမှန်း သိသာထင်ရှားနေ၏။ ဘရန်းဒီးသည် အံကို ကိုက်ခါ ဂရေစီယာအားကြည့်သည်။

' မင်း ဒီကို ဘယ်အချိန် ပြန်ရောက်သလဲ '

' ငါးနာရီ ရောက်ပါတယ်… ဆီညော် '

' ပါမောက္ခ ပေားလီးဗီးရဲ့ မီးရထားထွက်တာက ဆယ့်တနာရီလို့ မင်းပြောတယ်၊ ဘာစီလိုးနားက ဒီကို မော်တော်ကား နဲ့ လာရင် နှစ်နာရီပဲ ကြာတယ်၊ ပြန်ရောက်သင့်တဲ့ အချိန်ဟာ တနာရီ၊ အဲဒီတော့…'

ဂရေစီယာက မျက်ခုံးများကို ပင့်လိုက်ပြန်သည်။

http://www.shwezinu.com/

'လူတယောက်ဟာ အစာတော့ စားရပါတယ် ဆီညော်' ဟု အောက်ကလီ အာသံဖြင့် ပြန်ဖြေသည်။

'ကျွန်တော့် အဖို့ ဈေးနှုန်း ချိုချိုသာသာနဲ့ စားသောက်ကောင်းမယ့် အစားအသောက် မျိုးကို ရှာဖွေပြီး စားဖို့ လိုပါတယ် ခင်ဗျာ '

'ဩော် ... ဒီလိုဆိုတော့ စားသောက်ကောင်းမယ့် အစားအစာတမျိုး စားရဖို့အတွက် အချိန် လေးနာရီ တိတိ တောင် ဖြုန်းခဲ့တယ်ဆိုပါတော့ '

'အလျင်စလို လုပ်စရာ ဘာမှမရှိဘူးလို့ နားလည်ထားတဲ့အတွက် နေ့လယ်စာကို အေးအေးဆေးဆေး အချိန် ယူပြီး စားသောက်နေပါတယ် ဆီညော် '

'နေ့လယ်စာ အေးအေးဆေးဆေး စားရင်းနဲ့ အရက်ပါ သောက်ခဲ့တယ် ဆိုပါတော့ ဟုတ်လား'

' ဆီညော် ... ခင်ဗျား '

'ငါ မင်းကို စောစောကတည်းက စောင့်ကြည့်နေခဲ့တယ်၊ မင်း အရက်သောက်ထားတယ်ဆိုတာ ငါ သိတယ် '

ဂရေစီယာ၏ နှုတ်ခမ်းများ မဲ့သွားသည်။ ဒေါသ အရိပ်အငွေ့သည် သူ့မျက်နှာတင် ဖြတ်ကနဲ ပေါ်လာသည်။ ထို့နောက် သူ့မျက်လုံးများသည် ဂင်းဂင်းတောက်လာသည်။

http://www.shwezinu.com/



'ကျွန်တော်ဟာ လူသားတယောက်ဖြစ်ပါတယ် ဆီဗျော်၊ အခွင့်အရေးပေါ်လာရင် ယူရပါလိမ့်မယ်... ခင်ဗျာ၊ ပွင့်ပွင့်လင်းလင်း ပြောရမယ်ဆိုရင် ကျွန်တော်ဟာ ပိုင်အကောင်းစားကို အင်မတန် ကြိုက်တတ်ပါတယ်။

ကျွန်တော် မက်ဒရစ်မြို့က အေအိုးစတား မိသားစုဆီမှာ အလုပ်လုပ်နေတုန်းကဆိုရင် ကျွန်တော်ဟာ စစ္စလီကျွန်း မာဆာလာမြို့က ထုတ်လုပ်တဲ့ အကောင်းဆုံး မာဆာလာပိုင်ကို သောက်ခဲ့ပါတယ်၊ အင်မတန်မှ အနံ့ အရသာနဲ့ပြည့်စုံပြီး ချိုမြတဲ့ ပိုင်ပါခင်ဗျာ '

ကောင်စစ်ဝန်သည် သူ့နှုတ်ခမ်းကို ဖိကိုက်ထားသည်။

'မင်းဟာ ... အေအိုးစတား မိသားစုအကြောင်းကို သိပ်ပြောတယ်၊ မင်း ဘယ်အချိန်က သူတို့ဆီမှာ အလုပ် လုပ်ခဲ့ဖူးတာလဲ '

' တချိန်ကပေါ့ '

ဂရေစီယာက ဂရုမစိုက်သည့်လေသံဖြင့် ပြန်ဖြေသည်။

' ဘယ်တုန်းကလဲ' ဟု ကောင်စစ်ဝန်က ထပ်မေးပြန်သည်။

ဂရေစီယာ မျက်လုံးအစုံတွင် အပြောင်းအလဲ ရှိလာသည်။ တလက်လက် တောက်ပနေရာမှ ချက်ချင်းပင် မှုန်မှိုင်း သွားသည်။ ခဏအတွင်းမှာပင် ပြန်၍ အရောင်ထွက်လာပြန်သည်။

http://www.shwezinu.com/

'ကျွန်တော့် စာရွက်စာတမ်းတွေထဲမှာရှိပါတယ် ဆီညော်၊ အားလုံး အပြည့်အစုံ ရှိနေပါတယ်'

' ထားလိုက်ပါတော့' ဟု ကောင်စစ်ဝန်က ပြန်ပြောပြီး ငြိမ်နေသည်။

'မင်း ... ရှော့ဒရီးဂိုးအီစပန်တာရိုး ဆိုတဲ့ လူတယောက်အကြောင်း ကြားဖူးသလား '

ဂရေစီယာ၏ မျက်လုံးများတွင် ဖြတ်ကနဲ အရောင်တောက် လာပြန်သည်။ မျက်တောင်များကို ပုတ်ခတ် ပုတ်ခတ် လုပ်လျက်ရှိ၏။ သူ့တကိုယ်လုံး တောင့်တင်းသွားဟန်တော့ပြသည်။ သူ့အသံသည် အေးစက် တင်းမာ လျက်ရှိ၏။

' ကျွန်တော်က သူ့အကြောင်းကို ဘာကြောင့် ကြားဖူးရမှာလဲ ဆီညော်၊ သူက ဘယ်သူလဲ ခင်ဗျာ'

' ရာဇဝတ်ကောင် တကောင်ပေါ့ကွာ' ဟု ဘရန်းဒီးက ဖြေသည်။

' မက်ဒရစ်ရဲက အလိုရှိနေတဲ့ ရာဇဝတ် ကောင်ပေါ့'

အခန်းထဲတွင် ငြိမ်ဆိတ်သွားသည်။ ဂရေစီယာ၏ မျက်နှာသည် ရဲကနဲ ဖြစ်သွားသည်။ သူ့နှာခေါင်း နှင့် ပါးနှစ်ဘက် တွင် ပန်းရောင်သမ်းလာသည်။ ချက်ချင်းပင် သူ့ပါးစပ်မှ ကျယ်လောင်စူးရှသောအသံ ထွက်ပေါ် လာလေသည်။

http://www.shwezinu.com/



'ကျွန်တော့်စိတ်ထဲမှာ အစော်ကားခံရတယ်လို့ ခံစားနေရပါတယ် ဆီညော်၊ ကျွန်တော်ဟာ အခုလို ထိကပါး ရိကပါး လုပ်ပြီး စောင်းချိတ်ပြောတာမျိုးကို ခံတတ်တဲ့လူစားမဟုတ်ဘူးခင်ဗျ၊ အခုကိစ္စမှာ ရန်သူ ဖြစ်သွား အောင် လုပ်လိုက်ရင် ကျွန်တော့်အပြစ်လို့ စွပ်စွဲမှာလား၊ ဒီလို ပုန်းလျှိုးကွယ်လျှိုးလုပ် ပြီး သောက်ရေး လုပ်တဲ့ ကောင်စား မဟုတ်ဘူးခင်ဗျ'

သူသည် စကားကိုဖြတ်၍ ရပ်ထားလိုက်သည်။ ပြီးမှ စူးရှ ကျယ်လောင်သော အသံဖြင့် အော်ပြော သည်။

'အဲဒီလို ကောင်စားမျိုးတွေကို ကျုပ်က ရွံ့ရှာစက်ဆုပ်လွန်းလို့ တံတွေးထွေးလာတဲ့ အကောင်ဗျ၊ နားလည် လား '

' တိုးတိုးပြောဟေ့ ... ဂရေစီယာ '

ဘရန်းဒီးက သူ့ရင်ထဲ၌ ဖြစ်ပေါ်လာသော ကြောက်လန့်စိတ်ကို ဖုံးကွယ်ထားပြီး တင်းမာသောအသံ ဖြင့် ဟန့်တား သည်။

'အခုလို အတွန်းအတိုက်မျိုး ခံရပေါင်းများလှပါပြီ ဆီညော်' ဟု ဂရေစီယာက အော်ကြီးဟစ်ကျယ် ပြောသည်။

'ကျွန်တော်ဟာ အလွန်ထူးခြားတဲ့ လူတယောက်ပါ ခင်ဗျ၊ လမ်းပေါ်မှာ လျှောက်သွား နေကြတဲ့ လူတွေက ကျွန်တော့်ကို မြင်ရင် ရုပ်တော်တော် ကောင်းတဲ့ ငနဲပါလား...၊ ဆွေကြီး မျိုးကြီး ကလာတဲ့ ကောင်နဲ့ တူတယ်လို့

http://www.shwezinu.com/



ပြောလေ့ရှိကြပါတယ်၊ ကျွန်တော်က ဒါတွေကို ဂရုမစိုက်ပါဘူး...၊ ဘဂင်လဲ မမြင့် ပါဘူး...။

ဒါပေမယ့်... သူများနဲ့မတူတဲ့ ထူးခြားမှုကြောင့် ကျွန်တော့်ကို မနာလိုစိတ်ဖြစ်လာကြတာကတော့ မကောင်းဘူးလို့ ထင်ပါတယ်၊ ဒါကိုတော့ အဆုံးသတ်သွားအောင် လုပ်ပစ်ဖို့ လိုပါတယ်၊ ဒီလိုမှ မတုံ့ပြန်ရင်လည်း ဘဂကို တည့်ဆောက်လို့ ရနိုင်ပါတော့မလား၊ ဆီညော်ပဲ စဉ်း စားကြည့်ပါ၊ သူတို့ဆီက ဘာတခု မှပြန်မရပဲ ကိုယ်ကချည်း ပေးနေရမယ်ဆိုရင် ဖြစ်နိုင်ပါ့မလား...၊ အဓိပ္ပာယ်ကင်းမဲ့တဲ့ အနစ်နာ ခံမှုမျိုးကိုတော့ ကျွန်တော် ဘယ်တော့မှ မလုပ်ဘူး '

' ဒါပေ့ါကွာ ... မင်းပြောတာလဲ မှန်ပါတယ် '

ဘရန်းဒီး ထိုင်ရာမှထသည်။ ဂရေစီယာ၏ မျက်လုံးအစုံသည် မှေးမှိန်သွားသည်။ သူ့ ကိုယ်ခန္ဓာသည် မသိမသာကလေး တုန်ရင်လှုပ်ရှားလာသည်။ သူသည် အသက်ကိုပြင်းစွာရှူရှိုက်လျက်ရှိ၏။ သူ့နှုတ်ခမ်းများ ပတ်ပတ်လည်တွင် ပေကျံနေသည့် တံတွေးစများကို သူ့လက်ခုံဖြင့် သုတ်လိုက် သည်။ ခဏမျှ ကြာသောအခါ ရီဝေသောမျက်လုံးများဖြင့် ကောင်စစ်ဝန်အား မော့်ကြည့်သည်။ အခုကျ တော့လည်း တည်တည် ငြိမ်ငြိမ် ပြန်ဖြစ်လာသည်။

http://www.shwezinu.com/

'ကျွန်တော့်ကို ပျက်စီးစေလိုတဲ့ဆန္ဒနဲ့တစုံတဦးက ချောက်တွန်းတယ်ဆိုတာ ထင်ရှားနေပါတယ် ဆီညော်၊ ဒါပေမယ့် ကျွန်တော့်ဘက်က ကျေနပ်လောက်အောင် ရှင်းနိုင်တာချည်းပါပဲ၊ ကျွန်တော် ပြောတာ မမှန်ဘူးလားခင်ဗျာ '

' အင်း... မှန်ပါတယ် ' ဟု ကောင်စစ်ဂန်က ရေရွက်သည်။

'ဂန်မင်း ကျေနပ်တယ်ဆိုရင် ကျွန်တော် ဂမ်းသာပါတယ်ခင်ဗျာ၊ အခုကိစ္စကိုလည်း ခေါင်းထဲမှာ ကြာရှည် ထားမနေစေချင်ပါဘူး၊ ဂန်မင်းရဲ့ အိမ်ထဲမှာ ခေါင်းရှုပ်စရာတွေ အများကြီး ရှိနေပါတယ်'

ငြိမ်ဆိတ်နေပြန်သည်။ ဘရန်းဒီးသည် လက်ချောင်းကလေးများဖြင့် စားပွဲကို တဒေါက်ဒေါက် ခေါက်နေ သည်။ တိတိကျကျပြောရလျှင် သူ့စိတ်ထဲ၌ ကျေနပ်ခြင်းမရှိ၊ တစုံတခုလိုနေသည့်နှယ် ခံစားနေရ၏။ သို့သော်လည်း သူ့စိတ်က ဤကိစ္စနှင့်ပတ်သက်၍ ထပ်ပြီး မေးလိုမြန်းလိုစိတ်မရှိ။

'အခု ငါပြောတာ မမှန်ဘူးလို့ မင်းဘက်က အာမခံနိုင်ပါ့မလား' ဟု မေးသည်။

'လုံးဝ တာဝန်ယူပါတယ် ဆီညော်၊ စိတ်ကို အေးအေးထားပြီး စိတ်ချလက်ချ နေစေချင်ပါတယ်...၊ ကျွန်တော် နောက်ထပ် မက်ဒရစ်မြို့က ထောက်ခံစာတွေ ရလာပါလိမ့်ဦးမယ်၊ မကြာခင်မှာ ဂန်မင်းယုံကြည် စိတ်ချလောက်တဲ့ အထောက်အထားတွေကို ကျွန်တော်ပြနိုင်မှာပါ '

http://www.shwezinu.com/

ဂရေစီယာက စီးကရက်လာသည်အထိ ပြုံး၍ ပြောသည်။

' ကျွန်တော် အခု ညစာစားပွဲကို သိမ်းနိုင်ပါပြီလား ဆီ ညော် '

' အေး ... သိမ်းတော့ ...' ဟု ဘရန်းဒီးက ပြောသည်။

' ငါပြီးပါပြီ ' ဟုလည်း ရေရွတ်သည်။

သူသည် ထမင်းစားခန်းမှထွက်ကာ လှေကားကို တက်သည်။ လှေကားထိပ်ရောက်သော် ခဏမျှ ရပ်နေမိ၏။ ထို့နောက် သူ့အခန်းတွင်းသို့ ဝင်သည်။ သူသည် အခန်းအလယ်တွင် ရပ်ကာ တွေဝေ ငေးမောနေပြန်သည်။ ဤ ကိစ္စမှာ ဤမျှနှင့် လုံလောက်ပြီဟု သူတွေးမိသည်။ သူ၏ စွပ်စွဲချက်ကို ဂရေစီယာက ငြင်း၏။ သူ့ဘက်ကတော့ သူ တာဝန်ရှိသလောက် လုပ်ခဲ့ပြီးပြီဟု တွက်လို့ရ၏။ သူသည် စွပ်စွဲချက်ကို ပွင့်ပွင့်လင်းလင်းပင် ဂရေစီယာအား ပြောပြသည်။ ဟုတ်မဟုတ် မှန်မမှန် မေးသည်။ လိုအပ်သည့်အတိုင်း ထပ်မံ အတည်ပြုခဲ့ပြီးပြီ။ သို့ဆိုလျှင် နောက်ထပ်လုပ်စရာ ဘာကျန်ပါ သေးသနည်း။

သို့တစေလည်း ရဲက အလိုရှိနေသည့် ရာဇဝတ်ကောင်သည် ဂရေစီယာပင် ဖြစ်လိမ့်မည်ဟူသော သံသယစိတ် သည် သူ့ရင်ထဲတွင် ကျိတ်၍ ဖြစ်ပေါ်လျက်ရှိသည်။ သူမေးမြန်းစဉ်က ဂရေစီယာ၏ အပြုအမူ နှင့် အပြောအဆိုများသည် အလွန်ထူးဆန်းသည်ဟု သူထင်သည်။ ထိုအပြုအမူများကို 'မတည်ငြိမ်သော အပြုအမူများ သို့မဟုတ်

http://www.shwezinu.com/

စိတ်မချရသောအပြုအမူများ' ဟု အမည်ပေးရမည်ထင်၏။ နောက်ဆုံး သူ့ကိုပြလိုက်သည့် အပြုံးသည်ပင် ရိုးသားဖြူစင်သည်ဟု မပြောနိုင်။ ကောက်ကျစ် စဉ်းလဲသော အပြုံး ဟုပင် သူထင်သည်။

ဘရန်းဒီး၏ ခေါင်းသည် နောက်ကျိလာသည်။ သူ့အဖြစ်မှာ ရှေ့ကိုလည်း မတိုးသာ။ နောက်ကိုလည်း ဆုတ်မရ ဖြစ်နေသည့် တောင်တက်သမား တယောက်နှင့် တူနေသည်ဟု ထင်၏။ သို့သော်လည်း သူ့အခြေအနေ မှာ နောက်ဆုတ်လို့တော့ ဘယ်နည်းနှင့်မှမဖြစ်။ အခု သူရောက်နေ သော နေရာသည် နောက်ကို လွယ်လွယ်နှင့် ပြန်၍ ဆုတ်မရသည့် နေရာမျိုးဖြစ်နေပြီ။ လောလော ဆယ်တွင် သူသည် ဂျူစီ၏ အမှု ကိစ္စကို ပြီးပြတ်သွားအောင် ရင်ဆိုင်ရပေလိမ့်ဦးမည်။ ဤအချိန်မျိုး တွင် ဂရေစီယာ၏ ပြဿနာကို အလေးပေး လိုက်ပါမူ ဂျူစီအပြစ်ရရေးဟူသော သူ၏ အဓိက ရည်မှန်းချက်သည် တမျိုးတဖုံ ပြောင်းလဲ သွားဖွယ်ရာ ရှိ၏။

သို့ဖြစ်ရာ ဂရေစီယာ၏ ကိစ္စကို ဂျူစီ၏အမှု ပြီးပြတ်သွားချိန်အထိ ရွှေ့ဆိုင်း ထားတော့မည်ဟု ဆုံးဖြတ်သည်။ ရွှေ့ဆိုင်း၍ ရနိုင်သော အခြေအနေလည်း ရှိသည်ဟု သူ ယုံကြည်သည်။ ထိုကဲ့သို့ ယုံကြည်ခြင်းမှာလည်း အကြောင်းမဲ့တော့မဟုတ်။ ဂရေစီယာက နောက်ရက် အနည်းငယ်အတွင်း သူ၏ အကျင့်စာရိတ္တနှင့် ပတ်သက်၍ သက်သေခံ အထောက်အထားများ ထပ်မံ တင်ပြပါဦးမည်ဟု ကတိပေးထားသည်။ ထိုကတိ အတိုင်း လုပ်မလုပ်ကို သူ စောင့်ကြည့်ဖို့ လိုသည်။ အကယ်၍ သူ့စိတ်ထဲက

http://www.shwezinu.com/

ထင်နေသည့် အတိုင်း မှန်ကန် သည့် အခြေအနေပေါ်ပေါက်လာခဲ့ပါမူ ဂရေစီယာအား ချက်ချင်း အလုပ်မှ ဖြုတ်ပစ် နိုင်၏။

ဤသို့ဖြင့် တယူသန် တဇွတ်ထိုးသမား တဦးဖြစ်သော ဘရန်းဒီးသည် သူတွေးသင့်တွေးထိုက်သော အချက် တချက်ကို လုံးဝ မေ့နေသည်။ ထိုအချက်မှာ တခြား မဟုတ်ပေ။ အကယ်၍ သူ ကြားသိ ထားရသည့် အတိုင်း ဂရေစီယာသည် လူဆိုး ရာဇဝတ်ကောင်တယောက် ဖြစ်နေခဲ့ပါမူ ယခု အဖမ်း အဆီး အချုပ် အနှောင် ခံနေရသည့် ဂျိုစီသည် အပြစ်ကင်းမဲ့သူတဦးဖြစ်နိုင်စရာ ရှိသည်ဟူသော အချက် ပေတည်း။

အာဃာတကို အခြေခံထားသော ဘရန်းဒီးသည် ထိုအချက်ကို လုံးဝ မစဉ်းစား မိ။ သူသည် အကျိုးနှင့် အကြောင်း ကို ဆက်စပ်တွေးခေါ်ဖို့ လုံးဝ သတိမရ။ သူ့အဖို့တော့ လောလောဆယ် ရင်ဆိုင်နေရသည့် ပြဿနာ သည် ပြီးပြတ်သွားပြီ။ နောက်ဆုံး ဆုံးဖြတ်ချက်ကို လည်း ချမှတ်ပြီးပြီ။ သို့ဖြစ်ရာ မကြာခင် ဆိုက်ရောက် လာတော့မည့် အခြေအနေကို စောင့်ဆိုင်း မျှော်လင့်ရန်သာ ရှိတော့၏။

***************

http://www.shwezinu.com/



## အခန်း (၂၀)

ဗုဒ္ဓဟူးနေ့သို့ ဆိုက်ရောက်လာခဲ့လေပြီ။ ရာသီဥတုသည် စိုစွတ် ထိုင်းမှိုင်း လျက်ရှိ၏။ ရီဝေဝေအုံ့ဆိုင်းနေသော မိုးကောင်းကင်ထက်ဆီမှ ဖျော့တော့သော နေရောင်ခြည်သည် ပတ်ဂန်းကျင် တခွင်လုံး ကို ငြိမ်သက်စွာဖြင့် ပက်ဖျန်းပေးလျက် ရှိသည်။ မြို့ဘက်ဆီမှ တဂီဂီ မြည်သံများသည် ကာဆာဘာရီဇာ အိမ်ကြီးဆီသို့ မကြာမကြာ ရောက်လာတတ်၏။ ဤကြားထဲမှပင် အိမ်ကြီးသည် ထူးထူး ခြားခြား တိတ်ဆိတ်ခြောက်သွေ့လျက် ရှိလေသည်။

အပြင်လောကရှိ ရာသီဥတု အခြေအနေနှင့် ကောင်စစ်ဂန်၏ စိတ်သည် အပြိုင်အဆိုင် ဖြစ်လျက် ရှိလေသည်။ ယနေ့ နံနက် အိမ်ရာမှ နိုးလာကတည်းက ဘရန်းဒီး၏ စိတ်သည် သာယာကြည်လင်ခြင်း ကင်းမဲ့ လျက်ရှိသည်။ သူ ရင်ဆိုင်နေရသော ပြဿနာများနှင့် ပတ်သက်၍ မည်ကဲ့သို့ ဆက်လက် ဆောင်ရွက် မည်ကို လွန်ခဲ့သော နှစ်ရက်ကပင် ဆုံးဖြတ်ပြီးခဲ့ပြီး ဖြစ်၏။ ဆုံးဖြတ်ပြီးသော ကိစ္စတခုနှင့် ပတ်သက် လာလျှင် သူသည် နောက်ကြောင်းပြန်၍ စဉ်းစားသော အလေ့အထရှိသူ မဟုတ်ပေ။ သူ့အနေဖြင့် ဆုံးဖြတ်ထားသည့် အတိုင်းသာ ဆက်လုပ်ရတော့မည် ဖြစ်သည်။ သို့ဆိုလျှင် သူ့မှာဘာများ သောက ရောက်စရာ လိုပါတော့သနည်း....။ သို့သော်လည်း

http://www.shwezinu.com/


လွန်ခဲ့သော ရက်များအတွင်းမှစ၍ စွဲကပ်လာသော စိတ်ညစ် စိတ်ရှုပ်မှုသည် ယခုအချိန်ထိ မပျောက်သေး။

နံနက်စာ စားအပြီး ရုံးသို့မသွားမီ ဘရန်းဒီးသည် နီကိုလတ်စ်ကိုခေါ်၍ သူလုပ်စရာရှိသည့် ကိစ္စများကို နည်းလည်အောင် ရှင်းပြသည်။ နီကိုလတ်စ်ကလည်း သူ့အဖေပြောပြနေသမျှကို အေးဆေးစွာပင် နားထောင်သည်။ ကြားဖြတ်၍ ပြောချင်စိတ် မေးချင်စိတ် ရှိသော်လည်း မမေးပံ့။ နောက်ထပ် သူနှင့် သူ့အဖေ ကြားတွင် ပြဿနာ ထပ်ဖြစ်မည်ကို ကြောက်လျက်ရှိသည်။ သို့သော်လည်း သူ့အဖေ ကားနား သို့ ရောက်လာသည့် အခါတွင်မူ နီကိုလတ်စ်၏ စိတ်သည် လှုပ်ရှားလာသည်။ ပြောချင်သည့် စကားကို မပြောပဲ မနေနိုင် ဖြစ်လာသည်။ သူသည် တံခါးဝတွင် ရပ်နေရာမှ သူ့အဖေအား တချက်မော့ကြည့်ပြီး 'မသွား ပါနဲ့လား.... ဖေဖေ'ဟု မပံ့မရဲလေသံဖြင့် လှမ်းပြောသည်။

"မသွားလို့ မဖြစ်ဘူး နီကိုလတ်စ်"

နီကိုလတ်စ်ငြိမ်နေသည်။

"မသွားပါနဲ့ ဖေဖေရယ်၊ ဖေဖေသွားနေဖို့ မလိုပါဘူး၊ ဂျိုစီကိုပို့တာ သူတို့ဘာသာ သူတို့ ပို့လဲရမှာပါ၊ ဖေဖေ လိုက်ဖို့ လိုမယ်မထင်ပါဘူး' ဟု နီကိုလတ်စ်က ထပ်ပြောပြန်သည်။

http://www.shwezinu.com/



သို့သော်လည်း ထိုအချိန်တွင် ဘရန်းဒီးသည် မော်တော်ကားထဲ ရောက်နေလေပြီ။ ကားထဲမှနေ၍ ခေါင်းကို ဖြည်းညင်းစွာ ယမ်းပြသည်။ ပြီးတော့ လက်တဘက် မြှောက်၍ နှုတ်ဆက်သည်။ ထို့နောက်တော့ မော်တော်ကား သည် ထွက်သွားလေသည်။

ဘရန်းဒီးရုံးရောက်သည့်အခါ သူသွားရမည့် ခရီးအကြောင်းကို တွေးဖို့ အချိန်မရတော့။ အမေရိကန် နိုင်ငံ သို့ သွားရောက်နေထိုင်ရန် လျှောက်ထားသူများအား လူကိုယ်တိုင် တွေ့ဆုံး စစ်ဆေးခြင်း၊ ယင်းတို့ကို လျှောက်လွှာများကို စိစစ်၍ ထောက်ခံပေးခြင်း၊ ဆိပ်ကမ်းမှ ပြန်လည်ထွက်ခွာမည့် အမေရိကန်သင်္ဘောများ ချောချောမောမော ပြန်လည် ထွက်ခွာနိုင်ရေး အတွက် လိုအပ်သည့် ကိစ္စအဝဝကို စစ်ဆေး ရှင်းလင်း ပေးခြင်း စသည့်အလုပ်များဖြင့် မအားမလပ် ဖြစ်နေရလေ၏။

ထိုတာဝန်များ ပြီးစီးသွားပြန်တော့လည်း ပါရီမြို့မှ ထုတ်ဝေသူ တဦးထံမှ စာတစောင် ရေးရပြန်သည်။ ထုတ်ဝေသူ မှာ ပါမောက္ခ ဟေးလီးဗီးက အကြံပြု ထောက်ခံပေးခဲ့သူ ဖြစ်၍ သူ့စာမှ "မေးဘရန်းချီး" အပေါ်တွင် လိုလိုချင်ချင် ရှိလိမ့်မည်ဟု မျှော်လင့်ရပေသည်။ စာရေးရသည်မှာ ယခင်ကလို သွက်သွက် လက်လက်မရှိ။ သူ့ကလောင်တံသည် လေးကန် ဖင့်နွှဲလျက် ရှိ၏။ သူ့စိတ်သည် ထိုင်းမှိုင်းလျက် ရှိသည်။ ဘာပဲ ဖြစ်ဖြစ် လောလောဆယ် သူ့မှာ ကျေနပ်မှုကလေး တခုတော့ရှိပါ၏။ သူရေးသား ပြုစုနေသော စာမူသည်

http://www.shwezinu.com/

အပြီးသတ် သွားခဲ့ပြီဖြစ်ရာ ယခုဆိုလျှင် ထုတ်ဝေသူထံသို့ ပို့ဖို့အတွက် ထုပ်ပိုးပြီး သူ့အိမ်ခန်း ထဲတွင် အသင့်ရှိနေပေပြီ။

တနာရီ ထိုးသောအခါ ဆင်းဒဂစ်ပေါင်မုန့် တချပ်နှင့် ကော်ဖီတခွက်ကို နေ့လယ်စာအဖြစ် သူ့အခန်း ထဲမှာ၍ စားလိုက်သည်။ နောက်မိနစ်နှစ်ဆယ်ခန့် အကြာတွင်မူ သူသည် ဘူတာရုံဘက်သို့ ဦးတည်၍ လျှောက်သွား လျက် ရှိ၏။ မိုးပေါက်များ တဖွဲဖွဲကျစပြုလာလေပြီ။ မိုးရေစက်များသည် ညစ်ပတ် ပေရေ လျက် ရှိသော ပလက်ဖောင်းပေါ် ခပ်ပြင်းပြင်း ရိုက်ခတ်လျက် ရှိသည်။ ကောင်စစ်ဂန်သည် မိုးရေစို မည်ကိုပင် ဂရုမထားပဲ ဖြည်းဖြည်းမှန်မှန်ပင် လျှောက်သွားသည်။ သူ့စိတ်အာရုံသည် ဂရေစီယာထံသို့ ရောက်လျက် ရှိသည်။ သူမေးမြန်းစုံစမ်းစဉ် အခါက ဂရေစီယာ ပြမူခဲ့သော ရှန့်ရင်းရိုင်းစိုင်းမှုများသည် သူ့မျက်စိထဲမှ မထွက်။

ဘူတာထဲတွင် ပက်ဒရို၊ ဂျိုစီနှင့် အစောင့်ရဲတို့ ရောက်နေကြပေပြီ။ သူတို့သုံးယောက်သည် ဘူတာ ပလက်ဖောင်း ဘေးတွင် ရပ်ကာ မိုးခိုလျက်ရှိကြ၏။ ကောင်စစ်ဂန်သည် သူတို့သုံးယောက်အား စူးစူးဝါးဝါး ကြည့်သည်။ အထူးသဖြင့် အလွန်အမင်း ပိန်ချုံးသွားသော ဂျိုစီကို ကြည့်ကာ အံ့အားသင့်လျက်ရှိသည်။ ဂျိုစီ၏ အသားအရေမှာ သွေးမရှိတော့သည့်နယ် ဖြူရော်ရော် ဖါဖန့်ဖန့် ဖြစ်လျက်ရှိသည်။ အဂတ်အစား များမှာလည်း ဖရိုဖရဲနှင့် ညစ်ပတ်ပေရေလျက် ရှိ၏။ လက်ထိတ်တွဲ၍ ခတ်ထားသဖြင့် အစောင့်ရဲ၏ ဘေးတွင် ခက်ခက်ခဲခဲ ရပ်နေရသည်။ ဂျိုစီကို သူ

http://www.shwezinu.com/

မမြင်ခဲ့ရသည်မှာ တနင်္ဂနွေ တပတ်မျှသာ ရှိပေသေးသည်။ ဤတပတ်လောက် အတွင်း ဤမျှလောက် ရုပ်အသွင်အပြင် ပြောင်းသွားသည်မှာ သူ့အဖို့ အံ့သြဖွယ်ရာ ဖြစ်နေသည်။ ဂျူစီအပေါ်တွင် စက်ဆုပ်ရွံ့ရှာသော စိတ်မှာ ယခင်ကလောက် ပြင်းထန်ခြင်း မရှိတော့ပေ။ ထို့ကြောင့်လည်း သူ့စိတ်သည် အေးဆေးတည်ငြိမ်လျက် ရှိသည်။ ယခု သူလုပ်ကိုင်နေပုံမှာ မလုပ် မဖြစ်၍ လုပ်နေရသည့် ပုံမျိုးဖြစ်သည်။

ဘရန်းဒီးသည် မီးရထား လက်မှတ်သွားဂယ်ပြီး သူတို့ လူစုဆီသို့ လျှောက်လာခဲ့သည်။ ပက်ဒရိုနှင့် ဂျူစီတို့ကတော့ သူ့အကြည့်ကို ရင်ဆိုင်ခြင်း မပြု။ တဘက်သို့ မျက်နှာလွှဲထား ကြသည်။ တရားခံစောင့် ရဲကသာ သူ့ကို မြင်မြင်ခြင်း အားနေသော လက်တဘက်ဖြင့် ဆီး၍ အလေးပြုသည်။

"စိတ်တိ စိုစွတ်နဲ့ နေရတာ မကောင်းဘူး"ဟု ဘရန်းဒီးက ပြောသည်။

"ဟုတ်တယ်...ဆီညော်'ဟု ရဲက အလိုက်သင့်ပြန်ဖြေသည်။ သူဖြေပုံမှာ တရိုတသေ တလေးတစား ရှိလှ၏။

ဘရန်းဒီး၏ မျက်လုံးမျှားသ်ည အရောင်တလက်လက် ထွက်နေသော လက်ထိတ်များပေါ် ရောက်သွား သည်။ သူသည် အတော်ကြာမျှ ငေးစိုက်ကြည့်နေသည်။ သူ့ရင်ထဲတွင် လက်ထိတ်ကို မနှစ်မြို့သော စိတ်ဖြစ် ပေါ်လာသည်။ ရုတ်တရက် သူ့ပါးစပ်မှ မေးခွန်းတခု ထွက်လာသည်။

"ဒါတွေ ခတ်ထားဖို့ လိုသလား"

http://www.shwezinu.com/

"ရထားပေါ် မရောက်ခင် လုံခြုံမှု ရှိအောင်လို့ ခတ်ထားပါဆီညော်"

ထို့နောက် ငြိမ်စိတ်သွားပြန်သည်။ ပလက်ဖောင်းခေါင်မိုး ပေါ်သို့ မိုးစက်များ ကျသံသည် မှန်မှန် ထွက်ပေါ် လျက်ရှိသည်။ ပလက်ဖောင်း အပြင်တွင် ရပ်နေကြသည့် လူအုပ်ဆီမှ တီးတိုး စကားပြောသံများကိုလည်း ကြားနေ ရသည်။ သူသည် နောက်သို့ လှည့်၍ လူအုပ်ကိုကြည့်မိသည်။ သူ့အား မနစ်မြို့သည့် လက္ခဏာ များဖြင့် ကြည့်နေကြသည့် မျက်နှာများ...။ သူ့အကြည့်ကို ချက်ချင်းပင် ပြန်၍ ရပ်သိမ်းလိုက်သည်။ ခဏမျှ အကြာ တွင် ပက်ဒရိုသည် သူ့မြေးအနားတွင် ရပ်နေရာမှ ထွက်ခွာသွားပြီး သတင်းစာတစောင် ဝယ်သည်။ ပြန်ရောက် လာသည့်အခါ ဂျူစီကို စကားလှမ်းပြောသည်။ အသံက ခပ်တိုးတိုး...။ သို့သော်လည်း ရာသီဥတု နှင့် ပတ်သက်၍ ပြောသည့်စကား။ ဂျူစီကတော့ ခွန်းတုံ့ပြန် မပြော။ အနေကျုံ့လာသော ဘရန်းဒီးသည် နေရာရွှေ့ ၍ ရပ်သည်။ မီးရထားလာမှ လာပါဦးမည်လော....။ စောင့်ရသည့် အလုပ်သည် သည်းမခံ နိုင်လောက် အောင် ဆိုးရွားလှပါတကား....။

နောက်ဆုံးတွင် မီးရထား ဥဩသံ သဲ့သဲ့သည် လေထဲတွင် ပါလာသည်။ ပြီးတော့ သံလမ်းနှင့် ထိတွေ့ နေရသည့် ရထားဘီးသံများ။ မ ကြာမတင်မှာပင် မီးရထားသည် ဘူတာရှေ့တွင် ရပ်သည်။ ဘရန်းဒီးသည် ရှေ့ဆုံးမှ နေ၍ သစ်သားတွဲ တတွဲဆီသို့ လှမ်းတက်လိုက်သည်။ ရထားတွဲထဲတွင် ခရီးသည်တချို့ ပါလာသည်။ အားလုံး တောသူ တောင်သားတွေချည်းဖြစ်၏။

http://www.shwezinu.com/

ရထားတွဲထဲတွင် တကျော်ကျော် ဟစ်အော်၍ ဈေးရောင်း တတ်သော ခရီးသွား ဈေးသည်နှစ်ဦးပါသည်။ အသွားအို တချို့မှာ ခြင်းတောင်းများ ကိုယ်စီနှင့် ဖြစ်၏။ သူ့အနေဖြင့် မူလက ထားရှိခဲ့သော ရည်ရွယ်ချက်မှာ ဂျိုစီနှင့် မျက်နှာချင်းဆိုင်ထိုင်ရန်ဖြစ်သည်။

သို့သော်လည်း တစုံတခုသောအရာက သူ့စိတ်အား နောင့်ယှက်ဟန့်တားသလို ဖြစ်နေသဖြင့် ဂျိုစီနှင့် ခပ်လှမ်းလှမ်းမှခုံတွင် ဝင်ထိုင်မိသည်။ ထိုင်ခုံမှာ ဂျိုစီအား ကျောပေးထားသဖြင့် တည့်တည့်ကြီး မမြင်နိုင် သော်လည်း ထိုင်ခုံရှေ့နံရံပေါ်တွင် မှန်တချပ်ရှိနေသည်။ ဂျိုစီတို့ လူစု၏ လှုပ်ရှားမှုများသည် ဤမှန်ထဲတွင် ပေါ်လျက်ရှိ၏။ ဘရန်းဒီးသည် ထိုင်ခုံတွင် ထိုင်မိသည်နှင့် တပြိုင်နက် ထုံးစံအတိုင်း အချိန်ကြာမြင့်စွာ ရပ်နေဦးမည့် မီးရထားအတွက်ကို သည်းခံ၍ စောင့်ဆိုင်းရန် ကြိုးစားလျက်ရှိလေ၏။

နောက်ဆုံးကျတော့လည်း မီးရထားသည် ဘူတာထဲမှ ထွက်ခွာလာခဲ့သည်။ ရထား၏ နောက်ဘက်တွင် ကျန်ရစ် ခဲ့သည့် ရှုခင်းများကို ငေးမောနေမိသော ဘရန်းဒီးသည် မှန်ထဲတွင် ပေါ်လာသည့် ဂျိုစီတို့၏ လှုပ်ရှားမှု တခုကို သတိထားမိသည်။ အစောင့်ရဲသည် သူ့အိပ်ကပ်ထဲမှ သော့တချောင်းကို ထုတ်ကာ ဂျိုစီ၏ လက်မှလက်ထိတ်ကို ဖြုတ်ပေးသည်။ ဂျိုစီက သူ့လက်ကောက်ဝတ်ကို ပွတ်ယင်းက ရဲအား ကျေးဇူး တင်စကားပြောသည်။ အဘိုးကြီး ပက်ဒရိုကတော့ သတင်းစာထဲမှ အားကစား

http://www.shwezinu.com/

သတင်းများကို ကျယ်လောင် စွာ အော်ဖတ်လျက် ရှိ၏။ သို့သော်လည်း ဂျိုစီနှင့် အစောင့်ရဲတို့က နားမထင်။ အစောင့်ရဲသည် ဂျိုစီကို မျက်ခြည်အပြတ်ခံသည့် ပုံမပေါ်။ သူ၏ အပြုအမူသည် တာဝန်လစ်ဟင်းပုံမရ။ ဂျိုစီ ကတော့ မျက်နှာကို တဘက်သို့လွှဲကာ မိုးစက်မိုးပေါက်များ ပက်ဖျန်းခြင်း ခံနေရသည့် ရေမြေ တောတောင် များကို ငေးကြည့်နေသည်။

ဂျိုစီ၏ မျက်နှာသည် ရွှင်ရွှင်ပျပျမရှိ။ ဝမ်းနည်းကြေကွဲသော အသွင်သည် အထင်အရှား ပေါ်လွင်လျက်ရှိ၏။ ဤအဖြစ်ကို မြင်ရပြန်တော့လည်း ကောင်စစ်ဝန်သည် ဝမ်းမသာနိုင်။ သူ၏ အောင်နိုင်မှုသည် အနစ်သာရ ကင်းမဲ့နေသည်။ အရသာ ရှာကြည့်ပါ၏။ မတွေ့။ သူသည် မှန်ထဲတွင် ထင်ပဟ်နေသည့် ဂျိုစီ၏ ရုပ်ရည်ကို စေ့စေ့စပ်စပ် ကြည့်မိသည်။ ထိုအခါကျပြန်တော့ ပို၍ စိတ်မကောင်း ဖြစ်မိသည်။

ဂျိုစီထံ သွား၍ အားပေးနှစ်သိမ့်သည့် စကားများ ပြောရလျှင် ကောင်းလေမလား....။ အပြစ်မှ သက်သာနိုင်သမျှ သက်သာအောင် လုပ်ပေးမည်ဟူသော ကတိကို ပေးလိုက်လျှင် ကောင်းလေမလား။ အပြစ်မှ သက်သာနိုင်သမျှသက်သာ အောင်လုပ်ပေး မည်ဟူသော ကတိကို ပေးလိုက်ရလျှင် ကောင်းလေ မလား။ သူဘယ်လို လုပ်ရပါနည်း။ အခုမှထ၍ လုပ်ရမည် ဆိုတော့လည်း စိတ်က ဖြောင့်ဖြူးခြင်း မရှိ။ သူ့ စိတ်ကူး သည် အဓိပ္ပာယ်မရှိဟု သူ ထင်၏။ ကောင်စစ်ဝန်သည် ချီတုံချတုံ ချုပ်တည်းသည်။ သူသည် မျက်နှာ ကို မှန်ပေါ်မှ လွှဲကာ တဘက်သို့ ကြည့်သည်။



http://www.shwezinu.com/

ခေါင်းမှဦးထုပ်ကို ချွတ်ကာ သူ့နဖူးတွင် စို့နေသော ချွေးသီး ချွေးပေါက်ကြီးများကို လက်ကိုင်ပဝါဖြင့် သုတ်သည်။

ရထားတွဲအတွင်းရှိ အပူရှိန်မှာ မခံမရပ်နိုင်လောက်အောင်ပင် ပြင်းထန်လွန်းလှချေသည်။ ရထား တွဲ၏ အစွန်းတဘက်မှ တံခါးသည် သူ့ရှေ့တည့်တည့်တွင် ရှိနေသဖြင့် အပြင်မှလေတော့ ဝင်ပါ၏။ သို့သော်လည်း ဝင်လာ နေသည့် လေက လေပူကြီး ဖြစ်၏။ ပြီးတော့လည်း သူနှင့် မျက်စောင်းထိုး ဘက်တွင် အိမ်သာ။ ဤအဖြစ် ကို အစမှပင် သူသတိပြုမိ၏။ ဤလမ်းတွင် မီးရထား အိမ်သာများ သန့်ရှင်းရေးကို မှန်မှန် လုပ်ကြသည်မဟုတ်။

သို့သော်လည်း အခုချိန်ကျမှ နေရာ ပြောင်းထိုး၍ မဖြစ်တော့။ သူသည် စိတ်ပျက်ပျက်နှင့် သူ့နေရာ မှာ ထိုင်ကာ တွေဝေငေးငိုင်လျက် ရှိသည်။ မကြာခဏဆိုသလိုပင် ခရီးသည်များသည် သူ့ဘေးမှ ဖြတ်၍ အိမ်သာဆီ သွားကြသည်။ ဖြတ်သွားဖြတ်လာ လုပ်သူများလေ သူစိတ်ညစ် စိတ်ရှုပ်လေ။ ရထားဘီးသံ များနှင့် လေထိုးသံများသည် သူ့နားနှစ်ဘက်အတွင်းသို့ အဆက်မပြတ် ဝင်လာနေ သည်။ အသံ အားလုံး သည် သူ့ခေါင်းထဲတွင် ပွဲတင်ထပ်လျက် ရှိ၏။ သူနေမှ ကောင်းပါလေစေ...။ ဖျားများ ဖျားနေပြီလား...။ ထိုမေးခွန်းကို သူ့ဘာသာသူ တိတ်တိတ်ကလေးကျိတ်၍ မေးသည်။ သူ မအီမသာ ဖြစ်နေခြင်းသည် ကိုယ်ခန္ဓာ နှင့် မဆိုင်မှန်း သူ

http://www.shwezinu.com/



သိသည်။ အမှန်တော့ သူ အခုလို ဖြစ်နေ ရခြင်းသည် စိတ်...။ စိတ်ပိုင်း အားနည်းမှု နှင့် ချွတ်ယွင်းမှု...။

ဤဘက်ပိုင်းသို့ ရောက်သည့်အခါ မီးရထားသည် ချောင်းငယ်မြောင်းငယ်ကို မကြာခဏ ဖြတ်ရသည်။ တောင်တန်းကြီးများ၏ ခြေရင်းမှ ကွေ့ပတ်သွားသည့်အခါ သွားရသည်။ ပင်လယ်နှင့် နီးကပ်သဖြင့် လေထုတွင် ဆားနံ့လှိုင်လျှက် ရှိ၏။ မြင်ကွင်းအတွင်းသို့ ဂင်လာတတ်သည်။ ဤဘက်ပိုင်းကျတော့ မီးရထားသည် မီးရထားနှင့်မတူ၊ လှည်းကြမ်းစီးနေရသည်နှင့် တူလှပေသည်။

ကောင်စစ်ဂန်သည် သူ့လက်မှ နာရီကို ငုံ့ကြည့်သည်။ သုံးနာရီပင် မထိုးသေး။ ဆန်ဂျော်ဂျီမှ ဆယ့်ငါးကီလိုမီတာ အကွာမျှသာ ရောက်လိမ့်ဦးမည်ဟု သူခန့်မှန်းသည်။ သူသည် စိတ်ထဲက ကျိတ်ပြီး ညည်းလိုက်၏။ ဘာစီလိုးနားသို့ တော်တော်နှင့် ရောက်ဦးမည် မဟုတ်ပါတကား......။ သူ့မျက်လုံးများသည် မှန်ဆီသို့ အမှတ်တမဲ့ရောက်သွားသည်။ သူတို့အားလုံး ငြိမ်သက်စွာပင် ထိုင်နေကြသည်။ သူကြည့် နေခိုက်မှာပင် ဂျူစီအား စကား လှမ်းပြောနေသည်ကို တွေ့ရ၏။ ထို့နောက် ရဲက ဂျူစီဘက်သို့ လှည့်၍ ခေါင်းညိတ် ပြသည်။ ဂျူစီသည် ထိုင်ရာမှ ထကာ ထိုင်ခုံများကြားမှ တိုးဝှေ့ ထွက်လာသည်။

http://www.shwezinu.com/

ဂျူစီက အိမ်သာသွားဖို့ ခွင့်တောင်းဟန် တူ၏။ အခုဆိုလျှင် ဂျူစီသည် သူထိုင်နေရာ ဘက်သို့ လျှောက်လာလျက်ရှိလေပြီ။ သူ့ရင်သည် ငြိမ်သက်ခြင်း မရှိ။ တဒိတ်ဒိတ် ခုန်လာသည်။ ဘာကြောင့် ထိုကဲ့သို့ ဖြစ်ရသနည်း။ ဂျူစီက သူ့ကို တခုခု လုပ်မှာ ကြောက်၍လား...။ ဘယ်နည်းနှင့်မှ မဖြစ်နိုင်။ ဒါကို တော့ သူကောင်းစွာသိနေသည်။

ဂျူစီ၏ ခန္ဓာကိုယ်သည် ငြိမ်ငြိမ်ဆိတ်ဆိတ်မဟုတ်။ ရထားတွဲ လှုပ်ယမ်းနေသဖြင့် သူ့ကိုယ်သည် ဟိုယိုင် သည်ယိမ်း။ တဖြည်းဖြည်းနှင့် ဂျူစီသည် သူ့နောက်သို့ ရောက်လာသည်။ ဘရန်းဒီးသည် အသက်ကို ဖြောင့်ဖြောင့် မရှူနိုင်။ မျက်စိများကို စုံမှတ်၍ မှိန်းနေဟန်ပြုဖို့ ကြိုးစားသည်။ မရ။ အလိုလိုနေယင်းနှင့် သူ့မျက်လုံး များသည် ဂျူစီကို မော့်ကြည့်နေမိသည်။

ဂျူစီသည် သူ့ရှေ့မကျတကျနေရာတွင် ရပ်နေသည်။ ဂျူစီ၏ မကြည့်သည် သူ့ထံ ရောက်လာသည်။ ကြည့်ပုံမှာ ခြေဆုံးခေါင်းဆုံး။ စေ့စေ့စပ်စပ်။ ဂျူစီ၏ မျက်နှာပေါ်တွင် တပြုံးရိပ်ပင်လျှင် မြင်လိုက်ရသည် ထင်၏။ ထိုနောက် ဂျူစီသည် တဘက်သို့ မျက်နှာလွှဲသွား လေသည်။

မီးရထားသည် တောင်ခြေရင်း လွင်ပြင်ဆီသို့ ဦးတည်၍ ဆင်းလျက်ရှိသည်။ ဤအဆင်းလမ်းသည် ပို၍ မတ်စောက်သည်။ ရထားအရှိန်သည် မသိမသာ နေးလာသည်။ ဂျူစီ၏ ခြေလှမ်း တလှမ်းသည် ရှေ့သို့ တိုးလာသည်။

http://www.shwezinu.com/


ဂျူစီ၏ လှုပ်ရှားမှုကို မျက်ခြည်မပြတ် ကြည့်နေမိသော ကောင်စစ်ဂန်၏ စိတ်သည် ဂျူစီ၏ ရည်ရွယ်ချက်ကို သိသလိုလို ခံစားလာရသည်။ ဂျူစီသည် အိမ်သာဘက်သို့ မသွားပဲ ရထားတွဲ တံခါးပေါက် မှ နေ၍ အပြင်သို့ ထိုးဆင်းလေမလား...။ အသက်ရှူ၍ မဝသည့်နှယ် ခံစားလာရသည်။ ဂျူစီ အခုလို လုပ်လျှင်တော့ မှားလိမ့်မည်ဟု သူထင်သည်။ အခုလို အဖြစ်မျိုးတော့ အဖြစ်မခံနိုင်။ အရှိန်နှင့် သွားနေသော မီးရထားပေါ် မှ ခုန်ချဖို့ ဆိုသည်မှာ ဂျူစီအတွက် အလွန်အသက်ဘေး အန္တရာယ်များသော အလုပ်တခု ဖြစ်၏။ သူတားမြစ်မှ ဖြစ်မည်။ သို့သော်လည်း ဂျူစီခုန်မချနိုင်အောင် တားမြစ်ဖို့ ကိစ္စမှာ လက်တွေ့ ကျတော့ လွယ်မည်မထင်။ ဘရန်းဒီး၏ စိတ်သည် ဤအတွေးများ ပြောင်းဆန်လျက် ရှိသည်။ ထိုစက္ကန့် ပိုင်းကလေး အတွင်းမှပင် ဂျူစီသည် တံခါးပေါက်မှနေ၍ အပြင်ဘက်သို့ ထိုးချလိုက်လေ၏။

ဂျူစီ ထိုးအချနှင့် ဘရီးဒီး ထိုင်ခုံပေါ်မှ ခုန်အထသည် တပြိုင်နက်တည်း ကျသည်။ ဘရန်းဒီး၏ နှုတ်မှ အလန့်တကြား အော်သံတချက် ထွက်လာသည်။ သူ့လက်သည် ဂျူစီ ကုတ်အင်္ကျီစကို ဆွဲမိသည်။ ဂျူစီ ခုန်ထွက်လိုက်သည့် အရှိန်က ပြင်းလွန်းလှသဖြင့် အင်္ကျီနောက်ကျော တခြမ်းလုံး ဖြန်းကနဲ စုတ်ပြဲကာ ဘရန်းဒီး လက်ထဲသို့ ပါလာသည်။ ဘရန်းဒီး တကိုယ်လုံးမှာလည်း လေထဲသို့ မြောက်တက်သွားပြီးမှ အောက်ဘက် သို့ ပြန်ကျသည်။ ကံအားလျော်စွာပင် သူ့ခြေထောက် နစ်ဘက်သည် ရထားတွဲ သံဘောင် နှင့် ခြေနင်းခုံ ကြားသို့ ထောက်မိသော်လည်း လူက မဟန်နိုင်ပဲ



http://www.shwezinu.com/

အလျားမှောက်လဲကာ သူ့ခေါင်းသည် ခြေနင်းခုံ အစွန်းနှင့် အရှိန်ပြင်းစွာ ဆောင့်မိလေသည်။

ဒုတိယအကြိမ် ကြောက်လန့်တကြား အော်ဟစ်လိုက်သော အသံသည် ကောင်စစ်ဂန်၏ ပါးစပ်မှ ထွက်ပေါ် လာပြန်သည်။ မီးရထားကို ရပ်အောင်လုပ်ကြဖို့ အသံကုန် ဟစ်၍ အော်ပြောလိုက်သော အသံဖြစ်၏။ ချက်ချင်းပင် အရေးပေါ် ခလုတ်ကြိုး ဆွဲသံကို ကြားလိုက်ရသည်။ ပြီးတော့ မီးရထား ဘရိတ် ဆွဲသံ....။ ရထားဘီးများနှင့် သံလမ်းထိတွေ့ ပွတ်တိုက်သံများ။ ထို့နောက်တော့ မီးရထားသည်။ တုံ့ကနဲ ရပ်သွားသည်။ ရထားတွဲအတွင်းမှ ခရီးသည်များသည် အပြင်သို့ တရကြမ်းတိုးဝှေ့ ထွက်ကာ့သည်။ တွဲထဲ၌ တယောက်တည်း ကျန်ရစ်သော ကောင်စစ်ဂန် လဲကျနေရာမှ ကသောကမျော လူးလဲထလာသည်။ သူအပြင်ထွက်မှ ဖြစ်မည်။ မထွက်၍ မဖြစ်။ သူသွားမှ...၊ သူသွားမှ...။ သူသည် ဒရီးဒယိုင်နှင့် တွဲအပြင်သို့ ထွက်သည်။

သူတို့သည် ဂျိုစီအား လွတ်မြောက်အောင် လုပ်ပေးခဲ့ကြပြီး ဖြစ်၏။ ဂျိုစီ၏ခန္ဓာကိုယ်သည် ရထား လမ်းဘေး ရေကာတာပေါ်ရှိ စိမ်းလန်း စိုပြည်သော မြက်ခင်းပေါ်၌ အရုပ်ကြိုးပြတ် လဲကျ လျက်ရှိသည်။ အစုတ်စုတ်အပြတ်ပြတ်နှင့် ဖရိုဖရဲဖြစ်နေသော အဂတ်အစားများကိုမူ သပ်သပ် ရပ်ရပ်ဖြစ်အောင် ပြုပြင် ပေးထားကြပြီးဖြစ်သည်။ တစုံတယောက်သော သူက ရုပ်ပျက်ဆင်းပျက်ဖြစ်နေသော သူ့မျက်နှာကို ဖြူဖွေး သန့်စင်သော

http://www.shwezinu.com/

လက်ကိုင်ပဂါ တထည်ဖြင့် အုပ်ပေးထားသည်။ နူးညံ့၍ စိမ်းလန်းသော မြက်ပင်များနှင့် ထိုမြက်ပင်ကြားမှ လှပစွာ ပွင့်ဖူးနေကြသော အဂါရောင် ပန်းပွင့်ကလေးများ....။ သာယာသော ရေစီးသံ သည် ဂျူစီ၏နားသို့ ပြေးလာလျက်ရှိ၏။ မရောက်ရောက်အောင် သူခိုလှုံရမည့် နေရာဌာနသည် သူအလွန် ချစ်မြတ်နိုး သော မြစ်နှင့် အလှမ်းမဝေး...။

ခရီးသည်များနှင့် ရောနှော၍ ရပ်နေသော အဘိုးအို ပက်ဒရိုသည် ကောင်စစ်ဝန်၏ မျက်နှာကိုမကြည့်။ သို့သော် ဆွေးမြေ့ညင်သာသော လေသံဖြင့် စကားတခွန်း ပြောသည်။

'အခုဆိုယင် သူထောင်ကို မသွားရတော့ဘူးပေါ့ ဆီညော်'

***************

http://www.shwezinu.com/

## အခန်း (၂၁)

ကာဆာဘာရီဇာ ဂေဟာသို့ ဦးတည်နေသော သဲမြေထူထပ်ရာ လမ်းကြားကလေးပေါ်သို့ ကောင်စစ်ဂန် ဘရန်ဒီး လျှောက်လာနေသည့် အချိန်သည် ညဆယ်နာရီထိုးလုနီးနေပေပြီ။ ကောင်စစ်ဂန်သည် အဆမတန် ပင်ပန်းမောဟိုက်လျက်ရှိ၏။ ဆန်ဂျော်ဂျီသို့ မီးရထားနှင့် ပြန်၍ ရနိုင်တော့မည် မဟုတ်ဟူသော အတွေးဖြင့် ကောင်စစ်ဂန်သည် ခြေကျင်လျှောက်၍ ပြန်လာခဲ့ခြင်းဖြစ်သည်။

သူသည် မီးရထားလမ်းနှင့် ဝေးနိုင်သမျှ ဝေးအောင် ခွာ၍ လျှောက်ခဲ့ခြင်း ဖြစ်သည်။ တကြိမ်တခါမှ ရောက်ဖူးသော နေရာများ မဟုတ်။ လမ်းကိုလည်း မည်မည်ရရ မသိ။ ကြံ့သလို ကျသလို အမှန်းအဆနှင့် လာခဲ့ခြင်းဖြစ်ရာ လယ်ကွင်းများ၊ ရေမြောင်းများ၊ ကျောက်နံရံ များ စသည့် လမ်းမဟုတ်သော နေရာပေါင်း များစွာကို ကျော်ဖြတ်ခဲ့ရသည်။ ခက်ခက်ခဲခဲနှင့် ကုပ်ကုပ်ကပ်ကပ် ကျော်ဖြတ်သွားလာနေရသဖြင့် ပင်ပန်းလွန်း လှသော်လည်း ပင်ပန်းမှန်း မသိ။ သူ့အာရုံသည် အဖြစ်ဆိုးလွန်းလှသော ထိုနေရာနှင့်ဝေးရာ ကာဆာဘာရီဇာ သို့ အမြန်ဆုံး ပြန် ရောက်ရန်ဟူသော ဦးတည်ချက်တခုတည်း အပေါ်၌သာ ရှိသည်။


http://www.shwezinu.com/

ညနေ ငါးနာရီ ကျော်ကျော်ခန့်တွင် အောဖားရီနီးဟု ခေါ်သော ရွာကလေး တရွာသို့ ဆိုက်ရောက် သည်။ ကျေးရွာ ကုန်စုံဆိုင်တဆိုင်အတွင်း၌ ဖွင့်လှစ်ထားသည့် စာတိုက်မှ တယ်လီဖုန်းဖြင့် ကောင်စစ်ဝန်ရုံးသို့ လှမ်း၍ ဖုန်းဆက်သည်။ သို့သော်လည်း ထူးမည့်သူ တဦးတယောက်မျှ မရှိ။ ရုံးတံခါး ပိတ်ပြီး အားလုံး အိမ်ပြန်ကုန် ကြပြီ။ ထိုအခါ သူ့အိမ်သို့ ဆက်ကြည့်ပြန်သည်။ ဆက်၍ ရပါက သူ့ကို မော်တော်ကား နှင့် လာခေါ်ဖို့ ဂရေစီယာအား ခိုင်းမည်ဟု စိတ်ကူးသည်။

သို့သော်လည်း ... မရ။ ပထမတော့ တယ်လီဖုန်းကို ကောက်ကိုင်မည့်သူ မရှိ။ နောက်တော့ လိုင်းမအား ဟူသော အသံမျိုးကို ကြားရသည်။ နောက်ဆုံး ကျတော့ အသံက တယ်လီဖုန်းပျက်နေပြီ ဟူသော အသံမျိုး ဖော်ပြသည်။

ဘရန်းဒီး အကြီးအကျယ် ဒေါသ ဖြစ်သည်။ သို့သော်လည်း သူတတ်နိုင်သော ကိစ္စမဟုတ်။ ချက်ချင်းပင် ဆိုင်ထဲမှ ပြန်ထွက်လာခဲ့သည်။ ရွာသားအချို့က ရှစ်နာရီတွင် ဆန်ရော်ဂျီ သွားမည့် ဘတ်စ်ကား တစီး ရှိသည်ဟု ပိုင်းပြောကြသည်။ သူသည် ဆိုင်အပြင်ဘက်ရှိ ခုံတန်းလျားတလုံး ပေါ်တွင် ဦးခေါင်းငိုက်စိုက်ဖြင့် ငြိမ်ဆိတ်စွာ ထိုင်သည်။ ထမင်းဆိုင်ရှင်က သူ့အား အထဲဝင်နားဖို့ ပြောသော်လည်း လက်မခံ။ သူ့အား ရွာသူ ရွာသားများက အထူးအဆန်းတခုသဖွယ် ဝိုင်းအုံကြည့် နေကြသည်ကိုလည်း သတိမထားနိုင်။ သူသည် သူ့အတွေး နှင့် သူ ငေးငိုင်လျက် ရှိလေသည်။

http://www.shwezinu.com/

သူ့တကိုယ်လုံး အားအင်ကုန်ခန်းလျက် ရှိသည်။ အကြောအခြင်များမှာ ထုထောင်းရိုက်နှက် ခံထား ရသည့်နှယ် နာကျင်ကိုက်ခဲလျက် ရှိသည်။ သူသည် လှုပ်ရှားချင်စိတ် ကင်းမဲ့လျက် ရှိသည်။ သို့သော်လည်း သူ့ဦးနှောက်ကတော့ လှုပ်ရှားဆဲ...။ ကိုက်လိုက်သည့်ခေါင်း...။ ကွဲသွားမလားဟုပင် ထင်ရသည်။ ဂျူစီ တယောက် ကတော့ သေဆုံးခဲ့ရလေပြီ။ ဤမျှလောက် ငယ်ငယ်ရွယ်ရွယ်နှင့် သေသွားရသည်မှာ ယုံကြည်နိုင် စရာပင် မရှိ။

ဟုတ်မှ ဟုတ်ရဲ့လားဟူသော သံသယသည် သူ့ ရင်ထဲ၌ ဖြစ်ပေါ်ခဲ့ရ၏။ သို့သော်လည်း စွဲဖ်လာသည့် အဖြစ်က အဖြစ်မှန်။ မည်သူမှ ငြင်းနိုင်သော အရာမဟုတ်။ သူ့အတွေးများသည် ချာချာလည်လျက် ရှိ၏။ ဂျူစီ၏ အဖြစ်မှာ မတော်တဆဖြစ်ရ ခြင်းဟု ခေါ်ရမည်ထင်၏။ သူသည် လုံလောက်သော အကြောင်း ပြချက်များကို ရှာဖွေကြည့်သည်။ တကယ်တော့ အလွန် ဂမ်းနည်းကြေကွဲဖို့ ကောင်းလှသည့် မတော်တဆအဖြစ်။ သို့သော်လည်း မည်သူမျှ မရှောင်လွှဲသာသည့်အဖြစ်ဟုပင် သူထင်၏။ သူတတ်အားသရွေ့ တားမြစ်နိုင်ဖို့ ကြိုးပမ်း အားထုတ်ခဲ့ပါသေး၏။

သို့သော်လည်း အခြေအနေက မည်မျှပင် သက်သာအောင် တွေးသော်လည်း မရ။ လုံးဝ မဖြေသာ သည့်အဖြစ်...။ သူ၏ မုန်းတီးမှု၊ ရန်ရှာမှုနှင့် ညှဉ်းပန်းနှိပ်စက်မှုများကြောင့် ဂျူစီသည် စိတ်လွတ် ကိုယ်လွတ် ဖြစ်သွားခဲ့ရ လေသလော...။ အသံမထွက်သော ညည်းသံတချက်သည် ကောင်စစ်ဂန်၏ နှုတ်ဖျားမှ ထွက်လာသည်။ ဂမ်းနည်းကြေကွဲခြင်းနှင့်

http://www.shwezinu.com/



ယူကျုံးမရ ဖြစ်ခြင်းတို့သည် ကောင်စစ်ဂန် ၏ နှလုံးသားကို ပြင်းထန်စွာ နာကျင်စေသည်။

ထိုအခိုက်တွင် ဘတ်စ်ကား ရောက်လာသည်။ ရီဝေသော မျက်လုံးများဖြင့် မော့ကြည့်သည်။ ကား ပေါ်သို့ လှမ်းတက်သည်။ လူအများနှင့် ပေးရာ တနေရာတွင် ဂင်ထိုင်သည်။ ထို့နောက် သက်ပြင်းချ သည်။ ဘတ်စ်ကား ထွက်လာသည့် အချိန်တွင်မူ အမှောင်ရိပ်များသည် ကျဆင်းစပြုလေပြီ။ ဆန်ဂျော်ဂျီဘက်ကို နီးလာလေလေ ... သူ့နှလုံးခုန်သံသည် ပြင်းထန်လေ...။

လမ်းကြားထိပ်ရောက်ရင် ဘတ်စ်ကားပေါ်မှ ဆင်းမိသည့် အချိန်တွင်မူ သူ့စိတ်သည် ပို၍ ပြင်းထန်စွာ လှုပ်ရှားလာသည်။ စိတ်လှုပ်ရှားလွန်းသဖြင့် သူ့အိမ်ဘက်ကိုပင် မလျှောက်ပံ့ မလျှောက်ရဲ ဖြစ်လာသည်။ သူ့ရှေ့မှလမ်းသည် အမှောင်ရိပ်အောက်တွင် မှုန်ဝါးဝါး...။ သူသည် စိတ်ကိုတင်း၍ ခပ်ဖြည်းဖြည်း လျှောက်သည်။ ဖြည်းဖြည်းမှန်မှန် လျှောက်နေပါလျက်နှင့်ပင် အသက်ရှူ၍ မဝနိုင်လောက်အောင် မောနေ သေးသည်။

သူသည် ဆက်၍ လျှောက်နိုင်ရန် မနည်း အားစိုက်နေရ၏။

ရုတ်တရက် လရောင်သည် ဖြာဆင်းကျလာသည်။ ကာဆာဘရီဇာ အိမ်ကြီးကို ပြတ်ပြက်ထင်ထင် မြင်လာရ၏။ အေးမြသောလေသည်

http://www.shwezinu.com/


သူ့အသားများ အတွင်းသို့ ထိုးဖောက်စိမ့်ဝင်လာသည်။ ထို့နောက် လရောင်သည် ဖြတ်ကနဲ ပျောက်သွားသည်။ ပို၍နက်ရှိုင်းသော အမှောင်ထုသည် ပြန်၍ စိုးမိုးလာသည်။ ထိုအချိန်တွင် ဘရန်းဒီးသည် အိမ်ရှေ့ဆင်ဝင်ရိပ်ဟု ခိုမခဲ့ပြီး ဖြစ်၏။ သူသည် ခေတ္တမျှရပ်၍ အသံဗလံကို နားစွင့်သည်။ ဘာသံမှ မကြားရ။ ပကတိ တိတ်ဆိတ်ခြင်း။ သူသည် အိမ်ရှေ့တံခါးကို တွန်းဖွင့်လိုက်သည်။

အတွင်းဘက်တွင် ခန်းမကြီးတခုလုံး မှောင်မည်းလျက် ရှိသည်။ ထူးဆန်းသော အနံ့တခုသည် သူ့နှာခေါင်းဆီ ရောက်လာသည်။ အနံ့မှာ စူးရှပြင်းထန်လွန်းလှသဖြင့် မျက်ရည်များပင် ထွက်လာ သည်။ သူသည် ရုတ်တရက် လှုပ်ရှားခြင်း မပြုပဲ အသံကြားလိုကြားငြား နားစွင့်မိပြန်သည်။ သူသည် မီးခြစ်ကို ထုတ်၍ ခြစ်သည်။ မီးခြစ်ဆံမီးတောက်သည် တုန်ယင်လှုပ်ရှားနေသော သူ့လက်ချောင်းများကြားမှ ဖြာကနဲ လင်းလက်လာပြီး ချက်ချင်းလိုလိုပင် ပြန်ငြိမ်းသွားသည်။

ထိုအခိုက်မှာပင် အသံတသံသည် လေနှင့် ပါလာသည်။ ငိုကြွေးသံ…။ အသံလာရာဘက်သို့ ဆတ်ကနဲ လှည့်ကြည့်သည်။ ဘာကိုမှ မမြင်ရ။ သို့သော်လည်း ငိုသံကတော့ ဆက်၍ပေါ်လာနေ သည်။ သူသည် မီးဖိုခန်းတံခါးဆီသို့ လျှောက်သွားကာ ဆွဲဖွင့်လိုက်၏။ သူ့ရှေ့မှောက်တွင် မက်ဂ်ဒါလီးနား…။ စားပွဲတလုံးတွင် ထိုင်၍ ရှိုက်ကြီးတငင် ငိုကြွေးလျက် ရှိလေသည်။

http://www.shwezinu.com/

"မက်ဂ်ဒါလီးနား" ဟု သူက လှမ်း၍ အသံပေးသည်။

မက်ဂ်ဒါလီးနားက မော့ကြည့်သည်။ သူ့မျက်နှာမှာ ရုတ်တရက် မမှတ်မိနိုင် လောက်အောင်ပင် ရုပ်ပျက် ဆင်းပျက် ဖြစ်နေသည်။ ထိတ်လန့်ကြောက်ရွံ့ခြင်းနှင့် အိုစာခြင်းတို့သည် မက်ဂ်ဒါလီးနား၏မျက်နှာကို လွှမ်းခြုံ ထားလေသည်။

"ဘာဖြစ်နေတာလဲ" ဟု ဘရန်းဒီးက မေးသည်။

သူ့အား ပြူးတိပြူးကြောင်နှင့် ကြည့်နေသော မက်ဂ်ဒါလီးနားသည် စုတ်ပြဲနေသော သူ၏ အတွင်းခံ အင်္ကျီကို လက်နှစ်ဘက်နှင့် ကပျာကယာ ဆွဲဖုံးသည်။

"ဘာတွေဖြစ်နေကြတာလဲ"

"သူ ထွက်သွားပြီး" ဟု မက်ဂ်ဒါလီးနားက ရေရွတ်သည်။

"ဘယ်သူလဲ ထွက်သွားတာ"

"ဂရေစီယာပေါ့၊ ကျွန်မ ... သူ့အတွက် အနစ်နာခံထားရသမျှ နောက်ဆုံးကျတော့ အလကားပဲ" ဟု ပြောကာ တခါ ထပ်၍ ငိုပြန်သည်။

ကောင်စစ်ဝန်၏ ဒေါသသည် တရှိန်ထိုးတက်လာသည်။ သူသည် မက်ဂါဒါလီးနား၏ ပခုံးနှစ်ဘက်ကို ကိုင်ဆွဲ ခါယမ်း လိုက်၏။

http://www.shwezinu.com/



"ပြောစမ်း ... မြန်မြန်၊ ဒီအကောင် ဘယ်ထွက်သွားတာလဲ"

မက်ဂ်ဒါလီးနားက ချက်ချင်းအဖြေမပေး။ ငိုရှိုက်နေရာမှ အဖြစ်အပျက်ကို ပြန်၍ စဉ်းစားနေဟန် ရှိသည်။

"ဘယ်သူမှ လိုက်ရှာလို့ မတွေ့နိုင်တဲ့နေရာကို ထွက်သွားပြီ၊ ရှင့်မော်တော်ကားကြီးနဲ့ဆိုတော့ သူမြန်မြန် ဆန်ဆန် သွားနိုင်တာပေါ့၊ ရှင့် ကားကိုလဲ ဘယ်လိုနည်းနဲ့မှ ရှင် ရှာလို့မတွေ့နိုင်တော့ ဘူး"

မက်ဂ်ဒါလီးနားက ဘရန်းဒီး၏ မျက်နှာကို ရွံရှာစက်ဆုပ်သော မျက်နှာထားဖြင့် မော့်ကြည့်သည်။

"ရှင်က ဘယ်လိုများ မျှော်လင့်ထားလို့လဲ သခင်ကြီးရဲ့၊ ရော့ဒရီးဂိုး ဆိုတဲ့လူက သူ့ကို ရဲလာဖမ်း တဲ့အထိ ထိုင်စောင့် နေရမှာလား၊ ရော့ဒရီးဂိုး ဆိုတာက သူ့နာမည်လေ၊ ရော့ဒရီးဂိုးအီစပန်တာရိုး တဲ့၊ သူဟာ သူခိုး၊ ဒမြ၊ ရာဇဝတ်ကောင်၊ အရှုး သိလား၊ သူက ရှင့်ကို လုလုပပ ပိပိရိရိကလေး အရှုး လုပ်သွားတာ...၊ ကျွန်မ ကိုလဲ ဒီလိုပဲ လုပ်သွားတာပဲ၊ သူ လူတိုင်းကို လုပ်နေကျပဲဟာ...။

သူဟာ ကျွန်မလင်မဟုတ်ဘူး၊ ကျွန်မကသာ သူ့မိန်းမဖြစ်နေတာ၊ မက်ဒရစ်မြို့မှာ လူချင်းတွေ့ပြီး ကျွန်မတို့ အဖွဲ့ဖြစ်လာကြတာ၊ ပြောတုန်းကတော့ ကျွန်မအပေါ်မှာ သစ္စာ မဖောက်ပါဘူးတဲ့၊ ကောင်းကောင်း လှည့်စား ပြီး ကျွန်မကို ခိုင်းစားသွားတာ၊ သူ့အလုပ်မှန်သမျှ ကျွန်မကချည်း

http://www.shwezinu.com/

ဒိုင်းခံလုပ်ပေးခဲ့ရတယ်၊ လူပျင်း လူညစ် တစ်ယောက်အတွက် ကျွန်မက ကျွန်တပိုင်း ဖြစ်ခဲ့ရတယ်၊ အခုတော့ မရှိတော့ဘူး၊ လစ်သွားပြီ"

ပြောယင်း ပြောယင်းနှင့်ပင် မက်ဂ်ဒါလီးနား၏ အသံသည် ကျယ်လောင်လာသည်။

"ရဲတွေ သူ့နောက်လိုက်နေပြီဆိုတာ ရှင်က ဘာပြုလို့ သူ့ကို အသိပေးရတာလဲဟင်၊ ကွယ်ရာကနေ ပြီး ရှင့်ကို သူသရော်ခဲ့တဲ့ စကားတွေများ ရှင် ကြားရယင် ဘယ်လိုနေမလဲ မပြောတတ်ဘူး၊ ရှင့်ကို ရော၊ ရှင့်ရဲ မိတ်ဆွေ လူဖလံ ပါမောက္ခကိုရော၊ သူက သရော်ခဲ့တာ၊ ရှင့်ကိုကျတော့ စည်သွတ်ငါး ကြီးတဲ့၊ ဟို ပါမောက္ခ ကိုတော့ ပုစွန်ဆိတ်တဲ့၊ ရှင်တို့စုံတွဲကို သူပေးထားတဲ့ နာမည်ပေါ့၊ ဂျူစီကို မကောင်းကြံတာ သူပဲ၊ ရှင် တွေးမိရဲ့လား၊ သူက ဂျူစီကို သိပ်မုန်းတာ၊ ဒါကြောင့် ဂျူစီကို ထောင်ထဲ ရောက်အောင် ပို့မယ်လို့ အမြဲ ကြိမ်းမောင်း နေတာ၊ ရှင့်သား နီကိုလတ်စ်ကိုလဲ သူ သိပ်မုန်းတယ်၊ အခုလောလောဆယ်တော့ ရှင့်ရဲ့ စိန်ရွှေ တွေကို သူပိုင်သွားတာပေါ့ရှင်၊ ကဲ ရှင် ဘာများ တတ်နိုင် သေးလဲ"

မက်ဂ်ဒါလီးနား ၏ တကိုယ်လုံး သိုးသိုးသိမ့်သိမ့် တုန်လှုပ်တာသည်။ ပြီးတော့ အရှုးတယောက် သဖွယ် ငိုနေယင်း မှ အူလှိုက်သည်းလှိုက် ထ၍ ရယ်သည်။

http://www.shwezinu.com/


"အခုဆိုယင် သူပစ္စည်း အများကြီးရသွားတာပဲ၊ ရှင်တော့ ကောင်းကောင်းကြီး အထိနာသွားပြီ၊ အသာကလေး စောင့်ပြီး ကြည့်ဦးပေါ့လေ"

မက်ဂ်ဒါလီးနားသည် ငိုတခါ ရယ်တလှည့် ဖြစ်နေဆဲ...။ ပါးစပ်ကလည်း တောင်စဉ်ရေမရ စကား တွေ ပြောနေသည်။ မျက်ရည်များသည် ပါးပြင်နစ်ဘက်ပေါ်သို့ စီးဆင်းကျနေသည်။ ဤမိန်းမ၏ အခြေအနေမှာ သူ့ကိုယ်သူ ထိန်းနိုင်သည့် အခြေအနေမျိုး မဟုတ်။

ဘရန်းဒီးသည် ဤမိန်းမနှင့် စကားပြောချင်စိတ် မရှိတော့။ သူ့ဘက်က ချက်ချင်းပင် လက်မြှောက် အရှုံးပေး လိုက်သည်။ သူသည် စားပွဲပေါ်မှ ဖယောင်းတိုင်ကို ယူ၍ ထွန်းညှိလိုက်ပြီး မီးဖိုခန်းထဲမှ ထွက်လာခဲ့၏။ သူ့လက်ထဲမှ ဖယောင်းတိုင်မီးရောင်သည် တလက်လက်...။ ခန်းမထဲမှာတော့ အခြေအနေမပျက်။ အားလုံး နဂိုအတိုင်း။ အပေါ်ထပ်သို့ တက်ကာ သူ့အိပ်ခန်းထဲသို့ ဝင်ပြီး ဓာတ်ငွေ့ မီးကို ထွန်းသည်။

အိမ်ခန်းတခန်းလုံး ကျွမ်းထိုးဖောက်ခံ ဖြစ်လျက် ရှိသည်။ အံဆွဲဟူသမျှ ဆွဲထုတ်ပြီး ကြမ်းပေါ်၌ ချထားသည်။ အဝတ် အစားများမှာလည်း ဟိုတထည် သည်တထည် ပြန့်ကြဲလျက် ရှိ၏။ ကောင်းပေ့ ဆိုသည့် အင်္ကျီ ဘောင်းဘီ ဝတ်စုံများမှာ အခန်းထဲတွင် မရှိတော့။ မှန်တင်ခုံအံဆွဲထဲ၌ ထည့်ထား သည့် ငွေထည် ပစ္စည်းများ မှာလည်း တခုမျှ မကျန်။ တခန်းလုံးမြေလှန် ရှာပြီး

http://www.shweinu.com/


အဖိုးတန်ပစ္စည်း ဟူသမျှကို ယူသွားခြင်း ဖြစ်၏။ သို့သော်လည်း ဤပစ္စည်းများအတွက် ဝမ်းနည်းခြင်းလည်း မဖြစ်။ နမြောခြင်းလည်း မရှိ။ ကြမ်းပြင် တနေရာတွင် မီးလောင်ထားသော အထုပ်တထုပ်...။ ပထမတော့ ဘာပစ္စည်းမှန်း ခွဲခြား၍ မရ။ သေသေချာချာ ထပ်ကြည့်တော့မှ သူ့စာမူထုပ်ကြီး ဖြစ်နေသည်။ စာမူ ထုပ်တထုပ်လုံး ရစရာမရှိအောင် မီးလောင် ထားသည်။

သူသည် သက်ပြင်းတချက် ချလိုက်မိ၏။ အရောင်အဆင်း ကင်းမဲ့လျက်ရှိသော ဘရန်းဒီး၏ မျက်နှာ သည် စာမူ ထုပ်ပေါ်မှ ခွာ၍ မရ။ သူ့အတွက် ကြီးလေးသော အပြစ်ဒဏ်တခုပေတည်း။ ဘဝ တသက်တာအတွက် အနစ်နစ် အလလ ကြိုးပမ်းထားခဲ့ သမျှသည် ပျက်စီးဆုံးရှုံးခဲ့ရလေပြီ။ သူ ရသင့်ရထိုက်၊ ခံစားသင့် ခံစား ထိုက်သော အပြစ်ဒဏ်တခုဟုပင် ယူမှတ်ရပေတော့မည်။ ကျလု နီးနီး ဖြစ်နေသော မျက်ရည်စများကို မကျ အောင် ထိန်းသည်။ သူသည် မေ့မေ့လျော့လျော့ ဖြစ်ကာ အတန်ကြာမျှ ငေးငိုင်၍ ရပ်နေမိသည်။ ထို့နောက် စောစော က ယူလာခဲ့သည့် ဖယောင်းတိုင်ကို ပြန်ကောက်ကာ သူ့သား၏ အိပ်ခန်းဘက်သို့ ကူးခဲ့လေ၏။

သူ့သား၏ အိပ်ရာသည် ခြေရာ လက်ရာမပျက်။ မူလခင်းထားသည့် ပုံစံအတိုင်း အရာမယွင်း။ တနေ့ခင်းလုံး သူ့သားအိပ်ခဲ့သည့် လက္ခဏာမရှိ။ အေးမြသော လေသည် သူ့နောက်ကျောကို လာရောက်ထိ တွေ့သည်။ နောက်သို့ လှည့်ကြည့်မိလိုက်၏။ ခြေရင်းဘက်မှ ပြတင်းပေါက်တံခါး အားလုံး

http://www.shwezinu.com/



ဖွင့်ထားပါကလား။ သူ့ ဒူးနှစ်ဘက် သည် လဲကျသွားတော့မည့်နှယ် ကွေးညွတ်ကျလာ သည်။ သူ့ကိုယ်သူ မနည်းကြီး အားယူ၍ ထိန်းထား ရသည်။ သူ့လည်ချောင်းအတွင်းမှ ရှိုက်သံ တချက်ထွက်လာသည်။ သူသည် ကြောက်လန့် တကြား ဖြစ်ကာ အိမ်အောက်ထပ် မီးဖိုခန်းဆီသို့ အပြေးအလွှား ဆင်းလာခဲ့မိသည်။

"ငါ့သား ... " သူ့နှုတ်ဖျားမှ ထိတ်လန့်ဆို့နင့်စွာ ထွက်လာသည်။ "ငါ့သား ... နီကိုလတ်စ် ဘယ်မှာလဲ"

မက်ဂ်ဒါလီးနား မှာ အတော်ကလေး တည်တည်ငြိမ်ငြိမ် ဖြစ်နေပြီ။ သို့သော်လည်း သူ ပြန်ရောက် သွားသည့်အခါ ပြုံးတုံးပြုံးတုံ ဖြစ်လာသည်။ ဒေါသအရှိန်လည်း ပြန်တက်လာသည်။

"ဘယ်မှာလဲဟဲ့၊ ဟုတ်လား၊ ဟား...ဟား...ဟား၊ ဟို ... ဘီလူးသရဲက တအိမ်လုံး မွှေနှောက်နေတဲ့ အချိန်မှာ ရှင့်သားက ငြိမ်းချမ်းစွာနဲ့ အိပ်ပျော်နေနိုင်လိမ့်မယ် ရှင် ထင်နေသလား"

ကောင်စစ်ဂန် က ရှေ့သို့ တိုးလာသည်။ မက်ဂ်ဒါလီးနားအား စူးစူးရဲရဲ ကြည့်သည်။

"ငါ့ကို အခုပြောစမ်း" ဟု အော်သည်။

http://www.shwezinu.com/


ပထမတော့ တင်းမာသော မျက်နှာထားဖြင့် ပြန်ကြည့် နေသေးသော်လည်း ကောင်စစ်ဝန်၏ အကြည့်ကို မြင်သောအခါ ငြိမ်သွားသည်။

"ဂရေစီယာက သူ့ကို လက်ဖျားနဲ့တောင် မတို့လိုက်ရဘူး" ဟု ဆိုသည်။

"ရှိနေယင်တော့ လုပ်ချင် လုပ်မှာ၊ ဒါပေမယ့် ... နီကိုလတ်စ်က ထွက်သွားနှင့်ပြီ၊ ဒီကနေ့ နေ့ခင်းပိုင်းမှာ အထုပ်ကလေး တထုပ်ယူပြီး ထွက်ပြေး သွားတယ်"

ဘရန်းဒီး၏ ပါးစပ်မှာ ခြောက်သွေ့လာသည်။

"သူ ဘယ်သွားတာလဲ"

"ကျွန်မက ဘယ်လိုလုပ်ပြီး သိနိုင်မှာလဲ" ဟု မက်ဂ်ဒါလီးနားက ဒေါသတကြီး ပြန်ပြောသည်။

"သူလမ်းမတိုင်း ပြေးသွား နေတာ မြင်လို့ ကျွန်မက မီးဖိုချောင် ပြတင်းပေါက်ကနေပြီး အော်ခေါ် သေးတယ်၊ ဒါပေမယ့် မရဘူး၊ ကျွန်တော်အရေးတကြီး သွားစရာကိစ္စတခု ရှိနေလို့ပါလို့ အော်ပြော သွားတယ်၊ ပြီးတော့ ... ကျွန်တော် ငါးမျှား သွားမလို့ပါလို့ ထပ်အော်သွားတာပဲ"

ပထမတော့ မကင်ဂ်ဒါလီးနား၏ စကားကို သူ မယုံ။ နားလည်မလည်။ သို့သော်လည်း ချက်ချင်းပင် သူ့ဦးနှောက်တွင်းသို့ အသိတခု ဝင်လာသည်။

http://www.shwezinu.com/



ဟေးလီးဗီးက သူ့အား ပြောခဲ့ဖူးသည်။ နီကိုလတ်စ် သည် တော်ရီဒိုးဘက်သို့ ဂျူစီနှင့် အတူတူသွား၍ ငါးမျှားခဲ့ဖူးသည် ဟူသောစကား...။ ယနေ့ ဂျူစီ သည် မီးရထားပေါ်မှ ခုန်ချကာ လွတ်မြောက်ဖို့ အားထုတ်ခဲ၏။ အကယ်၍ လွတ်ခဲ့ပါမူ ဂျူစီသွား မည် နေရာသည် တောင်တန်း များပေါ်မှ မြစ်ဆီသို့ပင် ဖြစ်ပေလိမ့်မည်။ သို့ဆိုလျှင် သူ့သား နီကိုလတ်စ်သည် သူ၏ သူငယ်ချင်း ဂျူစီနှင့် တွေ့ရန်ဟူသော ရည်ရွယ်ချက်ဖြင့် အိမ်မှ ထွက်သွားခြင်း ဖြစ်ပေလိမ့်မည်။

ဘရန်းဒီး၏ တကိုယ်လုံးပျော့ခွေ နုံးချည့်လာသည်။ ရထားပေါ်တွင် ကြုံခဲ့ရသည့်အတိုင်း ချောင်ချား သောစိတ် ဖြစ်လာသည်။ တချိန်တည်းမှာပင် ... သူ့သား၏ ရုပ်ပုံလွှာသည် သူ့မျက်စိထဲတွင် ပေါ်လာသည်။ တယောက်တည်း တောင်ကုန်းများကြား၌ တလည်လည် ဖြစ်နေသည့် သူ့သား...။ အခုလို မှန်တိုင်း ထန်မည့် ည...။ မှောင်ကြီး မည်းမည်း ထဲတွင် တယောက်တည်း...။

တချက်မျှ ပေ့ယမ်း တိုက်ခတ်လာသည့် လေရှိန်ကြောင့် တရုတ်ကတ် များသည် ယမ်းခါသွားသည်။ သူသည် စိတ်ကို အေးအေးထားနိုင်အောင် ကြိုးစားသည်။ ထို့နောက် ခန်းမထဲသို့ ပြန်ဝင်လာခဲ့ သည်။

သူ့မှာ ဤမျှလောက် အထီးကျန်နိုင်လှသည့် အဖြစ်မျိုးနှင့် တကြိမ်တခါမျှ မကြုံစဖူး။ အခုလို အကူ အညီ လိုနေသည့် အချိန်မျိုးတွင် မည်သူ့ကို သူ

http://www.shwezinu.com/


အားကိုး ရပါမည်နည်း။ သူ့ခေါင်းထဲသို့ တခုသော အမည်သာလျှင် ဝင်လာသည်။ တခြားလူမဟုတ်။ သဘောကောင်း ရှာသော အေလ်ဗင် ဘာတန်...။ မကြာသေးခင်ကပင် သူ့အား အကြံကောင်း ဉာဏ်ကောင်းများ ပေးခဲ့ဖူး၏။ သူကတော့ တဘက် သတ် အမြင်ဖြင့် ဘာတန် ပေးသည့် အကြံဉာဏ်များကို ပယ်ချပစ်ခဲ့သည်။ မည်သို့ပင် ဖြစ်စေ အခု အချိန်မှာတော့ ဘာတန်မှ တပါး အားကိုး စရာလူမရှိ။ သူသည် တယ်လီဖုန်းကို ကောက်ယူ သည်။ လိုသောနံပါတ်ကို တောင်းသည်။ တဘက် မှ ဘာတန်၏ အသံ...။ အဖြစ်အပျက်ကို အကျဉ်း ရုံး၍ ရှင်းပြပြီး သူ့အိမ်သို့ ကားတစီးနှင့် အမြန်ဆုံး လာဖို့မှာသည်။

ဘရန်းဒီးသည်မိုးတဖြန်းဖြန်းပက်နေသည့် ဆင်ဝင်အောက်မှ ရပ်ကာ ဘာတန်ရောက်အလာကို စောင့်သည်။ အချိန်က ကုန်ခဲပါဘိခြင်း...။ မကြာခင် မော်တော်ကားဟွန်းသံသဲ့သဲ့ ကြားရသည်။ အငှားကား တစ်စီး...။ အိမ်ခြံဝင်း အတွင်းသို့ အရှိန်ပြင်းစွာ မောင်းဝင်လာသည်။ ဘရန်းဒီးက မော်တော်ကား သူ့အနား ရောက်လာ သည်အထိ မစောင့်။ ကားဆီသို့ အခ အပြေးအလွှား သွားကာ ကားတံခါးကို ဖွင့်၍ ဝင်ထိုင်သည်။

"ကားသမားကို လော်ရီဒိုဘက် မောင်းခိုင်းပါ" ဟု သူက ဘာတန်အား လှမ်းပြောသည်။

http://www.shwezinu.com/


မော်တော်ကားသည် နောက်သို့ ပြန်ကွေ့ကာ လာလမ်းအတိုင်း ပြန်ထွက်သည်။ ဘရန်းဒီးသည် စိတ်မော လူမောဖြစ်ကာ နောက်သို့ မှီထိုင်လိုက်သည်။ ဂျိုစီ သေဆုံးသွားသည့် သတင်းကိုတော့ ဘာတန် ကြားပြီး လောက်ပြီဟု သူတွေးမိသည်။ သို့သော်လည်း သူ မမေးရဲ။ ပြောလည်း မပြောပံ့။ဘာတန်ကိုယ်တိုင်ကလည်း နှုတ်ဆိတ် လျက် ရှိသည်။ ပြောစရာ စကားရှာ၍ ရဟန်မတူ။ နောက်ဆုံးကျတော့ ဘာတန်သည် စကားမရှိ စကားရှာ ၍ စပြောသည်။

"မော်တော်ကား ငှားလို့ရတာ ကံကောင်းတယ် ... ခင်ဗျ၊ ဂန်မင်း ... နေကောင်းပါတယ် ... နော်"

ဘရန်းဒီးက အဖြေမပေး။ လက်ပြပြီး မော်တော်ကားကို အမြန် မောင်းဖို့သာ ခိုင်းနေသည်။

"မြန်မြန်မောင်း ... ကွာ။ မြန်မြန် ... "

သူသည် အချိန်အတော်ကြာမျှ ညဉ်မိနေပြန်သည်။ ပြီးမှ သူ့ကိုယ်သူ ပြောနေသည့် အလား စကားတခွန်း ပြောသည်။

"ငါ့သားကို လိုက်ရှာနေတာ"

"နီကိုလတ်စ် ... လား" ဟု ဘာတန်က တအံ့တသြ ရေရွတ်သည်။

"သူ အခု တော်ရီဒိုမှာ ရောက် နေသလား"

http://www.shwezinu.com/


"အဲဒီကို သွားမယ်ဆိုပြီး နေ့လယ်ကတည်းက ထွက်သွားတယ်လို့ ပြောတယ်၊ ဟိုကိုရောက်မယ် မရောက်ဘူး ဆိုတာတော့ အတိအကျ မသိဘူး"

"ဒီလိုဆိုယင်တော့ ရှာလို့တွေ့မှာပါ၊ စိတ် သိပ်ပူမနေပါနဲ့ ခင်ဗျာ"ဟု ဘာတန်က နှစ်သိမ့်စကား ပြောသည်။

ဘာတန်၏ အားပေးစကားသည် သူ့နှလုံးသားကို ဓားထက်ထက်နှင့် ထိုးစိုက်လိုက်သည့်နှယ် ဖြစ် သွားသည်။ သူ့လက်တဘက်သည် ဘာတန်၏ လက်တဘက်ကို လှမ်း၍ ဆုပ်ကိုင် ဖျစ်ညှစ်ထား သည်။

"ငါ့မှာ ဒီလို ဖြစ်သွားစေချင်တဲ့ စိတ်မရှိခဲ့ပါဘူး ဘာတန်ရယ်၊ ယုံပါ၊ တကယ်ပြောတာပါ" ဟု ယူကျုံးမရ ဖြစ်လွန်း သော အသံဖြင့် ရေရွတ်သည်။ ဘာတန်က သူ့မျက်နှာကို တအံ့တသြ မော့်ကြည့်သည်။ သူကတော့ ပြန်မကြည့်။ မိုးရေများ ရွဲစိုနေသော ကားပြတင်းမှ အပြင်သို့ ငေးကြည့်နေ သည်။

မော်တော်ကားသည် ကားလမ်းမကြီးပေါ်မှ ဖဲ့ဆင်းကာ တော်လမ်းပေါ် ရောက်လာသည်။ ထို့နောက် တောင်ပေါ်လမ်းများပေါ်သို့ တက်စပြုနေသည်။ လမ်းချိုးလမ်းကွေ့များနှင့်လည်း မကြာ ခဏ ကြုံရသည်။ တခါတရံ ကားသည် ရွှံ့ထူထပ်သော လမ်းပေါ်ဂယ် ချော်သွား တတ်သည်။ မော်တော်ကား ရှေ့မီးနှစ်လုံးဆီမှ ဂါထိန်သော မီးရောင်သည် လူသူကင်းမဲ့နေသော လမ်းပေါ်သို့ ထိုးကျလျက် ရှိလေသည်။

http://www.shwezinu.com/



တနေရာတွင် ဘာတန်၏နှုတ်မှ ဂမ်းသာအားရ ရေရွတ်သံတချက် ထွက်လာသည်။ ကောင်စစ်ဂန် က မျှော်လင့်ချက်ကြီးစွာဖြင့် ခေါင်းထောင်ကြည့်သည်။ ကားမီးရှေ့ မီးရောင်အောက်တွင် လူတယောက်…။ သို့သော်လည်း ထိုလူမှာ ညဘက် အလုပ်ဆင်း လာသည့် လယ်ယာလုပ်သား တဦး…။

နောက်ဆုံးတွင် မော်တော်ကား ရပ်သွားသည်။ "တော်ရီဒိုကို ရောက်ပြီ" ဟု ကားသမားက ပြော သည်။

"ကားကို ဘာပြုလို့ ရပ်ရတာလဲ" ဟု ကောင်စစ်ဂန်က မေးသည်။

" ဆီညော်က တော်ရီဒိုကို သွားမယ်လို့ ပြောခဲ့တာပဲ၊ အခု ကျွန်တော်တို့ တော်ရီဒိုကို ရောက်ပြီ" ဟု ကားသမား က ပြန်ဖြေသည်။

"ကိစ္စ မရှိဘူး။ ကားကို ဆက်မောင်း" ဟု ဘရန်းဒီးက ခိုင်းသည်။

"ကျွန်တော်တို့ ဒီမှာ ခဏတဖြုတ် ဆင်းပြီး သတင်းလေး ဘာလေးရလိုရငြား စုံစမ်းကြည့်ယင် မကောင်း ဘူးလား"

ဘာတန်က လိမ္မာပါးနပ်စွာဖြင့် အကြံပြုသည်။ လက်မှ နာရီကိုလည်း တချက် မျှောက်ကြည့် သည်။ ဆယ့်တနာရီ ထိုးပြီး၍ ငါးမိနစ်ပင် ရှိလေပြီ။

"အချိန်ကအတော်ကြီးကို နောက်ကျနေပြီ"

http://www.shwezinu.com/


"ဆက်သာ မောင်းပါကွာ" ဟု ကောင်စစ်ဝန်က ဆိုသည်။ ကားသမားသည် စိတ်ရှုပ်ဟန်ဖြင့် ပခုံးများကို တွန့်လိုက် ပြီး ဆက်မောင်းသည်။ မော်တော်ကားသည် ရွာငယ်ကလေးတရွာကို ကျော်ဖြတ် လာခဲ့လေ သည်။

ရွာငယ်၏ တဘက်သို့ ရောက်သောအခါ လမ်းသည် ပိုဆိုးလာသည်။ ရေတိုက်စား ထားသဖြင့် ချိုင့်တွေခွက်တွေနှင့် ပြည့်လာသည်။ မော်တော်ကား မှာ ပက်ကျိလမ်းသွားသည့်နှယ် ဖြစ်လာ သည်။ လမ်းပေါ်တွင် ဘာမှ ထူးထူးခြားခြား မမြင်ရ။ ကားသမားက နောက်သို့ လှည့်ပြီး ဘာတန်ကို ကြည့်သည်။ ထိုအခိုက်မှာပင် လမ်း၏ အစွန်းတဘက်တွင် မည်းမည်း အရိပ်တခုကို လှမ်းမြင်လိုက်ရ ၏။

"ဟိုမှာ ... နီကိုလတ်စ်" ဟု ဘာတန်က အော်သည်။

ကောင်စစ်ဝန်သည် ကားပြတင်းမှနေ၍ အပြင်သို့ ကြည့်သည်။ သူ့မျက်နှာထားမှာ လူကောင်း တယောက်နှင့် မတူ။ ရုတ်တရက် စိတ်ဖောက်ပြန်သွားသူ တဦးနှင့် တူနေသည်။ သူ့အနေဖြင့် သူ့သားကို အသက်ရှင်လျက် ပြန်တွေ့ရတော့မည် မဟုတ်ဟု အခိုင်အမာ တွက်ထားသည် ဖြစ်ရာ ဘာတန်၏ စကားကို မယုံကြည် နိုင်အောင် ဖြစ်လျက် ရှိသည်။ အော်သံ ကြားလိုက်ချိန်မှစ၍ သူ့ အကိုယ်လုံး အေးစက် သွားသည်။ သူ့မျက်လုံးများမှာ အဆမတန် ပြူးထွက်လာသည်။ အထင်မဟုတ်...။ သူ့သားမှ သူ့သားအစစ်။

http://www.shwezinu.com/

ကားရှေ့ တည့်တည့်မှ ရပ်၍ ကြည့်နေခြင်း...။ ကျောပိုး အိတ်ကလေးကိုလွယ်လျက်...။ သူ့သား မသေ...။

ကောင်စစ်ဂျန် ၏ နှုတ်မှ အော်သံ တချက် ထွက်လာသည်။ သူသည် ကားတံခါးကို ဆောင့်ဖွင့် လိုက်ပြီး သူ့သား ရှိရာသို့ ပြေးသည်။

"နီကိုလတ်စ်...ဟု အော်ခေါ်သည်။ ပြီးတော့ ရှိုက်ကြီးတငင် ငိုသည်။ "သား...၊ သား၊ ငါ့သားလေး"

***************

http://www.shwezinu.com/

# အခန်း (၂၂)

ဤအဖြစ်နှင့် ကြုံခဲ့ရပြီးသည့်နောက် ခုနစ်လအကြာ ဆောင်းရာသီ၏ အေးမြသော တညနေခင်းတွင် ဖြစ်သည်။ စတော့ဟုမ်းမြို့မှ ထွက်လာခဲ့ပြီး နော်လစ်ဂျာဖို့ဒ်မြို့ကို ဖြတ်သန်းလာခဲ့သော မီးသင်္ဘောကြီး တစီးသည် သာယာစူးရှသော ဥသြသံနှစ်ချက်ကို ဆက်တိုက်ပေးလိုက်ပြီး ဆွီဒင်နိုင်ငံ ၏ ဆိပ်ကမ်း မြို့တမြို့ ဖြစ်သော ဟေးလ်ဗာရှီးဆိပ်ကမ်းဆီသို့ ချဉ်းကပ်လျက် ရှိလေ၏။

ဥသြသံနှင့် မရေးမနှောင်းမှာပင် ခရီးသည်အစုကို တင်ဆောင်ထားသော လှေတစီးသည် သင်္ဘောဆီမှ ထွက် ခွာလာသည်။ ထိုလှေပေါ်တွင် အမေရိကန်နိုင်ငံဆိုင်ရာ ကောင်စစ်ဝန်အသစ်ပါလာသည်။ ကောင် စစ်ဝန် သည် သူလာမည့်အကြောင်း ကြိုတင်၍အကြောင်းကြားထားခြင်း မရှိခဲ့သဖြင့် သူ့ရုံးမှ လာ ရောက်ကြိုဆိုမည့်သူ တဦးတယောက်မှ မရှိခဲ့ပေ။ သို့သော်လည်း သူ့ကိုယ်သူ ဆိပ်ကမ်းအရာရှိ ဖြစ်ပါသည် ဟု ပြောဆိုမိတ်ဆက်ခဲ့သော မစ္စတာ အန်ဒါဆင်သည် အရပ်ပုပု၊ မုတ်ဆိတ်မွေးရှည် ရှည်နှင့် အပြာရောင် ကုတ်အကျႌ ဝတ်ထားသည်။ သူသည် နှစ်လိုဖွယ်ကောင်းသော အပြုံးဖြင့် ကောင်စစ်ဝန်အား ဆီးကြို သည်။ မစ္စတာ ဘရန်းဒီးအမည်ရှိ ကောင်စစ်ဝန်နှင့် သူ့သားတို့ ရောက် လာကြမည်ဖြစ်၍ ကြိုဆို နှုတ်ဆက်ပြီး လိုအပ်သော

http://www.shwezinu.com/



အကူအညီ ပေးလိုက်ပါဟု သူ၏သဘော်ာ ကုမ္ပဏီမှ ကြိုတင် အကြောင်းကြားထားသဖြင့် ယခုကဲ့သို့ လာရောက်တွေ့ဆုံခြင်း ဖြစ်ပါသည်ဟု မစ္စတာအန်ဒါဆင်က ပြောပြလေသည်။

မြို့သည် ဖြူဖွေးသော ဆီးနှင်းခဲများ အောက်တွင် နစ်မြုပ်လျက်ရှိ၏။ မိုးကောင်းကင်သည် ရေတွက်၍ မရနိုင်လောက်အောင် များပြားလှသည့် ကြယ်ပေါင်းစုံ၏ အလင်းရောင်ဖြင့် ဖင်းသက် တောက်ပ နေပေသည်။ ဆိပ်ကမ်းအကောက်ခွန်ရုံးဘက်ဆီသို့ အဆက်မပြတ် တိုက်ခတ်လာနေ သော မြောက်လေ သည် စူးစူးရှရှ အေးမြလှပေသည်။ ခင်ခင်မင်မင်နှင့် ဖော်ဖော်ရွေရွေပြောဆို ဆက်ဆံတတ်ပုံရသော အန်ဒါဆင် က ညစာကိုသူ့အိမ်၌ စားရန် ဖိတ်မန္တကပြုသည်။ သို့သော် လည်း ကောင်စစ်ဝန်က ညစာကို သဘော် ပေါ်မှာပင် စားသောက်ခဲ့ပြီးခဲ့ပြီဖြစ်၍ တကြောင်း၊ မကြာ သေးမီကမှ ကျန်းမာလာသော သူ့သား ခရီးပန်း နေပြီဖြစ်၍ စောစောစီးစီး နားလိုခြင်းကြောင့် တကြောင်း သူတို့နေထိုင်ရမည့် အိမ်ကိုသာ လိုက်ပို့ ပေးရန် မေတ္တာရပ်ခံသည်။

မစ္စတာအန်ဒါဆင်က ချက်ချင်းပင် သူတို့သားအဖအား လိုက်ပို့ပေးသည်။ သူတို့အိမ်မှာ သဘော်ာကျင်းနှင့် များစွာမဝေးလှပေ။ နေချင့်စဖွယ် ကောင်းအောင် သပ်ရပ်လှပသည့် အဆောက် အအုံ ကလေး ဖြစ်သည်။ မတ်စောက်သော ခေါင်မိုးနှင့် ခေါင်မိုးတွင်ဖောက်၍ တပ်ဆင်ထားသော ပြတင်းပေါက် မှာ သူတို့မျက်စိတွင် အထူးအဆန်း

http://www.shwezinu.com/

ဖြစ်နေသည်။ သို့သော်လည်း အဆောက်အအုံ မှာ အလွန် ခိုင်မာ တောင့်တင်း သည့်ပုံ ပေါက်နေသည်။

အိမ်၏အနောက်ဘက် အမြင့်ပေါ်တွင် ရုံး အမှုထမ်း နေအိမ်များရှိသည်။ ကောင်စစ်ဝန်ရုံးကတော့ အောက်ဘက် အနိမ့်ထဲတွင်ဖြစ်သည်။ ကောင်စစ်ဝန်ရုံးနှင့် ကောင်စစ်ဝန်၏ နေအိမ်သည် တဆက်တည်း လိုပင် ဖြစ်သည်။ သူ့အိမ်တံခါးမှ ထွက်လျှင် ခြေလှမ်းအနည်းငယ်မျှနှင့် ရုံးသို့ ရောက်နိုင်ပေသည်။ ကောင်စစ်ဝန် တို့အတွက် ဤ တည လိုအပ်သမျှ ကူညီလုပ်ကိုင်ပေးနိုင်ရန် သူ့မိန်းမကို ပြန်ခေါ်ဦးမှ ဖြစ်မည် ဟု အန်ဒါဆင်က ဆို သည်။ နွားနို့ပူပူ တယောက်တခွက် သောက်နိုင်ဖို့။ ပြီးတော့ သူ့မိန်းမတွင် အပိုဆောင်ထားသည့် ပင်လယ်ဂမ်းဘဲမွေးနှင့် ရက်လုပ်ထားသော စောင်နှစ်ထည် ယူဖို့လိုသည်ဟု အန်ဒါဆင်က ပြော သည်။ သို့သော်လည်း ကောင်စစ်ဝန်က ငြင်းသည်။

သူသည် ခရီးပန်းလာသည့် ကြားမှာပင် သူနေရမည့်အိမ်ကို စေ့စေ့စပ်စပ် ကြည့်ရှုလေ့လာ သည်။ အိမ်ကတော့ သန့်ရှင်းသည်။ နေလို့ထိုင်လို့ဖြစ်အောင် ကျယ်ကျယ်ဝန်းဝန်း ရှိသည်ဟု ဆုံး ဖြတ်ထားသည်။ အိပ်ရာများမှာလည်း အသင့်ခင်းကျင်းပြင်ဆင်ထားပြီးဖြစ်သည်။ သူတို့ သားအဖ မှာ အခုလို မကြာခဏ ပြောင်းရွှေ့ခဲ့ရဖူးသူများဖြစ်၍ အတွေ့အကြုံ များလှပါပြီဟု ကောင်စစ်ဝန်က ဆိပ်ကမ်းအရာရှိအား ပြောသည်။ မနက်ဖြန်မနက်ကျလျှင် ဆွီဒင်လူမျိုးများ စားသောက်လေ့ရှိ သည့် နံနက်စာ

http://www.shwezinu.com/

ကိုတော့ သူက ကျေးပါရစေဟု အန်ဒါဆင်က ထပ်ပြောပြန်သည်။ ကောင်စစ်ဝန်က လက်ခံကာ ကျေးဇူးတင် စကားဆိုသည်။ ထို့နောက် မနက်စောစော သူကိုယ်တိုင် လာခေါ်ပါမည် ဟုပြောကာ ပြန်သွား လေ၏။

ကောင်စစ်ဝန်သည် ပြောင်လက်တောက်ပနေသော လှေကား လက်ရန်းကို ကိုင်၍ အိမ် အပေါ်ထပ်သို့ တက်ခဲ့သည်။ ထိုအခါကျမှပင် သူ၏ ပင်ပန်း နွမ်းနယ်မှုကို သတိထားမိ၏။ သူ့အ ခြေအနေမှာ ယခင် ကနှင့် မတူ။ ကုန်လွန်ခဲ့ပြီးသော လ အနည်းငယ်မျှ အတွင်းတွင် သိသိသာသာ ကြီး ပြောင်းလဲ လာခဲ့သည်ဟု သူထင်သည်။ အနည်းငယ် လှုပ်ရှားသွားလာရုံမျှဖြင့် မောလွယ် ပန်းလွယ်သည်။ ရပ်ရည်ကလည်း အလွန် အိုစာ ကျလာသည်ဟု သူ့ကိုယ်သူ ထင်မိ၏။ သူ့ပခုံးများ သည်ပင်လျှင် ယခင်ကလို သန်သန်မာမာ တောင့်တောင့် ရောင့်ရောင့်မရှိ။ အောက်သို့ လျှောကျ နေသည်ဟုထင်၏။ သူ့ဆံပင်မှာလည်း ဖြူရောင် သမ်းကာ မွဲခြောက်ခြောက်ဖြစ်စ ပြုနေပေပြီ။ ယနေ့ညဆိုလျှင် သူ့အဖြစ်မှာ ပို၍ သိသာနေသည်။ ကိုယ်ကာယ ပင်ပန်းနွမ်းနယ်မှုကြောင့် သူ့ မျက်လုံးများသည် ကြည်လင်တောက်ပခြင်း ကင်းမဲ့လျက်ရှိ၏။ သူ့မျက်လုံး များထဲ၌ အမြဲတစေ တွေ့မြင်ရတတ်သော မာန်မာန အရိပ်အငွေ့များသည်ပင်လျှင် ကွယ်ပျောက် လျက်ရှိ၏။ သောက ဖိစီးခြင်းကို ခံခဲ့ရသည့် ဒဏ်ရာဒဏ်ချက်များကတော့ သူ့မျက်နှာတွင် အထင်အရှား ပေါ်လွင်လျက် ရှိပေသည်။

http://www.shwezinu.com/



မည်သို့ပင်ဖြစ်စေ နေရာသစ်သို့ ပြောင်းရွှေ့လာခဲ့ရခြင်းသည် သူ့အတွက် သက်သာရာ ရခြင်းတမျိုးပင် ဖြစ်ပေသည်။ တချိန်သောအခါက သူမုန်းတီး ရွံရှာခဲ့ဖူးသည့် ဘောလီသည် သူ့နေ ရာတွင် အေလ်ဗင်ဘာတန်အား ရာထူးတိုးမြင့်ခန့်ထားပြီး သူ့အား ဆန်ဂျော့ဂျီမှ အမြန်ဆုံး ပြောင်းရွှေ့ပေးသင့်ကြောင်း ထောက်ခံခဲ့သည်မှာ သံသယဖြစ်စရာ မလိုပေ။ အမှန်တော့လည်း ဆန်ဂျော့ဂျီ မြို့သူမြို့သားများသည် ဂျူစီ ကိစ္စနှင့်ပတ်သက်၍ သူ့အပေါ် မကျေမနပ် ဖြစ်ခဲ့ကြသည်။ သူ့အား မနှစ်မြို့ခြင်း ကိုလည်း အထင် အရှား ပင် ဖော်ပြခဲ့ကြသည်။

သူ့သားငယ် နီကိုလတ်စ်မှာလည်း ကြုံခဲ့ရသည့် အဖြစ်ကြောင့် ကိုယ်ရော စိတ်ပါ ထိခိုက်ခဲ့ရ၏။ အမြဲတစေ ဂရုတစိုက် ပြုစု စောင့်ရှောက်မှု ကြောင့် သူ့အနေဖြင့် ထူထူထောင်ထောင် ဖြစ်လာ ခဲ့သော်လည်း စိတ်ကတော့ နာလန်မထူခဲ့ပေ။ ပျော်ရွှင်သာယာခြင်း ကင်းမဲ့ကာ တမှိုင်မှိုင် တတွေ တွေဖြင့် အချိန် ကုန်နေသည်က များ၏။ အလွန် စိတ်ထိခိုက်ဖွယ်ကောင်းလှသော ဖြစ်ရပ်သည် သူ့ ခေါင်းထဲမှ ထွက်ဟန်မတူ။

ဤ ပတ်ဂန်းကျင်တွင် နေသမျှကာလပတ်လုံး အတိတ်က ဖြစ်ရပ်များကို နေ့စဉ်နေ့တိုင်း သတိရ နေမည်သာ ဖြစ်သည်။ ထို့ကြောင့်လည်း ဆန်ဂျော့ဂျီမှ ပြောင်းရွှေ့လာခဲ့ရခြင်းအတွက် သူ ဂမ်းသာခဲ့ရ၏။ ကမ္ဘာ့မြောက်ဖျားမှ ဆီးနှင်းခဲများ ကျဆင်းရာ ဤဒေသသည် သူ့ အတွက်ရော နီကိုလတ်စ်အတွက်ပါ များစွာ အဆင်ပြေလာလိမ့်မည်ဟု မျှော်လင့်ရသည်။

http://www.shwezinu.com/



နောက်ဆုံးတနေ့ သူ့အတွက် အဆင်မပြေဦးတော့။ အနည်းဆုံး သူ့သား နီကိုလတ်စ်အတွက် အပြောင်း အလဲဖြစ်ကာ အဆင်ပြေသွားနိုင်မည်ဆိုလျှင်ပင် သူ ကျေနပ်နိုင် မည်ဖြစ်၏။ သူ့အတွက်ကတော့ အဆင်မပြေ၍လည်း ဘာမှ ထိခိုက်နစ်နာစရာအကြောင်း မရှိတော့ဟု အခိုင်အမာ ယုံကြည်ထားပြီး ဖြစ်လေသည်။

သူသည် ဖြစ်ပေါ်လာခဲ့သမျှ ဒုက္ခ သုက္ခများကို တည်တည်ငြိမ်ငြိမ်နှင့်ပင် ရင်ဆိုင်ခဲ့၏။ ကံ ကြမ္မာ၏ ပြင်းထန်သော ရိုက်ပုတ်ချက်များကိုလည်း ရဲရဲဝံ့ဝံ့ပင် ခုခံတွန်းလှန်ခဲ့၏။ သူ၏ အောင်မြင် ကျော်ကြားလိုစိတ်နှင့် ကြီးမြင့်လိုစိတ်များ ကိုလည်း ယခင်ကလို ရှေ့တန်းမတင်တော့။ သူ့သား အတွက် ဦးစားပေး ရမည်ဖြစ်၍ စွန့်လွှတ်လိုက်ပြီ ဖြစ်သည်။

အနစ်သာရ ကင်းမဲ့သော ဘဝတွင် စိတ်ပြေစရာ များကိုသာ ရှာကြံယူခဲ့ခြင်းဖြင့် သူ့ဘဝကို အေးငြိမ်း သာယာအောင် ပြုပြင်ဖန်တီးခဲ့သည်။ အနစ်နစ် အလလက ထားခဲ့သော သူ့မာန်မာနမှာလည်း လုံးဝ ပျက်သုဉ်း မသွားသည့် တိုင်အောင် တပိုင်းစီ တစစီတော့ ဖြစ်သွားခဲ့ရလေပြီ။ ဤအပျက်အစီးများ ကြားမှပင် ပို၍ ကောင်းမွန်ပြီး ပို၍ မွန် မြတ်သည့် ပန်းတပွင့်သည် ပွင့်လန်းလာခဲ့ရလေပြီ။ အခု အချိန်မှစ၍ သူသည် ရသမျှ ဖြစ်သမျှနှင့် ရောင့်ရဲသွားဖို့ရန်သာ ရှိတော့၏။ သူ၏ ဘဝနေဝင်ချိန်ကာလတွင် လမ်းကို သာသာ ဖြည်းဖြည်း နှင့် မှန်မှန်သာလျှောက်သွားဖို့ လိုသည်ဟု ယူဆထားသည်။

http://www.shwezinu.com/



နှစ်ပေါင်း များစွာ သူကြိုးစားအားထုတ်၍ ပြုစုထားခဲ့သော မေဘာရန်းရှိုး စာမူနှင့် ပတ်သက်၍ လည်း စိတ်ထိခိုက်ခြင်း မဖြစ်တော့ပေ။ ယုတ်မာမိုက်မဲသော အစေခံတဦး၏ ဖျက်ဆီးမှုကြောင့် ပျက်စီးဆုံးရှုံး သွားခဲ့ရသော ထိုစာမူအကြောင်းကို စဉ်းစားမိသောအခါ နမြောခြင်း ဖြစ်မိသော်လည်း အကြီးအကျယ် ဂမ်းနည်း ကြေကွဲခြင်းကား မရှိတော့ပေ။ မည်သို့ပင်ဖြစ်စေ ဖြစ်သမျှ အကြောင်း အကောင်းချည်းပဲဟူသော ခံယူချက် သည် သူ့စိတ်ကို ချမ်းသာစေခဲ့သည်မှာအမှန်။

အပေါ်ထပ်တွင် နီကိုလတ်စ်သည် အိပ်ရာထဲရောက်နေပြီဖြစ်သည်။ သူ့မျက်လုံးများကိုပင် မှေးမှိတ်ထားပြီ ဖြစ်သည်။ ခြုံထားသည့်စောင်မှာ သူ့မေးစေ့ကို ထိလျက်ရှိ၏။ နီကိုလတ်စ်မှာ လည်း သိသိ သာသာ ပင် ပြောင်းလဲလျက် ရှိလေပြီ။ သူ့အရပ်သည် ရှည်ထွက်လာခဲ့ပြီဖြစ်သည်။ ဆန့်တန်း ထားသော ခြေနှစ်ချောင်း သည် ပိန်ပါးပါး...။ ကလေးတယောက်၏ အသွင်အပြင်များ သည် မရှိသလောက်ဖြစ်နေပြီ။ သူ့မျက်နှာ သည် ကြံ့ခိုင်သော စိတ်ဓာတ်ကို ဖော်ပြလျက်ရှိ၏။ ဤ စိတ်ဓာတ်မှာ သူ့အဖေ၌ မရှိသော စိတ်ဓာတ် ဟု ဆိုရမည်ဖြစ်သည်။ ကောင်စစ်ဂန်သည် သူ့သား၏ မျက်နှာကို စိမ့်စိမ့်ကြည့်ယင်း "ငါ့သားလေး ကြီးလာပါပကောလား" ဟူသော အတွေးဝင် လာသည်။ သူသည် မသိမသာကလေး သက်ပြင်း ချလိုက်မိ၏။

' မင်း အိပ်မပျော်သေးဘူးလား နီကိုလတ်စ်'

http://www.shwezinu.com/



"မပျော်သေးဘူး" ဖေဖေ ဟု ဖြေလိုက်သော်လည်း မျက်လုံးများကိုတော့ မဖွင့်ပေ။

"ဖေဖေတို့ သားအဖ နေရာသစ်တခုကို ရောက်ကြပြန်ပြီ၊ မြို့ကလေး ကတော့ နေလို့ ကောင်းမယ့်ပုံပဲ၊ သား သဘောကျလိမ့်မယ်လို့ ဖေဖေ ထင်တယ်"

"အနည်းဆုံး...ဥယျာဉ်တော့ မရှိဘူး မဟုတ်လား"

"အင်း..."

ကောင်စစ်ဝန်က စိတ်မကောင်းဖြစ်သွားသည့်နှယ် လေးလေးတွဲ့တွဲ့ အင်းလိုက်သည်။

"ဟုတ်တယ်...၊ ဥယျာဉ်တော့မရှိဘူး"

အချိန် အတော်ကြာမျှ ငြိမ်ဆိတ်လျက်ရှိသည်။ သူချစ်သော သားသည် သူ့ဆီသို့ပြန်မှ ရောက်ပါလေစ...၊ အခု အချိန်ထိ သူနှင့်အလှမ်းကွာဝေးသော နေရာမှပင် ရှိနေလေသလား...။ သူ့ ဘဝတသက်တာတွင် ဘယ်တော့မှ မေ့ပျောက်၍ မရနိုင်သည့် ကြောက်စရာ့မြင်ကွင်းများသည် သူ့ စိတ်အာရုံတွင် ပြန်လည် ထင်ဟပ် လာသည်။ ထိုညက သားအဖချင်း ပြန်လည် ဆုံတွေ့ခဲ့ကြပြီးသည့်နောက် နီကိုလတ်စ်သည် သူ့အား လုံးဝအတွေ့မခံ။ အနားသို့လည်း လုံးဝ အလာမခံ။ သူ့မျက်နှာ ကိုပင်မကြည့်။ သီတင်းပတ်

http://www.shwezinu.com/



ပေါင်းများစွာပင် သူ့သား၏ အမြင်ကို မခံပွဲသည့်အဖြစ်...။ သူ့ကို မမြင်လိုက်နှင့်၊ မြင်လိုက်သည်နှင့် တပြိုင်နက် သူ့နှလုံးသားကို ထိခိုက်ကြေကွဲဖွယ်သော စကားတခွန်း ကို ပြောတတ်သည်။

'ခင်ဗျားကို ကျွန်တော် သိပ်မုန်းတယ်'

ကံမကောင်း အကြောင်းမလှသော ဂျိုစီအဖြစ်ကို သိလိုက်သည့် အချိန်မှစ၍ နီကိုလတ်စ် သည် သူနှင့် ကင်းကွာ သွားခဲ့ရ၏။ ထိုအချိန်မှစ၍ နီကိုလတ်စ်သည် စကားလည်းမပြော။ သူ့အနား ကိုလည်းမလာ။ သူ သွားပြန်လျှင်လည်း အကပ်မခံ။ နောက်ဆုံးတွင် နီကိုလတ်စ်သည် သူ့အား စကားပြန်ပြောစပြုသည်။ ပထမဆုံး စကားစပြောသည်မှာ သူ့အမေအကြောင်း ဖြစ်၏။

သူ့အမေ၏ ဓာတ်ပုံကို သူ့အိပ်ရာဘေး၌ထားပေးပါဟု ပြောသည်။ ပြီးတော့ သူ့အမေ၏လိပ်စာကို တောင်း သည်။ သူ့အမေနှင့်သူ ဘယ်တော့ တွေ့ရမလဲဟု မေးသည်။ သားအဖချင်း ဆုံမိတိုင်း သူ့အမေ အကြောင်းကိုသာ မေးလေ့ရှိသဖြင့် ဘရန်းဒီးမှာ စိတ်ထိခိုက်ကြေကွဲခြင်း ဖြစ်ခဲ့ရလေသည်။

အခုလည်း နီကိုလတ်စ်သည် အိပ်သေးသည်မဟုတ်။ တစုံတခုကို စဉ်းစား တွေးတောနေ ဟန်ရှိသည်။ သူ ထင်သည့်တိုင်းမလွဲ။ နီကိုလတ်စ်သည် အိပ်ရာထဲမှ လူးလဲထကာ ခေါင်းအုံးပေါ် တံတောင်နှင့်ထောက်၍ ထိုင်လိုက်သည်။

http://www.shwezinu.com/



'ဖေဖေ…၊ ဒီမြို့ကျတော့ သားသား ဘယ်မှာ သွားပြီး စာသင်ရမှာလဲ' ဟု မေးသည်။

'ဘာပြုလို့လဲ သားရဲ့၊ အလျင်တုန်းကလိုပဲ ဖေဖေကိုယ်တိုင် အိမ်မှာ သင်ပေးမှာပေါ့'

'ကျွန်တော် အဲသလို မသင်ချင်တော့ဘူး ဖေဖေ။ ကျွန်တော် ကျောင်းနေချင်တယ်'

ဘရန်းဒီး၏ရင်တွင် ထိတ်ကနဲဖြစ်သွားသည်။

'မဟုတ်သေးဘူးလေ၊ သား…ရဲ့၊ ဒီလို…'

'ကျောင်းတက်ချင်တယ်…ဖေဖေ၊ တခြားကောင်လေးတွေနဲ့ အတူတူရောပြီး စာသင်နိုင် ကစားနိုင်မယ့် နေရာ မှာပဲ ကျွန်တော်နေချင်တယ်၊ ကျွန်တော် တခြား ကောင်လေးတွေနဲ့လဲ သူငယ်ချင်း ဖြစ်ချင်တယ်'

အတန်ကြာမျှ ငြိမ်ဆိတ်နေသည်။

'ကောင်းပြီလေ…၊ သားသား သဘောကျသလို ဖြစ်ရမှာပေါ့၊ ဖေဖေတို့ စဉ်းစားကြတာပေါ့'

နီကိုလတ်စ်က သူ့အဖေ၏မျက်နှာကို စူးစူးစိုက်စိုက် ကြည့်၍ အကဲခတ်သည်။

http://www.shwezinu.com/


'နောက်တခုရှိသေးတယ်...ဖေဖေ၊ ကျွန်တော်... ကျွန်တော် မေမေ့ဆီက စာတစောင်ရ တယ်'

'ဘာ...'

ဘရန်းဒီးက အလန့်တကြား ရေရွတ်လိုက်သည်။ နီကိုလတ်စ် ကတော့ မျက်တောင်များကို ပုတ်ခတ်... ပုတ်ခတ် လုပ်ကာ သူ့အဖေကို ကြည့်နေသည်။

'ဖေဖေ့ကို ကျွန်တော် အသိပေးခဲ့တယ်လေ၊ ကျွန်တော် မေမေ့ဆီ စာရေးခဲ့တယ်၊ ဖေဖေ မှတ်မိတယ် မဟုတ်လား။ ကျွန်တော်...မေမေနဲ့ တွေ့ချင်တယ်...ဖေဖေ၊ ဖြစ်နိုင်ယင် အမြန်ဆုံးကို တွေ့ချင်တယ်'

ဘရန်းဒီးမှာ အငိုက်မိသလို ဖြစ်လျက်ရှိ၏။ ရုတ်တရက် ဘယ်လိုအဖြေပေးရမှန်းမသိ။ နီကိုလတ်စ် ကလည်း သူ့ထံမှ စကားပြန်အပေးကို မစောင့်။

'ဘာပဲဖြစ်ဖြစ်...သူဟာ ကျွန်တော့အမေပါ၊ အမေနဲ့အတူတူ နေနိုင်တဲ့ အခွင့်အရေးဟာ သားသားရဲ့ အခွင့်အရေးပါ၊ ဒီသင်္ဘောဆိပ်ကနေပြီး အမေရိကန်ကိုသွားတဲ့ သင်္ဘောတွေဟာ အများကြီးရှိနေတာပဲ၊ ကနေ့ သားသားတို့ ဒီကိုအလာ လမ်းမှာတောင် တစင်းတွေ့ခဲ့သေးတယ် လေ၊ အခုဆိုယင် သားသားလဲ ကြီးလာပါပြီ၊ သားသားတယောက်တည်း ခရီးသွားမယ်ဆိုလဲ ဖြစ် နေပြီပဲ'

http://www.shwezinu.com/

ကောင်စစ်ဝန်၏ရင်ထဲတွင် ယခင်ကပေါ်လေ့ပေါ်ထရှိသော ဒေါသသည် အစိုင်အခဲနှင့် ပေါ်လာ လျက်ရှိ၏။ သို့သော်လည်း ယခင်ကလို အပြင်သို့ ထွက်လာခြင်းမရှိ။ ချက်ချင်းပင် ပြေ ပျောက်သွား သည်။ ကြေကွဲသောစိတ်ဖြင့် သူ့ဒေါသကို ထိန်းချုပ်သည်။

'သား...ပြောနေတာက...'

သူသည် ခဏမျှ တုံ့ဆိုင်းနေသေးသည်။ ပြီးမှ သူ့စကားကို ပြန်ဆက်သည်။

'သူက သားသားကို သူနဲ့လာနေဖို့ ခေါ်သလား'

'ခေါ်တယ်...ဖေဖေ'

'ဘယ်လောက်ကြာကြာနေဖို့ခေါ်တာလဲ'

နီကိုလတ်စ်က သူ့အားကြည့်၍ အကဲခတ်နေပြန်သည်။

'ဒါကတော့ ဖေဖေအပေါ်မှာ တည်တာပဲ၊ နောက်ပြီးတော့ သားသား အပေါ်မှာလဲ တည်တာပေါ့၊ တခုတော့ ရှိတယ်...ဖေဖေ၊ ကျွန်တော့်အနေနဲ့ တခါတရံ အမေနဲ့လဲ တလှည့်လောက်တော့ နေသင့် တယ်လို့ ထင်တယ်၊ ဒါမှလဲ သားသားဘက်က တရားမျှတရာ ရောက်မှာပေါ့...၊ ဒါမှလဲ အားလုံးအတွက် အဆင်ပြေ မှာပေါ့'

http://www.shwezinu.com/



ဘရန်းဒီးသည် ခေါင်းငိုက်စိုက်ကျလျက် ရှိသည်။ သူ့မှာ ထွက်ပေါက်ပိတ်လျက်ရှိ၏။ သား နှင့်အမိကြား တွင် စာအသွားအလာရှိနေသည်ဟု သူ သံသယဖြစ်နေခဲ့သည်မှာ ကြာပြီ။ စာအဆက် အသွယ်လုပ်ရာမှ သားအမိ ချင်း ပြန်လည်ပေါင်းစည်းရေးဟူသော ပြဿနာ ဝင်လာလိမ့်မည်ဟု တွေးတော စိုးရိမ်မိခဲ့သည်မှာ ကြာပြီ။ အခုတော့ သူ့အတွေး အထင်သည် မှန်နေပေပြီ။ မဂေးလှ သေးသော အချိန်တချိန်က စပိန် လူငယ် တယောက်သည် သူတို့သားအဖနှစ်ယောက်၏ ဘဝထဲကို ကျူးကျော်ဝင်ရောက်ခဲ့၏။ အခုတဖန် တယောက် ပေါ်လာပြန်ပြီ။ တခြားလူတော့ မဟုတ်။ သူ့ဇနီး မာရီယွန်...။ သူ့အား မြှုပ်နှံထားခဲ့သည့် သင်္ချိုင်းဂူ ထဲမှ တဖန် ပြန်၍ အသက်ဝင်ပြီး ထလာသူ...။ သူ့အပေါ်၌ သူ့သားက ပေးအပ်ထားသည့် ချစ်မေတ္တာ ကို ခိုးယူဖို့ရောက်လာခြင်း...။

ဒါကိုတော့ ဘယ်နည်းနှင့်မှ အဖြစ်မခံနိုင်။ ဒါကိုတော့ သူ ခွင့်ပြု၍ မဖြစ်။ ဘယ်နည်းနှင့်မှ မဖြစ်။ ဒါကိုသာ သူခွင့်ပြု လိုက်လျှင် သူ၏ သာယာပျော်ရွှင်မှု ဟူသမျှသည် ဆိတ်သုဉ်းရပေတော့မည်။

'ဘယ်လိုလဲ...ဖေဖေ၊ ဖေဖေ သဘောတူတယ် မဟုတ်လား၊ သားသားသွားနိုင်အောင် ဖေဖေ စီစဉ် ပေးမယ်မဟုတ်လားဟင်'

http://www.shwezinu.com/



အဖြေမပေး။ ကောင်စစ်ဝန်၏ ဦးခေါင်းသည် ငိုက်စိုက်ကျဆဲ...။ သူသည် တွေဝေငေးမော လျက်ရှိသည်။ ထို့နောက် သူ့သားအား တချက်လှမ်းကြည့်သည်။ သူ၏ကြေကွဲမှုဝေဒနာကို မျို သိပ်ထားသည်။

'လွန်ခဲ့တဲ့ လတွေက သားသားနဲ့ဖေဖေတို့ကြားမှာ အဖြစ်အပျက်တွေ အများကြီး ဖြစ်ခဲ့ တယ်၊ ဒီဖြစ်ရပ်တွေနဲ့ပတ်သက်လို့ ဖေဖေ့မှာ အပြစ်ဆိုစရာ ရှိချင်လဲ ရှိခဲ့လိမ့်မယ်၊ ဒါပေမယ့် ဖေဖေကတော့ ဖေဖေ့ရဲ့ ကိုယ်ကျင့်တရားအပေါ်မှာ ယုံကြည်စိတ်ချမိတယ်၊ ဖေဖေရဲ့ကိုယ်ကျင့် တရားဟာ အပြစ် ကင်းစင် တယ်လို့ပဲ ယူဆတယ်၊ ဒါကို ဘုရားသခင်ကတော့ သိမှာပါ၊ တကယ်လို့ ဖေဖေ့မှာ အပြစ် မကင်းဘူး ဆိုယင်လဲ ဖေဖေ့လုပ်ရပ်အတွက် ဂမ်းနည်းတာ အမှန်ပါ၊ ဒါပေမယ့်... နောက်ထပ်... ကံဆိုး မိုးမှောင် ကျစေမယ့် အဖြစ်မျိုး မလုပ်မိအောင်တော့ ဖေဖေတို့ သတိထားကြရ မယ်၊ အထူးသဖြင့် ဖေဖေနဲ့ သားသား တို့နှစ်ယောက် ချစ်ခင်နေကြတာလေးကို ဖျက်ဆီးမပစ်မိ အောင် သတိထားဖို့လိုတယ်'

နောက်တကြိမ်ပြန်၍ ငြိမ်ဆိတ်သွားသည်။ ကောင်စစ်ဝန်ကတော့ သက်ပြင်းရှည်ကြီးကို လေးလေးတွဲ့တွဲ့ ချလိုက်ကာ ထိုင်ရာမှထသည်၊ ပြီးမှ အိပ်ခန်းတံခါးဆီသို့ ဖြည်းညင်းစွာ လျှောက် သွားသည်။ တံခါးဝသို့ မရောက်မီ ဝင်လာသော အတွေးတခုကြောင့် နောက်သို့ ပြန်လှည့်လာပြီး သူ့သား၏ အိပ်ရာဘေး တွင်ရပ်သည်။

http://www.shwezinu.com/


'ကနေ့ည သားသားကို ဖေဖေစာဖတ်မပြရတော့ဘူးလား'

နီကိုလတ်စ်က မျက်လွှာချလိုက်သည်။ သူ့အမူအရာက ငြင်းပယ်တော့မည်ဟန် ဖြစ်သည်။ ထို့နောက် တစုံတခု သော အတွေးကြောင့် စိတ်ပြောင်းသွားဟန် တူသည်။

'တကယ်လို့ ဖေဖေ ဖတ်ပြချင်တယ်ဆိုယင် သားသား နားထောင်ပါမယ်'

ကောင်စစ်ဂန် မျက်နှာတွင် အပြုံးရိပ်ဝင်လာသည်။ သူသည် တဘက်သော အခန်းသို့ ကူးသွားသည်။ ပြန်ဝင် လာသောအခါ သူ့လက်ထဲတွင် သားရေဖုံး စာအုပ်တအုပ် ပါလာသည်။ သူသည် ချောင်း တချက် ဟန့်လိုက်လေသည်။

'ဖေဖေတို့က ညငှက်ကြီးတွေအကြောင်း ရေးထားတဲ့အခန်းကို ဖတ်ကြရအောင်၊ သိပ်ပြီး စိတ်ဝင်စား စရာကောင်းတယ်...၊ ဖေဖေတို့ အခုလို အတူတူ ထိုင်ပြီး စာမဖတ်ရတာ ကြာပါပကောလား'

ကောင်စစ်ဂန်သည် သူ့သား၏ ခုတင်စွန်းတွင် ဝင်ထိုင်လိုက်ပြီး မျက်မှန်ကို ပင့်တင်လိုက် ကာ စာအုပ်ကို ဖတ်သည်။

'ကြက်ဆင်သည် အိမ်မွေး ကြက်ငှက် အကောင်ကြီးမျိုးဖြစ်သည်။ သူ၏ အမွေးအတောင်များသည် ဥဒေါင်းငှက်၏ အမွေးအတောင်များကဲ့သို့ပင် လှပ

http://www.shwezinu.com/


ခန့်ညားသည်။ အမေရိကတိုက်တွင် စတင် ပေါက်ဖွား သည့် ငှက်မျိုးဖြစ်၍ နောက်ပိုင်းကျမှ အခြားဒေသများသို့ ရောက်ရှိသွားခြင်းဖြစ်၏။ သဘာဝ အားဖြင့် ထူးဆန်းသော ငှက်တမျိုး ဖြစ်၍…'

ချက်ချင်း လိုလိုပင် ကောင်စစ်ဝန်သည် စာဖတ်နေရာမှ ရပ်သွားသည်။

ခေါင်းအုံးပေါ်တွင် ခေါင်းတင်၍ အထက်သို့ စောင်းအိပ်နေသော နီကိုလတ်စ်၏ မျက်လုံးများသည် သူ့အိပ်ရာဘေးရှိ စားပွဲပေါ်မှ အမျိုးသမီး၏ ဓာတ်ပုံဆီသို့ ငေးစိုက်လျက် ရှိလေသည်။ သူ့မိခင်ဟုဆိုသော ဤ အမျိုးသမီး၏ ထူးခြား၍ ချစ်စရာကောင်းသော မျက်နှာ…။ သူ့ခေါင်းကို လက်နှစ်ဘက်ဖြင့် ထွေးပိုက်ကာ ရင်ခွင်တွင်းသို့သွားထားမည့် အမျိုးသမီး။

နီကိုလတ်စ်သည် သူ ဖတ်ပြနေသည့် အကြောင်းအရာ ပေါ်တွင် စိတ်ဝင်စားသည့်ဟန် မပြ။ တကယ်တော့ သူ ဖတ်နေသမျှကို နားထောင် နေသည် မဟုတ်…။ လုံးဝ နားထောင်ခြင်း မရှိ…။ လုံးဝ… လုံးဝ နားထောင်ခြင်း မရှိပါ တကား…။

**ပြီးပါပြီ။ ။**

http://www.shwezinu.com/



# THE Spanish Gardener



by

A.J. CRONIN

Author of THE GREEN YEARS